အိမ်တိုင်းရှိရမည့် စာအုပ်၊
လူတိုင်းသိရမည့် အချက်များ
သတင်းခေတ်၊ ပညာခေတ်မှာ
လွယ်ကူစွာ ဖတ်ရှုလေ့လာနိုင်အောင်
စုဆောင်းထားသည့် သိမှတ်ဖွယ်ရာ
ဗဟုသုတအဖြာဖြာ စာအုပ်။



အဖုံး - ဇေယျဝင်း

# သိမှတ်ဖွယ်ရာဗဟုသုတ အဖြာဖြာ (၂၀၁၇)





ပြန်ကြားရေးနှင့်ပြည်သူ့ဆက်ဆံရေးဦးစီးဌာန၊ စာတည်းအဖွဲ့
စုဆောင်းပြုစုသည်။

## ပုံနှိပ်မှတ်တမ်း

**ထုတ်ဝေသူ** - ဦးကျော်ဇင်စိုး (၀၁၇၉၄)၊ ပြန်ကြားရေးနှင့် ပြည်သူ့ ဆက်ဆံရေးဦးစီးဌာန၊ အထွေထွေ စီးပွားရေးသမဝါယမအသင်း
အမှတ် (၂၂၈)၊ သိမ်ဖြူလမ်း၊
ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။

**ပုံနှိပ်သူ** - ဦးမြင့်ဦး၊ သိန်းသန်းဦးပုံနှိပ်တိုက်၊ ၃၄ လမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။

**မျက်နှာဖုံးဒီဇိုင်း** - သက်ခိုင်ဝင်း

**အုပ်ရေ** - ၆၀၀၀

**ပုံနှိပ်ခြင်း** - ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ

**ထုတ်ဝေသည့်အကြိမ်** - ပထမအကြိမ်

၀၀၁

ပြန်ကြားရေးနှင့်ပြည်သူ့ဆက်ဆံရေးဦးစီးဌာန၊ စာတည်းအဖွဲ့

သိမှတ်ဖွယ်ရာ ဗဟုသုတအဖြာဖြာ (၂၀၁၇) / ပြန်ကြားရေးနှင့်ပြည်သူ့ ဆက်ဆံရေးဦးစီးဌာန၊ စာတည်းအဖွဲ့။ - ရန်ကုန်၊
ပြန်ကြားရေးနှင့်ပြည်သူ့ဆက်ဆံရေးဦးစီးဌာန၊ အထွေထွေစီးပွားရေး သမဝါယမအသင်း၊ ၂၀၁၇
၆၂၃ - စာ ၊ ၁၃ စင်တီ × ၂၀ စင်တီ။
(၁) သိမှတ်ဖွယ်ရာ ဗဟုသုတအဖြာဖြာ (၂၀၁၇)

## မာတိကာ

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| - | ၂၀၁၆ ခုနှစ် မြန်မာ-အိန္ဒိယ ဆက်ဆံရေး | ၁၉၅ |
| - | ၂၀၁၆ ခုနှစ် မြန်မာ-ဂျပန် ဆက်ဆံရေး | ၁၉၆ |
| - | ၂၀၁၆ ခုနှစ် မြန်မာ-ဥရောပနိုင်ငံများဆက်ဆံရေး | ၁၉၈ |
| - | ၂၀၁၆ ခုနှစ် မြန်မာ-အာဆီယံနိုင်ငံများဆက်ဆံရေး | ၂၀၀ |
| - | ၂၀၁၆ ခုနှစ် မြန်မာ-ဗြိတိန်ဆက်ဆံရေး | ၂၀၄ |
| - | ၂၀၁၆ ခုနှစ် မြန်မာ-သီရိလင်္ကာဆက်ဆံရေး | ၂၀၅ |
| - | ၂၀၁၆ ခုနှစ် မြန်မာ-ကိုရီးယားဆက်ဆံရေး | ၂၀၅ |
| - | ၂၀၁၆ ခုနှစ် မြန်မာ-ဘင်္ဂလားဒေ့ရှ်ဆက်ဆံရေး | ၂၀၆ |
| - | ၂၀၁၆ ခုနှစ် မြန်မာ-ဆော်ဒီအာရေဗျဆက်ဆံရေး | ၂၀၆ |
| - | ၂၀၁၆ ခုနှစ် မြန်မာ-မွန်ဂိုလီးယားဆက်ဆံရေး | ၂၀၆ |
| - | ၂၀၁၆ ခုနှစ် မြန်မာ-အီဂျစ်ဆက်ဆံရေး | ၂၀၆ |
| - | ၂၀၁၆ ခုနှစ် မြန်မာ-တူရကီဆက်ဆံရေး | ၂၀၇ |
| - | ၂၀၁၆ ခုနှစ် မြန်မာ-ပြည်ပအဖွဲ့အစည်းများဆက်ဆံရေး | ၂၀၇ |
| - | မြန်မာနိုင်ငံ အစိုးရအဆက်ဆက်တွင် လွတ်ငြိမ်းချမ်းသာခွင့် ပေးခဲ့သည့် ဖြစ်စဉ်များ | ၂၀၉ |
| - | ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရလက်ထက်တွင် လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့သော ဖြစ်စဉ်များ | ၂၁၄ |
| - | ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရသစ်လက်ထက် တွင် လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့သော ဖြစ်စဉ်များ | ၂၁၉ |
| - | ငြိမ်းချမ်းရေးဆွေးနွေးမှု အခြေအနေများ (၂၀၁၆ -၂၀၁၇) | ၂၂၀ |
| - | ၂၀၁၀ ပြည့်နှစ် ပါတီစုံဒီမိုကရေစီ အထွေထွေရွေးကောက်ပွဲ တွင် ပါဝင်ယှဉ်ပြိုင်သည့် နိုင်ငံရေးပါတီများနှင့် ရွေးချယ်ခံရမှု | ၂၄၇ |
| - | ၂၀၁၅ ပါတီစုံ အထွေထွေရွေးကောက်ပွဲတွင် ပါဝင်ယှဉ်ပြိုင်သည့် နိုင်ငံရေးပါတီနှင့် ရွေးချယ်ခံရမှု အခြေအနေ | ၂၅၁ |
| - | ပထမအကြိမ် ပြည်ထောင်စုလွှတ်တော်၊ ပြည်သူ့လွှတ်တော်၊ အမျိုးသားလွှတ်တော်ပုံမှန် အစည်းအဝေး | ၂၅၃ |
| - | ပထမအကြိမ် ပြည်ထောင်စုလွှတ်တော်၊ ပြည်သူ့လွှတ်တော်၊ အမျိုးသားလွှတ်တော် ဒုတိယပုံမှန် အစည်းအဝေး | ၂၅၄ |

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
| --- | --- | --- |

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
| --- | --- | --- |

## အမှာစာ

စီးပွားရေးအရှိန်အဟုန်ဖြင့် ဖွံ့ဖြိုးတိုးတက်နေသော နိုင်ငံများတွင် နိုင်ငံသားများ၏ တွေးခေါ်မြော်မြင်ဉာဏ်ထက်မြက်မှု ပညာဗဟုသုတမြင့်မားမှုနှင့် အောင်မြင်စွာလုပ်ဆောင်နိုင်စွမ်းရည်ရှိမှုတို့အပေါ် အခြေခံထားကြသည်ကို တွေ့ရှိရသည်။

နိုင်ငံတစ်နိုင်ငံ၏ ဖွံ့ဖြိုးတိုးတက်ခြင်း၊ ဆုတ်ယုတ်ကျဆင်းခြင်းသည် နိုင်ငံ၏ သယံဇာတကြွယ်ဝခြင်း၊ နည်းပါးခြင်းနှင့် မသက်ဆိုင်ဘဲ ပြည်သူတို့၏ အသိဉာဏ်ရေချိန် မြင့်မားခြင်း၊ ဗဟုသုတကြွယ်ဝခြင်းတို့အပေါ်တွင်သာ တည်မှီပါသည်။ နိုင်ငံတစ်ခု၏ ချမ်းသာကြွယ်ဝခြင်းဟူသမျှတို့အနက် အသိဉာဏ်ပညာ ချမ်းသာကြွယ်ဝမှုသည် နိုင်ငံနှင့် လူမျိုးကို တိုးတက်မြင့်မားစေမည်ဖြစ်သကဲ့သို့ ဆင်းရဲမွဲတေခြင်းဟူသမျှတို့တွင်လည်း အသိဉာဏ်ဆင်းရဲမွဲတေခြင်း၊ ဗဟုသုတနည်းပါးခြင်းသည် နိုင်ငံနှင့် လူမျိုးကို ဆုတ်ယုတ်ပျက်စီးစေနိုင်ပါသည်။ သို့ဖြစ်ရာ နိုင်ငံသားများ၏ အသိဉာဏ်ဗဟုသုတ ကြွယ်ဝမှုများဖြင့်သာ နိုင်ငံတော်ကို တည်ဆောက်ကြရမည်ဖြစ်ပါသည်။

ပြန်ကြားရေးနှင့် ပြည်သူ့ဆက်ဆံရေးဦးစီးဌာနသည် ပြည်သူလူထု အသိဉာဏ်ဗဟုသုတပြည့်စုံစေရန်၊ မြန်မာ့လူငယ်လူလတ်များ ပညာစွမ်းရည်ပြည့်ဝစေရန်၊ ရာထူးဝင်ခွင့်စာမေးပွဲများ၊ သင်တန်းဝင်ခွင့်စာမေးပွဲများ ဖြေဆိုရာတွင် အထောက်အကူဖြစ်စေရန်နှင့် သိလိုသည့်အချက်များကို တစုတစည်းတည်း ရှာဖွေသိရှိနိုင်စေရန် ရည်ရွယ်ချက်တို့ဖြင့် သိမှတ်ဖွယ်ရာ ဗဟုသုတအဖြာဖြာစာအုပ်ကို ၂၀၀၈ ခုနှစ်မှစ၍ နှစ်စဉ်ထုတ်ဝေခဲ့ပါသည်။ ယခုစာအုပ်တွင် ယနေ့အချိန်ကာလနှင့် ကိုက်ညီသော အချက်အလက်များကို ဖြည့်စွက်ပြင်ဆင်ပြီး ထုတ်ဝေလိုက်ပါသည်။

ဤစာအုပ်တွင် မြန်မာနိုင်ငံ၏ သမိုင်းကြောင်းဖြစ်စဉ်များ၊ ပထဝီဆိုင်ရာ အချက်အလက်များ၊ နိုင်ငံတော်သမ္မတဦးထင်ကျော် ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်များနှင့် သဝဏ်လွှာကောက်နုတ်ချက်များ၊ နိုင်ငံတော်၏အတိုင်ပင်ခံပုဂ္ဂိုလ်

ဒေါ်အောင်ဆန်းစုကြည်ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်များနှင့် သဝဏ်လွှာကောက်နုတ်ချက်များ၊ အစိုးရဝန်ကြီးဌာနများ၊ ပြည်ထောင်စုအစိုးရအဖွဲ့၊ ပြည်ထောင်စုလွှတ်တော်မှ အတည်ပြုခန့်အပ်ခဲ့သည့် ရာထူးနေရာနှင့် ပုဂ္ဂိုလ်များ၊ တိုင်းဒေသကြီးလွှတ်တော်နှင့် ပြည်နယ်လွှတ်တော် အသီးသီး၌ ခန့်အပ်ထားသော လွှတ်တော်ဥက္ကဋ္ဌများ၊ တိုင်းဒေသကြီးနှင့် ပြည်နယ်အသီးသီး၌ ဖွဲ့စည်းထားသော ဝန်ကြီးဌာနများ၊ အစိုးရအဆက်ဆက်က လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့သည့် ဖြစ်စဉ်များ၊ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရသစ်လက်ထက် ငြိမ်းချမ်းရေးဆွေးနွေးမှုအခြေအနေများ၊ ကဏ္ဍအလိုက် ဖွံ့ဖြိုးတိုးတက်မှုများ စသည့် မြန်မာ့ရေးရာသိမှတ်ဖွယ်ရာများ၊ တပ်မတော်ဆိုင်ရာ သိမှတ်ဖွယ်ရာများ၊ မြန်မာနိုင်ငံ ရဲတပ်ဖွဲ့ဆိုင်ရာ သိမှတ်ဖွယ်ရာများ၊ ကမ္ဘာ့ကုလသမဂ္ဂ၊ ကမ္ဘာ့နိုင်ငံများအကြောင်း၊ နိုင်ငံတကာအဖွဲ့အစည်းများ စသည့် နိုင်ငံတကာသိမှတ်ဖွယ်ရာများ၊ ဘာသာရေးဆိုင်ရာ သိမှတ်ဖွယ်ရာများ၊ မြန်မာ့နေ့ထူးနေ့မြတ်များ၊ အပြည်ပြည်ဆိုင်ရာ အထိမ်းအမှတ်နေ့များ၊ အများပြည်သူဝန်ဆောင်မှုသတင်းမီဒီယာ၏ အခြေခံအချက်များ၊ စာနယ်ဇင်းကျင့်ဝတ်များ၊ မြန်မာနိုင်ငံမှ ကမ္ဘာ့အမွေအနှစ်စာရင်းဝင်ဒေသများ စသည့် အထွေထွေသိမှတ်ဖွယ်ရာများ၊ ကျန်းမာရေးဆိုင်ရာသိမှတ်ဖွယ်ရာများ၊ သံတမန်ဆိုင်ရာသိမှတ်ဖွယ်ရာများ၊ နိုင်ငံ့ဝန်ထမ်းလျှောက်ထားခြင်းဆိုင်ရာ သိမှတ်ဖွယ်ရာများ စသည်တို့ကို ဗဟုသုတဖြစ်ဖွယ် ဖော်ပြထားသည်။ လူတိုင်းသိထားသင့်သည်များကို စုစည်းထားသည့်အတွက် စာဖတ်သူများ အကျိုးရှိစေနိုင်သည့် စာအုပ်ကောင်းတစ်အုပ် ဖြစ်ပါသည်။

"စိတ်ကို အသိဉာဏ်က အုပ်စိုး၏။ အသိဉာဏ်ကို ဗဟုသုတက အုပ်စိုး၏။ ဗဟုသုတကို စာပေက အုပ်စိုး၏" ဆိုသည့်အတိုင်း အသိဉာဏ်ဗဟုသုတဖွံ့ဖြိုးခြင်းအတွက် သိမှတ်ဖွယ်ရာဗဟုသုတအဖြာဖြာစာအုပ်မှသည် သိသင့်သိထိုက်သော ဗဟုသုတများစွာကို ရရှိနိုင်မည်ဖြစ်ပါသည်။ ထို့ကြောင့် ဗဟုသုတရှာမှီးလိုသူများ၊ ရာထူးဝင်စာမေးပွဲ ဖြေဆိုကြမည့်သူများ၊ ဆရာ၊ ဆရာမများ၊ ကျောင်းသား၊ ကျောင်းသူများ လက်ကိုင်ပြုထားရမည့်စာအုပ် ဖြစ်သည်။ အနာဂတ်နိုင်ငံတော်အတွက် လူချွန်လူကောင်းများ၊ ခေါင်းဆောင်ကောင်းများ၊ အသိပညာရှင်၊ အတတ်ပညာရှင်များ ပေါ်ထွန်းလာရေးအတွက် အထောက်အကူပြုမည်ဟု ယုံကြည်လျက် ထုတ်ဝေလိုက်ရပါသည်။

**စာတည်းအဖွဲ့**
**ပြန်ကြားရေးနှင့် ပြည်သူ့ဆက်ဆံရေးဦးစီးဌာန**

## မြန်မာနိုင်ငံ၏ သမိုင်းဖြစ်စဉ်

ဖြစ်ပေါ်ပြောင်းလဲခဲ့ရသော မြန်မာနိုင်ငံ၏ သမိုင်းဖြစ်စဉ်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| အေဒီ ၁ ရာစု | ... | ဗိဿနိုး၊ ဟန်လင်း၊ သရေခေတ္တရာဒေသများတွင် ပဒေသရာဇ် နိုင်ငံငယ်များကို 'ပျူ' လူမျိုးများက ထူထောင်ခဲ့ကြသည်။ |
| ၁၀၄၄ - ၁၂၉၇ | ... | ပုဂံခေတ်၊ အနော်ရထာမင်း(၁၀၄၄- ၁၀၇၇)က ပထမမြန်မာနိုင်ငံတော်ကို ထူထောင်သည်။ |
| ၁၅၅၂ - ၁၅၉၅ | ... | တောင်ငူခေတ်၊ ဘုရင့်နောင်မင်းတရားကြီး (၁၅၅၂-၁၅၈၁)က ဒုတိယမြန်မာနိုင်ငံတော်ကို ထူထောင်သည်။ |
| ၁၇၅၂ - ၁၈၈၅ | ... | ကုန်းဘောင်ခေတ်၊ အလောင်းမင်းတရားကြီး (၁၇၅၂-၁၇၆၀)က တတိယမြန်မာနိုင်ငံတော်ကို ထူထောင်သည်။ |
| ၁၈၂၄ - ၁၈၂၆ | ... | အင်္ဂလိပ်-မြန်မာ ပထမစစ်ပွဲဖြစ်ပွားသည်။ |
| ၁၈၅၂ - ၁၈၅၄ | ... | အင်္ဂလိပ်-မြန်မာ ဒုတိယစစ်ပွဲဖြစ်ပွားသည်။ |
| ၁၈၈၅ | ... | အင်္ဂလိပ်-မြန်မာ တတိယစစ်ပွဲဖြစ်ပွားပြီးနောက် ဗြိတိသျှကိုလိုနီနယ်ချဲ့လက်အောက်သို့မြန်မာ နိုင်ငံ ကျရောက်ခဲ့သည်။ |
| ၁၉၀၆ | ... | ဗုဒ္ဓဘာသာကလျာဏယုဝအသင်း (ဝိုင်အမ်ဘီအေ) ကို ထူထောင်ကာ အမျိုး၊ ဘာသာ၊ သာသနာ အတွက် ကြိုးပမ်းကြသည်။ ၁၉၁၈ ခုနှစ် ဒီဇင်ဘာ |

| | | |
|---|---|---|
| | | ၁၈ရက်၌ ဗြိတိသျှအစိုးရက ကရက်ဒေါက် စီမံကိန်းကို ထုတ်ပြန်သည်။ |
| ၁၆-၁၁-၁၉၁၉ | ... | မြန်မာ့ကုမ္မာရီအသင်းခေါ် မြန်မာအမျိုးသမီးသမဂ္ဂအသင်းကိုဖွဲ့စည်းသည်။ |
| ၁၉၂၀ အောက်တိုဘာ (၂၉-၃၁) | ... | ဗုဒ္ဓဘာသာကလျာဏယုဝအသင်းကြီး၏ အဋ္ဌမအကြိမ်ညီလာခံက မြန်မာပြည်လုံးဆိုင်ရာအသင်းချုပ်ကြီး (ဂျီစီဘီအေ) ဟူ၍ အမည်ပြောင်းသည်။ |
| ၁၉၂၀ ဒီဇင်ဘာ ၅ | ... | ရန်ကုန်တက္ကသိုလ် ပထမကျောင်းသားသပိတ်စတင်မှောက်သည်။ |
| ၁၉၃၀ မေ ၃၀ | ... | တို့ဗမာအစည်းအရုံး ထူထောင်သည်။ |
| ၁၉၃၀ ဒီဇင်ဘာ ၂၂ | ... | ဆရာစံဦးဆောင်သည့် တောင်သူလယ်သမားအရေးတော်ပုံ သာယာဝတီခရိုင်၊ ရေတိုက်ရွာမှ စတင်သည်။ |
| ၂၅-၂-၁၉၃၆ | ... | ရန်ကုန်တက္ကသိုလ် ဒုတိယကျောင်းသားသပိတ်မှောက်သည်။ |
| ၁၉၂၃ - ၁၉၃၇ | ... | ဒိုင်အာခီအုပ်ချုပ်ရေးကာလဖြစ်သည်။ |
| ၁-၄-၃၇ မှ ၁၀-၁၂-၄၂ | ... | ကိုးဆယ့်တစ်ဌာန အုပ်ချုပ်ရေးစနစ် ကျင့်သုံးချိန်ဖြစ်သည်။ |
| ၈-၁-၁၉၃၈ | ... | ချောက်ရေနံမြေသပိတ်စတင်သည်။ ၁၃၀၀ပြည့်အရေးတော်ပုံ ပေါ်ပေါက်သည်။ |
| ၂၇-၁၂-၁၉၄၁ | ... | ထိုင်းနိုင်ငံ၊ ဘန်ကောက်မြို့တွင် ဗမာ့လွတ်လပ်ရေးတပ်မတော် (ဘီအိုင်အေ) ဖွဲ့စည်းသည်။ |
| ၂၇-၇-၁၉၄၂ | ... | ဗမာ့လွတ်လပ်ရေးတပ်မတော်ကို ဗမာ့ကာကွယ်ရေး တပ်မတော် (ဘီဒီအေ) အဖြစ် ပြောင်းလဲဖွဲ့စည်းသည်။ |
| ၁-၈-၁၉၄၃ | ... | ဂျပန်တို့က အတုအယောင်လွတ်လပ်ရေးပေးသည်။ |
| ၂၇-၃-၁၉၄၅ | ... | ဖက်ဆစ်တော်လှန်ရေး စတင်ဆင်နွှဲသည်။ |
| ၁၉၄၅ - ၁၉၄၇ | ... | နယ်ချဲ့ဗြိတိသျှတို့၏ စစ်ကြိုဖြူအုပ်ချုပ်ရေးခေတ်ဖြစ်သည်။ |
| ၁၉၄၇ | ... | ဆိုရှယ်လစ်ပြန်လည်ထူထောင်ရေး စီမံကိန်းများချမှတ်သည်။ |

| | | |
|---|---|---|
| ၁၂-၂-၁၉၄၇ | ... | ပင်လုံသဘောတူညီချက်ကို ဗိုလ်ချုပ်အောင်ဆန်းနှင့် တိုင်းရင်းသားခေါင်းဆောင် ၂၂ ဦး လက်မှတ်ရေးထိုးသည်။ |
| ၄-၁-၁၉၄၈ | ... | မြန်မာနိုင်ငံလွတ်လပ်ရေးရရှိသည်။ |
| ၁၉၄၈ - ၁၉၅၀ | ... | ပါလီမန်ဒီမိုကရေစီစနစ်ကျင့်သုံးပြီး နိုင်ငံကို အုပ်ချုပ်သည်။ |
| ၁၉၅၈ - ၁၉၅၉ | ... | တပ်မတော်က အိမ်စောင့်အစိုးရအဖြစ် နိုင်ငံကို ထိန်းသိမ်းစောင့်ရှောက်သည်။ |
| ၂-၃-၁၉၆၂ | ... | တော်လှန်ရေးကောင်စီက နိုင်ငံတော် အာဏာကို ရယူသည်။ |
| ၃-၁-၁၉၇၄ | ... | ဖွဲ့စည်းပုံအခြေခံဥပဒေကို ဆန္ဒမဲပေးပိုင်ခွင့်ရှိသူများ၏ ၉၀ဒသမ၁၉ရာခိုင်နှုန်းဖြင့် အတည်ပြုပြဋ္ဌာန်းသည်။ |
| ၁၉၇၄ - ၁၉၈၈ | ... | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ၏ ဦးဆောင်မှုဖြင့် ခေတ်ပြောင်းတော်လှန်ရေး ဆင်နွှဲသည်။ ပြည်သူ့လွှတ်တော်နှင့် ပြည်သူ့ကောင်စီ အဆင့်ဆင့်ကို ဖွဲ့စည်းကာ ပြည်သူ့ကိုယ်စားလှယ်များက နိုင်ငံတော်၏ ဥပဒေပြုရေး၊ အုပ်ချုပ်ရေး၊ တရားစီရင်ရေးတာဝန်များကို ဆောင်ရွက်သည်။ |
| ၁၈-၉-၁၉၈၈ | ... | အထွေထွေမကျေနပ်မှုများကြောင့် ဆန္ဒပြမှုများ ဖြစ်ပွားသည်။ ပြည်တွင်းပြည်ပ အဖျက်အမှောင့်ပယောဂများ စွက်ဖက်မှုကြောင့် မင်းမဲ့စရိုက်များ လွှမ်းမိုးကာ တိုင်းဆူပြည်ဖျက်လုပ်ရပ်များ ကြီးစိုးလာသည်။ တရားဥပဒေစိုးမိုးမှုနှင့် ရပ်ရွာအေးချမ်းသာယာမှုပျက်သုဉ်းကာ ပြည်သူများ ကျီးလန့်စာစားအခြေအနေသို့ ဆိုက်ရောက်ခဲ့သဖြင့် တပ်မတော်က နိုင်ငံ့တာဝန်ကိုရယူပြီး နိုင်ငံတော်ကိုကာကွယ်စောင့်ရှောက်ခဲ့ရသည်။ |
| ၂၇-၅-၁၉၉၀ | ... | ပါတီစုံဒီမိုကရေစီရွေးကောက်ပွဲ ကျင်းပသည်။ |
| ၉-၁-၁၉၉၃ | ... | အမျိုးသားညီလာခံ စတင်ကျင်းပသည်။ |

| | | |
|---|---|---|
| ၃၀-၅-၁၉၉၆ | ... | အမျိုးသားညီလာခံကို ယာယီအားဖြင့် ဆိုင်းငံ့သည်။ |
| ၁၅-၁၁-၁၉၉၇ | ... | နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီကို ဖွဲ့စည်း၍ နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေး ဦးတည်ချက် (၁၂)ရပ် ချမှတ်ကာ အေးချမ်းသာယာပြီး ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်ကို ဆက်လက်တည်ဆောက်သည်။ |
| ၃၀-၈-၂၀၀၃ | ... | နိုင်ငံတော်ရှေ့ဆက်သွားမည့် မူဝါဒလမ်းစဉ်(၇)ရပ်ကို ကြေညာသည်။ |
| ၁၇-၅-၂၀၀၄ | ... | ၁၉၉၆ ခုနှစ်၌ ယာယီအားဖြင့်ဆိုင်းငံ့ထားခဲ့သော အမျိုးသားညီလာခံကို ပြန်လည် ကျင်းပသည်။ |
| ၃-၉-၂၀၀၇ | ... | အမျိုးသားညီလာခံ အောင်မြင်စွာ ကျင်းပပြီးစီးခဲ့သည်။ |
| ၁၀-၅-၂၀၀၈ | ... | ဖွဲ့စည်းပုံအခြေခံဥပဒေမူကြမ်းကို ပြည်လုံးကျွတ်ဆန္ဒခံယူပွဲ ကျင်းပသည်။ |
| ၂၉-၅-၂၀၀၈ | ... | နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီက ကြေညာချက်အမှတ် (၇/၂၈) ဖြင့် ဖွဲ့စည်းပုံအခြေခံဥပဒေကို အတည်ပြုပြဋ္ဌာန်းလိုက်ကြောင်း ကြေညာသည်။ |
| ၁၁-၃-၂၀၁၀ | ... | နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီက ကြေညာချက်အမှတ် (၁/၂၀၁၀)ဖြင့် ပြည်ထောင်စု ရွေးကောက်ပွဲကော်မရှင်ကို ဖွဲ့စည်းခဲ့သည်။ |
| ၇-၁၁-၂၀၁၀ | ... | ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် ၃၃၀ ရှိသည့်အနက် ၃၂၅ နယ်တွင်လည်းကောင်း၊ အမျိုးသားလွှတ်တော်မဲဆန္ဒနယ် ၃၃၀ ရှိသည့်အနက် ၁၆၈ နယ်တွင်လည်းကောင်း၊ တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော်မဲဆန္ဒနယ် (တိုင်းရင်းသားလူမျိုးမဲဆန္ဒနယ် ၂၉ ခုအပါအဝင်) ၆၇၃ နယ်ရှိသည့်အနက် ၆၆၁ နယ်တွင်လည်းကောင်း၊ ပါတီစုံဒီမိုကရေစီ ရွေးကောက်ပွဲများကို ကျင်းပခဲ့သည်။ |

၇-၁၂-၂၀၁၀ ... ဆန္ဒမဲပေးပိုင်ခွင့်ရှိသူ ဦးရေ ၂၉ သန်းကျော် (၂၉၀၂၁၆၀၈)ဦးရှိပြီး ပြည်သူ့လွှတ်တော်အတွက် ဆန္ဒမဲပေးသူဦးရေမှာ ၂၂ သန်းကျော် (၂၂၄၂၁၁၂၃) ဦးရှိကာ ဆန္ဒမဲပေးမှုရာခိုင်နှုန်းမှာ ၇၇ဒသမ၂၆ ရာခိုင်နှုန်း၊ အမျိုးသားလွှတ်တော်အတွက် ဆန္ဒမဲ ပေးသူဦးရေမှာ ၂၂သန်းကျော်(၂၂၂၈၃၄၆၅)ဦး ရှိကာ ဆန္ဒမဲပေးမှုရာခိုင်နှုန်းမှာ ၇၆ဒသမ၇၈ ရာခိုင်နှုန်း၊ တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော် (တိုင်းရင်းသားလူမျိုးအပါအဝင်) အတွက် ဆန္ဒမဲပေးပိုင်ခွင့်ရှိသူ ဦးရေ ၂၈သန်း ကျော် (၂၈၅၃၄၂၁၆)ဦးရှိပြီး ဆန္ဒမဲပေးသူဦးရေ မှာ ၂၁သန်းကျော်(၂၁၈၆၃၁၂၃)ဦးရှိကာ ဆန္ဒမဲ ပေးမှုရာခိုင်နှုန်းမှာ ၇၆ဒသမ၆၂ ရာခိုင်နှုန်းရှိ ကြောင်း ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်က ထုတ်ပြန်ကြေညာခဲ့သည်။

၃၁-၁-၂၀၁၁ ... နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေး ကောင်စီသည် ပထမအကြိမ် ပြည်သူ့လွှတ်တော် အစည်းအဝေး၊ ပထမအကြိမ် အမျိုးသားလွှတ် တော်အစည်းအဝေး၊ ပထမအကြိမ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်အစည်းအဝေးကို နေပြည်တော်၌ ကျင်းပခဲ့သည်။

၃၀-၃-၂၀၁၁ ... ပထမအကြိမ် ပြည်သူ့လွှတ်တော် အစည်းအဝေး၊ ပထမအကြိမ် အမျိုးသားလွှတ်တော်အစည်းအဝေး၊ ပထမအကြိမ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် လွှတ်တော်အစည်းအဝေးကို နေပြည်တော်၌ အောင်မြင်စွာ ကျင်းပပြီးစီးခဲ့သည်။

၃၀-၃-၂၀၁၁ ... နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ က ကြေညာချက်အမှတ် (၅/၂၀၁၁)ဖြင့် နိုင်ငံတော် အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီကို ဖျက်သိမ်းခဲ့သည်။

၁-၄-၂၀၁၁ . . . ပါတီစုံဒီမိုကရေစီခေတ် ပြည်ထောင်စုအစိုးအဖွဲ့ စတင်တာဝန်ထမ်းဆောင်သည်။

၁-၄-၂၀၁၂ . . . ကြားဖြတ်ရွေးကောက်ပွဲကို ကျင်းပခဲ့သည်။ အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ်ပါတီက ၄၂ ဒသမ ၅ ရာခိုင်နှုန်းဖြင့် အနိုင်ရရှိခဲ့သည်။

၈-၁၁-၂၀၁၅ . . . ဖွဲ့စည်းပုံအခြေခံဥပဒေအရ အစိုးရသစ်ဖွဲ့စည်းရေးအတွက် ဒုတိယအကြိမ် ပါတီစုံဒီမိုကရေစီ ရွေးကောက်ပွဲကို ကျင်းပခဲ့သည်။ အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ်ပါတီက လွှတ်တော်သုံးရပ် ကိုယ်စားလှယ်လောင်း ၁၁၅၀ နေရာအနက် ၈၈၆ နေရာတွင် ၇၇ ဒသမ ၀၄ ရာခိုင်နှုန်းဖြင့် အနိုင်ရရှိခဲ့သည်။

၁-၂-၂၀၁၆ . . . အနိုင်ရပါတီမှ ဒုတိယအကြိမ် လွှတ်တော်အစည်းအဝေး ခေါ်ယူကျင်းပသည်။

၁-၄-၂၀၁၆ . . . အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ်ပါတီ ဦးဆောင်သော အစိုးရအဖွဲ့ နိုင်ငံတော်တာဝန်ထမ်းဆောင်သည်။

၁-၄-၂၀၁၇ . . . ကြားဖြတ်ရွေးကောက်ပွဲကျင်းပသည်။

## ပထမမြန်မာနိုင်ငံတော်

၁။ အချိန်ကာလ - အေဒီ ၁၀၄၄ မှ ၁၀၇၇ အထိ

၂။ တည်ထောင်သူ - အနော်ရထာမင်း

## ဒုတိယမြန်မာနိုင်ငံတော်

၁။ အချိန်ကာလ - အေဒီ ၁၅၅၁ မှ ၁၅၈၁ အထိ

၂။ တည်ထောင်သူ - ဘုရင့်နောင်မင်း

## တတိယမြန်မာနိုင်ငံတော်

၁။ အချိန်ကာလ - အေဒီ ၁၇၅၂ မှ ၁၇၆၀ အထိ

၂။ တည်ထောင်သူ - အလောင်းမင်းတရား

## အင်္ဂလိပ် - မြန်မာ ပထမစစ်ပွဲ

၁။ ဘကြီးတော်မင်းတရားလက်ထက်
၂။ ၅-၃-၁၈၂၄ ရက်နေ့တွင် ဖြစ်ပွားသည်။
၃။ ရခိုင်နှင့်တနင်္သာရီနယ်မြေများဆုံးရှုံးခဲ့သည်။

## အင်္ဂလိပ် - မြန်မာ ဒုတိယစစ်ပွဲ

၁။ ပုဂံမင်းလက်ထက်
၂။ ၅-၄-၁၈၅၂ ရက်နေ့တွင် ဖြစ်ပွားသည်။
၃။ အောက်မြန်မာနိုင်ငံတစ်ခုလုံး အပါအဝင် အထက်မြန်မာနိုင်ငံ မြေထဲမြို့ အထိ ဆုံးရှုံးခဲ့သည်။

## အင်္ဂလိပ် - မြန်မာ တတိယစစ်ပွဲ

၁။ သီပေါမင်းလက်ထက်
၂။ ၁၁-၁၁-၁၈၈၅ ရက်နေ့တွင် ဖြစ်ပွားသည်။
၃။ မြန်မာတစ်နိုင်ငံလုံး အင်္ဂလိပ်လက်အောက်ရောက်ရှိ

## ရှေးခေတ် မြို့ပြနိုင်ငံများ

၁။ တကောင်းမြို့ပြနိုင်ငံ
၂။ ဗိဿနိုးမြို့ပြနိုင်ငံ
၃။ ဟန်လင်းမြို့ပြနိုင်ငံ
၄။ သရေခေတ္တရာမြို့ပြနိုင်ငံ
၅။ ဝေသာလီမြို့ပြနိုင်ငံ
၆။ သုဝဏ္ဏဘုမ္မိမြို့ပြနိုင်ငံ

## ရှေးခေတ်မြန်မာမင်းဆက်များ

| | | | |
|---|---|---|---|
| ၁။ | ပထမတကောင်းမင်းဆက် | = | ၃၃ ဆက် |
| ၂။ | ဒုတိယတကောင်းမင်းဆက် | = | ၁၇ ဆက် |
| ၃။ | သရေခေတ္တရာမင်းဆက် | = | ၂၇ ဆက် |
| ၄။ | ပုဂံမင်းဆက် | = | ၅၅ ဆက် |

| | | | | |
|---|---|---|---|---|
| ၅။ | ပင်းယမင်းဆက် | = | ၆ | ဆက် |
| ၆။ | စစ်ကိုင်းမင်းဆက် | = | ၇ | ဆက် |
| ၇။ | အင်းဝမင်းဆက် | = | ၁၇ | ဆက် |
| ၈။ | တောင်ငူမင်းဆက် | = | ၃၄ | ဆက် |
| ၉။ | ဟံသာဝတီမင်းဆက် | = | ၁၁ | ဆက် |
| ၁၀။ | ညောင်ရမ်းမင်းဆက် | = | ၁၀ | ဆက် |
| ၁၁။ | ကုန်းဘောင်မင်းဆက် | = | ၁၁ | ဆက် |

## အာဇာနည်ခေါင်းဆောင်ကြီးများ

၁။ ဗိုလ်ချုပ်အောင်ဆန်း
၂။ သခင်မြ
၃။ ဒီးဒုတ်ဦးဘချို
၄။ ဦးရာဇတ်
၅။ ဦးဘဝင်း
၆။ မန်းဘခိုင်
၇။ မိုင်းပွန်စော်ဘွားကြီး စဝ်စံထွန်း
၈။ ဦးအုန်းမောင်(အတွင်းဝန်)
၉။ ရဲဘော်ကိုထွေး (သက်တော်စောင့်)

## မြန်မာနိုင်ငံ၏ ခေတ်အဆက်ဆက်ဖွဲ့စည်းပုံအခြေခံဥပဒေများ

၁။ ၁၉၄၇ ခုနှစ်အခြေခံဥပဒေ
၂။ ၁၉၇၄ ခုနှစ်အခြေခံဥပဒေ
၃။ ၂၀၀၈ ခုနှစ်အခြေခံဥပဒေ

## မြန်မာ့လွတ်လပ်ရေးကာလတစ်လျှောက် ချုပ်ဆိုခဲ့သော စာချုပ်များ

### ကန္ဒီစာချုပ်

၁၉၄၅ခုနှစ် စက်တင်ဘာလ ၇ ရက်တွင် သီရိလင်္ကာနိုင်ငံ ကန္ဒီမြို့၌ ဗိုလ်ချုပ်အောင်ဆန်းနှင့် လော့ဒ်ဝူဝီမောင့်ဘက်တန်တို့ ချုပ်ဆိုခဲ့ကြသည့် စာချုပ်ဖြစ်သည်။

### အောင်ဆန်း-အက်တလီစာချုပ်

၁၉၄၇ခုနှစ် ဇန်နဝါရီလ ၂၇ ရက်တွင် အင်္ဂလန်နိုင်ငံ လန်ဒန်မြို့ အမှတ် (၁၀) ဒေါင်းနင်းလမ်းရှိ ဗြိတိသျှဝန်ကြီးချုပ် အိမ်တော်၌ ဗြိတိသျှဝန်ကြီးချုပ် မစ္စတာအက်တလီနှင့် ဗိုလ်ချုပ်အောင်ဆန်းတို့ လက်မှတ်ရေးထိုး ချုပ်ဆိုခဲ့သော စာချုပ်ဖြစ်သည်။

## ပင်လုံစာချုပ်

၁၉၄၇ခုနှစ် ဖေဖော်ဝါရီလ ၁၂ ရက်တွင် ရှမ်းပြည်နယ်တောင်ပိုင်း ပင်လုံမြို့၌ တိုင်းရင်းသားကိုယ်စားလှယ်များနှင့် ဗိုလ်ချုပ်အောင်ဆန်းတို့ တိုင်းရင်းသားလူမျိုးများအားလုံး သွေးစည်းညီညွတ်ခြင်း အထိမ်းအမှတ်အဖြစ် ချုပ်ဆိုခဲ့သော စာချုပ်ဖြစ်သည်။

## လက်ျာ-ဖရီးမင်းစာချုပ်

၁၉၄၇ခုနှစ် ဩဂုတ်လ ၂၇ ရက်တွင် တပ်မတော် အနာဂတ်ရေးအတွက် ဗမာ့တပ်မတော် ကာကွယ်ရေးဝန်ကြီး ဗိုလ်လက်ျာနှင့် ဗြိတိသျှတို့ဘက်မှ မစ္စတာ ဖရီးမင်းတို့ ချုပ်ဆိုခဲ့သော စာချုပ်ဖြစ်သည်။

## နု-အက်တလီစာချုပ်

၁၉၄၇ ခုနှစ် အောက်တိုဘာလ ၁၇ ရက်တွင် အင်္ဂလန်နိုင်ငံ လန်ဒန်မြို့၌ ဗြိတိသျှဝန်ကြီးချုပ် မစ္စတာအက်တလီနှင့် ဝန်ကြီးချုပ် ဦးနုတို့ လက်မှတ်ရေးထိုးချုပ်ဆိုခဲ့သော စာချုပ်ဖြစ်သည်။

### ပင်လုံစာချုပ် ချုပ်ဆိုရာတွင် ပါဝင်ကြသူများ

| | | |
|---|---|---|
| ၁။ ဗိုလ်ချုပ်အောင်ဆန်း | - | မြန်မာအစိုးရကိုယ်စားလှယ် |
| ၂။ စဝ်ခွန်ပန်းစိန် | - | တောင်ပိုင်းစော်ဘွား |
| ၃။ စဝ်ရွှေသိုက် | - | ညောင်ရွှေစော်ဘွား |
| ၄။ စဝ်ဟုံဖ | - | မြောက်ပိုင်းသိန္နီစော်ဘွား |
| ၅။ စဝ်နွံ | - | လဲချားစော်ဘွား |
| ၆။ စဝ်စံထွန်း | - | မိုင်းပွန်စော်ဘွား |
| ၇။ စဝ်ထွန်းအေး | - | သာမိုင်းခမ်းစော်ဘွား |
| ၈။ ဦးခွန်ဖုန်း | - | လူထုကိုယ်စားလှယ် (မြောက်ပိုင်း) |
| ၉။ ဦးတင်ဧ | - | လူထုကိုယ်စားလှယ် (တောင်ကြီး) |
| ၁၀။ ဦးကြာပု | - | လူထုကိုယ်စားလှယ် (သီပေါ) |
| ၁၁။ စဝ်ယိပ်ဖ | - | လူထုကိုယ်စားလှယ် (သီပေါ) |
| ၁၂။ ဦးခွန်ထီး | - | လူထုကိုယ်စားလှယ် (ပင်လုံ) |
| ၁၃။ ဦးထွန်းမြင့် | - | လူထုကိုယ်စားလှယ် (မောက်မယ်) |
| ၁၄။ ဦးခွန်စော | - | လူထုကိုယ်စားလှယ် (ပင်းတယ) |

၁၅။ ဦးဖြူ - ဆီဆိုင်စော်ဘွားကိုယ်စားလှယ်
၁၆။ ဆမား ဒူးဝါးဆင်ဝါးနောင် - ကချင်ကိုယ်စားလှယ် (မြစ်ကြီးနား)
၁၇။ ဒူးဝါးဇော်ရစ် - ကချင်ကိုယ်စားလှယ် (မြစ်ကြီးနား)
၁၈။ ဦးဒိန်ရတန် - ကချင်ကိုယ်စားလှယ် (မြစ်ကြီးနား)
၁၉။ ဒူးဝါးဇော်ထွန်း - ကချင်ကိုယ်စားလှယ် (ဗန်းမော်)
၂၀။ ဦးလဘန်ဂရောင် - ကချင်ကိုယ်စားလှယ် (ဗန်းမော်)
၂၁။ ဦးလှသာမှုန်း - ချင်းကိုယ်စားလှယ် (ဖလမ်း)
၂၂။ ဦးသောင်ဇာခုပ် - ချင်းကိုယ်စားလှယ် (တီးတိန်)
၂၃။ ဦးကွယ်မန်း - ချင်းကိုယ်စားလှယ် (ဟားခါး)

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေကို အတည်ပြုပြဋ္ဌာန်း

၁။ ပြည်ထောင်စုမြန်မာနိုင်ငံတော် ပြည်လုံးကျွတ်ဆန္ဒခံယူပွဲ ကျင်းပရေးကော်မရှင်သည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ဖွဲ့စည်းပုံ အခြေခံဥပဒေမူကြမ်းအတည်ပြုရေးနှင့်စပ်လျဉ်း၍ ပြည်သူတို့၏ သဘောထားတောင်းခံသည့် ပြည်လုံးကျွတ်ဆန္ဒခံယူပွဲများကို ၂၀၀၈ ခုနှစ်၊ မေလ (၁၀)ရက်နှင့် (၂၄)ရက်နေ့တို့တွင် အောင်မြင်စွာ ကျင်းပပြီးစီးကြောင်းနှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော် တစ်ဝန်းလုံးမှ ဆန္ဒမဲ ပေးခွင့်ရှိသူ (၂၇၂၈၈၈၂၇)ဦးအနက် (၉၈. ၁၂) ရာခိုင်နှုန်းက ဆန္ဒမဲ ပေးခဲ့ကြပြီး ယင်းသို့ ဆန္ဒမဲပေးသူများအနက် (၉၂. ၄၈) ရာခိုင်နှုန်းက ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေမူကြမ်းကို အတည်ပြုရန်နှင့် ဥပဒေနှင့်အညီ ထောက်ခံကြောင်း အစီရင်ခံထားပါသည်။

၂။ ထို့ကြောင့် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံ ဥပဒေကို ပြည်လုံးကျွတ်ဆန္ဒခံယူပွဲကြီးက အတည်ပြုပြဋ္ဌာန်းလိုက်ကြောင်း ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီက ကြေညာချက်အမှတ် (၇/၂၀၀၈)ဖြင့် ၂၀၀၈ခုနှစ်၊ မေလ ၂၉ ရက်တွင် ထုတ်ပြန်ကြေညာခဲ့သည်။

## ပြည်ထောင်စုမြန်မာနိုင်ငံတော်အလံနှင့် အလံ၏ အဓိပ္ပာယ်

၂၀၁၀ ပြည့်နှစ် အောက်တိုဘာ ၂၁ ရက်တွင် နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီက မြန်မာနိုင်ငံတော်အလံကို ပြောင်းလဲခဲ့သည်။ နိုင်ငံတော်အလံသစ်မှာ ထောင့်မှန်စတုဂံဖြစ်ပြီး အလျား ၉ ပေ၊ အနံ ၆ ပေရှိသည်။ အောက်ခံအရောင်မှာ အဝါရောင်၊ အစိမ်းရောင်နှင့် အနီရောင်တို့ ဖြစ်သည်။ အဝါရောင်၊ အစိမ်းရောင်နှင့်အနီရောင်တို့မှာ အလံတော်၏ အနံဖြစ်သော ၆ ပေကို သုံးပုံတစ်ပုံစီ အညီအမျှရှိသည်။ အဝါရောင်၊ အစိမ်းရောင်နှင့်အနီရောင် အောက်ခံပေါ်တွင် ရောင်ခြည်လက်တံ ငါးခုပါသော ကြယ်ဖြူကြီးတစ်လုံးရှိသည်။

အလံတော်ရှိ အဝါရောင်သည် စည်းလုံးခြင်း၊ ညီညွတ်ခြင်း၊ ဉာဏ်ပညာကြီးမားခြင်း၊ ပျော်ရွှင်ခြင်းနှင့် တိုင်းရင်းသားအားလုံး ချစ်ခင်ရင်းနှီးစွာ စည်းလုံးညီညွတ်မှုရှိခြင်းဟူသော အဓိပ္ပာယ်ကိုဆောင်ပါသည်။

အလံတော်ရှိ အစိမ်းရောင်သည် မြေဆီသြဇာကြွယ်ဝခြင်း၊ ညီညွတ်မျှတခြင်းနှင့် အေးချမ်းသာယာ၍ စိမ်းလန်းစိုပြည်သည့် နိုင်ငံဖြစ်ခြင်းဟူသော အဓိပ္ပာယ်ကို ဆောင်ပါသည်။

အလံတော်ရှိ အနီရောင်သည် ရဲရင့်ခြင်းနှင့် ပြတ်သားခြင်းဟူသော အဓိပ္ပာယ်ကို ဆောင်ပါသည်။

ကြယ်၏ အရောင်ဖြစ်သော အဖြူရောင်သည် သန့်ရှင်းစင်ကြယ်ခြင်း၊ ဖြောင့်မတ်မှန်ကန်ခြင်း၊ ကရုဏာတရားပြည့်ဝခြင်းနှင့် စွမ်းအင်နှင့် ပြည့်စုံခြင်းဟူသော အဓိပ္ပာယ်ကိုဆောင်ပါသည်။

နိုင်ငံတော်အလံသစ်ကို ၂၀၁၀ ပြည့်နှစ် အောက်တိုဘာ ၂၁ ရက် ညနေပိုင်းမှစတင်၍ တစ်နိုင်ငံလုံးရှိ အစိုးရရုံးများနှင့် ကျောင်းများတွင် စတင်လွှင့်ထူခဲ့သည်။

## နိုင်ငံတော်အထိမ်းအမှတ်တံဆိပ်ပါ အမှတ်အသားများ

နိုင်ငံတော်အထိမ်းအမှတ်တံဆိပ်ပါ အမှတ်အသားများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) နိုင်ငံတော်အထိမ်းအမှတ်တံဆိပ်၏ အလယ်တွင် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် မြေပုံပါရှိသည်။ အရွက် ၁၄ ရွက်စီပါဝင်သော သပြေခက်များသည် မြေပုံ၏တစ်ဖက်တစ်ချက်စီတွင် ပါရှိသည်။

( ခ ) သပြေခက်များ၏ တစ်ဖက်တစ်ချက်တွင် အနုပညာမြောက် မြန်မာ ခြင်္သေ့တစ်စီးစီရှိသည်။ လက်ဝဲဘက်မှ ခြင်္သေ့သည် လက်ဝဲဘက်သို့ လည်းကောင်း၊ လက်ယာဘက်မှခြင်္သေ့သည် လက်ယာဘက်သို့ လည်းကောင်း မျက်နှာမူလျက်ရှိသည်။

( ဂ ) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဟူသော စာတန်းကို နိုင်ငံတော် အထိမ်းအမှတ်တံဆိပ် အောက်ခြေဖဲပြားပေါ်တွင် ဖော်ပြထားသည်။ ပြည်ထောင်စုဟူသော စာတန်းကို လက်ဝဲဘက်ရှိ ခြင်္သေ့အောက်တွင် လည်းကောင်း၊ သမ္မတဟူသော စာတန်းကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် မြေပုံအောက်ရှိ အလယ်ဗဟိုတွင်လည်းကောင်း မြန်မာနိုင်ငံတော်ဟူသော စာတန်းကို လက်ယာဘက်ရှိ ခြင်္သေ့ အောက်တွင်လည်းကောင်းထားရှိသည်။

(ဃ) နိုင်ငံတော်အထိမ်းအမှတ်တံဆိပ်၏ထိပ်တွင် ကြယ်လက်တံငါးခု ရှိသော ကြယ်တစ်လုံးသည် အထက်သို့ မတ်မတ်ညွှန်းလျက်ရှိသည်။

( င ) ကြယ်၏ တစ်ဖက်တစ်ချက်တွင် မြန်မာ့ပန်းပုံသဏ္ဌာန်ပန်းခက်ပြား ရှိသည်။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် သမ္မတအဖြစ် တာဝန်ထမ်းဆောင်ခဲ့သည့် ပုဂ္ဂိုလ်များ

| စဉ် | အမည် | မွေး-ဆုံး | ကာလ | ကိုယ်စားပြုနိုင်ငံရေးပါတီ |
|---|---|---|---|---|
| ၁။ | စဝ်ရွှေသိုက် | ၁၈၉၆-၁၉၆၂ | ၄-၁-၁၉၄၈ မှ ၁၆-၃-၁၉၅၂ ထိ | ဖက်ဆစ်ဆန့်ကျင်ရေးနှင့် ပြည်သူ့လွတ်မြောက်ရေးအဖွဲ့ချုပ် |
| ၂။ | ဒေါက်တာဘဦး | ၁၈၈၇-၁၉၆၃ | ၁၆-၃-၁၉၅၂ မှ ၁၃-၃-၁၉၅၇ ထိ | ဖက်ဆစ်ဆန့်ကျင်ရေးနှင့် ပြည်သူ့လွတ်မြောက်ရေးအဖွဲ့ချုပ် |
| ၃။ | မန်းဝင်းမောင် | ၁၉၁၆-၁၉၈၉ | ၁၃-၃-၁၉၅၇ မှ ၂-၃-၁၉၆၂ ထိ | ဖက်ဆစ်ဆန့်ကျင်ရေးနှင့် ပြည်သူ့လွတ်မြောက်ရေးအဖွဲ့ချုပ် |
| ဗိုလ်ချုပ်ကြီးဦးနေဝင်း ဦးဆောင်သည့် တော်လှန်ရေးကောင်စီသည် ၂-၃-၁၉၆၂ မှ ၂-၃-၁၉၇၄ ရက်အထိ တပ်မတော်အစိုးရဖြင့် အုပ်ချုပ်ခဲ့ပါသည်။ | | | | |
| ၄။ | ဦးနေဝင်း | ၁၉၁၀-၂၀၀၂ | ၂-၃-၁၉၆၂ မှ ၉-၁၁-၁၉၈၁ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၅။ | ဦးစန်းယု | ၁၉၁၈-၁၉၉၆ | ၉-၁၁-၁၉၈၁ မှ ၂၅-၇-၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |

| စဉ် | အမည် | မွေး-ဆုံး | ကာလ | ကိုယ်စားပြုနိုင်ငံရေးပါတီ |
|---|---|---|---|---|
| ၆။ | ဦးစိန်လွင် | ၁၉၂၄-၂၀၀၄ | ၂၅-၇-၁၉၈၈ မှ ၁၂-၈-၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| **ဦးအေးကို(ယာယီသမ္မတ) သည် ၁၂-၈-၁၉၈၈ မှ ၁၉-၈-၁၉၈၈ ရက်အထိ နိုင်ငံတော်သမ္မတရာထူးကို ခေတ္တတာဝန်ထမ်းဆောင်ခဲ့ပါသည်။** | | | | |
| ၇။ | ဒေါက်တာမောင်မောင် | ၁၉၂၅-၁၉၉၄ | ၁၉-၈-၁၉၈၈မှ ၁၈-၉-၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| **ဗိုလ်ချုပ်မှူးကြီးစောမောင်ဦးဆောင်သည့် နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့သည် ၁၈-၉-၁၉၈၈ မှ ၂၃-၄-၁၉၉၂ အထိ တပ်မတော်အစိုးရဖြင့်လည်းကောင်း၊ ဗိုလ်ချုပ်မှူးကြီးသန်းရွှေသည် ၂၃-၄-၁၉၉၂ မှ ၁၅-၁၁-၁၉၉၇ အထိ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ (တပ်မတော်အစိုးရ)ဖြင့်လည်းကောင်း၊ ၁၅-၁၁-၁၉၉၇ မှ ၃၀-၃-၂၀၁၁ အထိ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ (တပ်မတော်အစိုးရ)ဖြင့်လည်းကောင်း အသီးသီးအုပ်ချုပ်ခဲ့ပါသည်။** | | | | |
| ၈။ | ဦးသိန်းစိန် | ၁၉၄၅- | ၃၀-၃-၂၀၁၁ မှ ၃၀-၃-၂၀၁၆ | ပြည်ထောင်စုကြံ့ခိုင်ရေးနှင့် ဖွံ့ဖြိုးရေးပါတီ |
| ၉။ | ဦးထင်ကျော် | ၁၉၄၆- | ၃၀-၃-၂၀၁၆မှ ယနေ့အထိ | အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ် |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဝန်ကြီးချုပ်အဖြစ် တာဝန်ထမ်းဆောင်ခဲ့သည့် ပုဂ္ဂိုလ်များ

| စဉ် | အမည် | မွေး-ဆုံး | ကာလ | ကိုယ်စားပြုနိုင်ငံရေးပါတီ |
|---|---|---|---|---|
| ၁။ | ဦးနု (ပထမအကြိမ်) | ၁၉၀၇-၁၉၉၅ | ၄-၁-၁၉၄၈ မှ ၁၂-၆-၁၉၅၆ ထိ | ဖက်ဆစ်ဆန့်ကျင်ရေးနှင့် ပြည်သူ့လွတ်မြောက်ရေးအဖွဲ့ချုပ် |
| ၂။ | ဦးဗဆွေ | ၁၉၁၅-၁၉၈၇ | ၁၂-၆-၁၉၅၆ မှ ၁-၃-၁၉၅၇ ထိ | ဖက်ဆစ်ဆန့်ကျင်ရေးနှင့် ပြည်သူ့လွတ်မြောက်ရေးအဖွဲ့ချုပ် |
| ၃။ | ဦးနု (ဒုတိယအကြိမ်) | ၁၉၀၇-၁၉၉၅ | ၁-၃-၁၉၅၇ မှ ၂၉-၁၀-၁၉၅၈ ထိ | ဖက်ဆစ်ဆန့်ကျင်ရေးနှင့် ပြည်သူ့လွတ်မြောက်ရေးအဖွဲ့ချုပ် |
| ၄။ | ဦးနေဝင်း (ပထမအကြိမ်) | ၁၉၁၀-၂၀၀၂ | ၂၉-၁၀-၁၉၅၈ မှ ၄-၄-၁၉၆၀ ထိ | တပ်မတော် |
| ၅။ | ဦးနု (တတိယအကြိမ်) | ၁၉၀၇-၁၉၉၅ | ၄-၄-၁၉၆၀ မှ ၂-၃-၁၉၆၂ ထိ | ဖက်ဆစ်ဆန့်ကျင်ရေးနှင့် ပြည်သူ့လွတ်မြောက်ရေးအဖွဲ့ချုပ် |
| ၆။ | ဦးနေဝင်း (ဒုတိယအကြိမ်) | ၁၉၁၀-၂၀၀၂ | ၂-၃-၁၉၆၂ မှ ၄-၃-၁၉၇၄ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၇။ | ဦးစိန်ဝင်း | ၁၉၁၉-၁၉၉၃ | ၄-၃-၁၉၇၄ မှ ၂၉-၃-၁၉၇၇ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |

| စဉ် | အမည် | မွေး-ဆုံး | ကာလ | ကိုယ်စားပြုနိုင်ငံရေးပါတီ |
|---|---|---|---|---|
| ၈။ | ဦးမောင်မောင်ခ | ၁၉၂၀-၁၉၉၅ | ၂၉-၃-၁၉၇၇ မှ ၂၆-၇-၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၉။ | ဦးထွန်းတင် | ၁၉၃၀- | ၂၆-၇-၁၉၈၈ မှ ၁၈-၉-၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၁၀။ | ဗိုလ်ချုပ်မှူးကြီးစောမောင် | ၁၉၂၈-၁၉၉၇ | ၂၁-၉-၁၉၈၈မှ ၂၃-၄-၁၉၉၂ ထိ | တပ်မတော် (နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့) |
| ၁၁။ | ဗိုလ်ချုပ်မှူးကြီးသန်းရွှေ | ၁၉၃၃- | ၂၃-၄-၁၉၉၂ မှ ၂၅-၈-၂၀၀၃ ထိ | တပ်မတော် (နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့) |
| ၁၂။ | ဗိုလ်ချုပ်ကြီးခင်ညွန့် | ၁၉၃၉- | ၂၅-၈-၂၀၀၃ မှ ၁၈-၁၀-၂၀၀၄ ထိ | တပ်မတော် (နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့) |
| ၁၃။ | ဗိုလ်ချုပ်ကြီးစိုးဝင်း | ၁၉၄၉-၂၀၀၇ | ၁၉-၁၀-၂၀၀၄ မှ ၁၂-၁၀-၂၀၀၇ ထိ | တပ်မတော် (နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ) |
| ၁၄။ | ဗိုလ်ချုပ်ကြီး သိန်းစိန် | ၁၉၄၅- | ၁၂-၁၀-၂၀၀၇ ၂၉-၃-၂၀၁၁ | တပ်မတော် (နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ) |

# မြန်မာနိုင်ငံ၏ ပထဝီဆိုင်ရာ အချက်အလက်များ

## မြန်မာနိုင်ငံ၏တည်နေရာ

အာရှတိုက်အရှေ့တောင်ပိုင်းတွင် တည်ရှိပြီး မြောက်လတ္တီတွဒ် ၉ ဒီဂရီ ၃၂ မိနစ်မှ ၂၈ ဒီဂရီ ၃၁ မိနစ်အထိ၊ အရှေ့လောင်ဂျီတွဒ် ၉၂ ဒီဂရီ ၁၀ မိနစ်မှ ၁၀၁ ဒီဂရီ ၁၁ မိနစ်အတွင်း တည်ရှိသည်။

## အကျယ်အဝန်း

စတုရန်းမိုင်ပေါင်း ၂၆၁၂၂၈ မိုင် ကျယ်ဝန်းသည်။

## မြို့တော်

နေပြည်တော်

## အိမ်နီးချင်းနိုင်ငံများ

တရုတ်၊ လာအို၊ ထိုင်း၊ ဘင်္ဂလားဒေ့ရှ်နှင့် အိန္ဒိယနိုင်ငံတို့အကြားတွင် တည်ရှိသည်။

## အမြင့်ဆုံးတောင်ထွတ်

ခါကာဘိုရာဇီ၊ ပေပေါင်း ၁၉၂၉၆ မြင့်ပြီး ကချင်ပြည်နယ်၊ နောင်မွန်းမြို့ မြောက်ဘက်တွင် တည်ရှိသည်။

## တောင်တန်းများ

(က) ရခိုင်ရိုးမ
(ခ) တနင်္သာရီရိုးမ
(ဂ) ပဲခူးရိုးမ

## အဓိကဒေသကြီးများ

(က) အရှေ့ဘက်ကုန်းမြင့်ဒေသ
(ခ) အနောက်ဘက်တောင်တန်းကြီးများဒေသ
(ဂ) အလယ်ပိုင်းမြေနိမ့်မြစ်ဝှမ်းလွင်ပြင်ဒေသ
(ဃ) ရခိုင်ကမ်းရိုးတန်းမြေနိမ့်လွင်ပြင်ဒေသ

## ကမ်းရိုးတန်း

ကမ်းရိုးတန်းအရှည် = ၁၃၈၅ မိုင်

## မြန်မာ့ရေပိုင်နက်

(က) ပိုင်နက်နယ်မြေ = ၁၂ မိုင် (ရေမိုင်)
(ခ) ဆက်စပ်ဇုန် = ၂၄ မိုင် (ရေမိုင်)
(ဂ) သီးသန့်စီးပွားရေးဇုန် = ၂၀၀ မိုင် (ရေမိုင်)

## ထင်ရှားသောမြစ်ကြီးများ

(က) ဧရာဝတီမြစ် (၁၂၅၀ မိုင်)၊
(ခ) ချင်းတွင်းမြစ် (၇၁၇ မိုင်)၊
(ဂ) စစ်တောင်းမြစ် (၂၆၂ မိုင်)
(ဃ) သံလွင်မြစ် (၇၉၅ မိုင်)

## ဧရာဝတီမြစ်၏ မြစ်ခွဲများ (အဆိုပါမြစ်ခွဲများနှင့် ပင်လယ်အတွင်းသို့စီးဝင်)

(က) ငဝန်မြစ်(ခေါ်)ပုသိမ်မြစ်
(ခ) ရွေးမြစ်
(ဂ) ဖျာပုံမြစ်
(ဃ) သက်ကယ်သောင်မြစ်
(င) ပြန်မလော့မြစ်
(စ) ဘိုကလေးမြစ်
(ဆ) တိုးမြစ်
(ဇ) သံဒိမြစ်
(ဈ) ပြင်စလူမြစ်

## ဧရာဝတီမြစ်၏ မြစ်ကျဉ်း (၄) ခု

၁။ ပထမမြစ်ကျဉ်း - ဆင်ဘိုရွာ
၂။ ဒုတိယမြစ်ကျဉ်း - ဗန်းမော်၊ ရွှေဂူ
၃။ တတိယမြစ်ကျဉ်း - သပိတ်ကျဉ်း
၄။ စတုတ္ထမြစ်ကျဉ်း - ပြည်မြို့အထက်

## ချင်းတွင်းမြစ်၏ မြစ်လက်တက်များ

(က) မြစ်သာမြစ်
(ခ) ယူးမြစ်
(ဂ) ဥရုမြစ်

**စစ်တောင်းမြစ်၏ မြစ်လက်တက်များ**

(က) ခပေါင်းချောင်း
(ခ) ရွှေကျင်မြစ်
(ဂ) ရဲနွယ်ချောင်း
(ဃ) ငလိုက်ချောင်း
(င) ဆင်သေချောင်း
(စ) ရေဆင်းချောင်း
(ဆ) ပေါင်းလောင်းမြစ်
(ဇ) ဆွာချောင်း
(ဈ) ဖြူးချောင်း
(ည) ကွန်ချောင်း
(ဋ) ကနိချောင်း
(ဌ) ပသိချောင်း
(ဍ) ပြုံးချောင်း
(ဎ) ကျောက်ကြီးချောင်း
(ဏ) ကျွန်းပခုချောင်း

**သံလွင်မြစ်၏ မြစ်လက်တက်များ**

(က) သောင်ရင်းမြစ်
(ခ) ဟောင်သရောမြစ်
(ဂ) အတ္ထရံမြစ်

**တောင်ဘက်မှမြောက်ဘက်သို့စီးဆင်းသောမြစ်များ**

(က) သောင်ရင်းမြစ်
(ခ) ဂျိုင်းမြစ်
(ဂ) အတ္ထရံမြစ်
(ဃ) မြစ်သာမြစ်
(င) ဇော်ဂျီမြစ်
(စ) တနင်္သာရီမြစ်

**အရှေ့၊ အနောက်၊ တောင်၊ မြောက်တွင်ရှိသော မြစ်များ**

(က) အရှေ့ဘက်အကျဆုံးမြစ် = မဲခေါင်မြစ်
(ခ) အနောက်ဘက်အကျဆုံးမြစ် = နတ်မြစ်

(ဂ) တောင်ဘက်အကျဆုံးမြစ် = ပါချန်မြစ်
(ဃ) မြောက်ဘက်အကျဆုံးမြစ် = မေခနှင့်မလိခမြစ်

**ထင်ရှားသောအိုင်ကြီးများ**

(က) အင်းတော်ကြီးအိုင်(ကချင်ပြည်နယ်) = အကြီးဆုံးအိုင်
(ခ) အင်းလေးအိုင်(ရှမ်းပြည်နယ်) = ဒုတိယအကြီးဆုံးအိုင်

**တူးမြောင်းများ**

(က) ပဲခူး-စစ်တောင်းတူးမြောင်း - ၃၈မိုင်
(ပဲခူးမြစ်နှင့် စစ်တောင်းမြစ်ကိုဆက်)
(ခ) တွံတေးတူးမြောင်း - ၂၁ မိုင်
(ရန်ကုန်မြစ်နှင့် တိုးမြစ်ကိုဆက်)

**မြန်မာနိုင်ငံရှိ မီးပြတိုက်(၈)ခု**

၁။ စစ်တွေမီးပြတိုက်
၂။ မာန်အောင်မီးပြတိုက်
၃။ သံတွဲမီးပြတိုက်
၄။ ကျောက်ဖြူမီးပြတိုက်
၅။ ပုသိမ်မီးပြတိုက်
၆။ မြိတ်မီးပြတိုက်
၇။ သီလဝါမီးပြတိုက်
၈။ ကျိုက္ခမီမီးပြတိုက်

**အစွန်ဆုံးမြို့များ**

(က) မြောက်ဘက်အကျဆုံးမြို့ = ပန်နန်းဒင်
(ခ) တောင်ဘက်အကျဆုံးမြို့ = ကော့သောင်း
(ဂ) အရှေ့ဘက်အကျဆုံးမြို့ = မိုင်းယောင်း
(ဃ) အနောက်ဘက်အကျဆုံးမြို့ = မောင်တော

**အိမ်နီးချင်းနိုင်ငံများနှင့် နယ်နိမိတ်ထိစပ်မှုအကွာအဝေး**

(က) တရုတ်နိုင်ငံ ၂၂၂၆. ၈၅ ကီလိုမီတာ (၁၃၈၄) မိုင်
(ခ) လာအိုနိုင်ငံ ၂၃၄. ၉၁ ကီလိုမီတာ (၁၃၉) မိုင်
(ဂ) ထိုင်းနိုင်ငံ ၂၀၉၈. ၁၄ ကီလိုမီတာ (၁၃၀၄) မိုင်
(ဃ) ဘင်္ဂလားဒေ့ရှ် ၂၇၁. ၉၂ ကီလိုမီတာ (၁၆၉) မိုင်
(င) အိန္ဒိယနိုင်ငံ ၁၄၅၂. ၉၃ ကီလိုမီတာ (၉၀၃) မိုင်

**မြန်မာနိုင်ငံရှိ မီးတောင်သေဒေသများ**

(က) ပုပ္ပား
(ခ) ကောလင်း
(ဃ) ဝန်းသို
(င) မုံရွာ

**မြန်မာနိုင်ငံရှိ ကျွန်းစုကြီးများ**

(က) ရမ်းဗြဲကျွန်း (အကြီးဆုံး၊ ရခိုင်ပြည်နယ်)
(ခ) မြိတ်ကျွန်းစု
(ဂ) မာန်အောင်ကျွန်းစု
(ဃ) ကိုကိုးကျွန်းစု

**အကျယ်ဝန်းဆုံးတိုင်းဒေသကြီး၊ ပြည်နယ်**

(က) အကျယ်ဝန်းဆုံးတိုင်းဒေသကြီး = စစ်ကိုင်းတိုင်းဒေသကြီး
(ခ) အကျယ်ဝန်းဆုံးပြည်နယ် = ရှမ်းပြည်နယ်

**အကျဉ်းဆုံးတိုင်းဒေသကြီး၊ ပြည်နယ်**

(က) အကျဉ်းဆုံးတိုင်းဒေသကြီး = ရန်ကုန်တိုင်းဒေသကြီး
(ခ) အကျဉ်းဆုံးပြည်နယ် = ကယားပြည်နယ်

**လူဦးရေအများဆုံးတိုင်းဒေသကြီး၊ ပြည်နယ်**

(က) လူဦးရေအများဆုံးတိုင်းဒေသကြီး = ရန်ကုန်တိုင်းဒေသကြီး
(ခ) လူဦးရေအများဆုံးပြည်နယ် = ရှမ်းပြည်နယ်

**လူဦးရေအနည်းဆုံးတိုင်းဒေသကြီး၊ ပြည်နယ်**

(က) လူဦးရေအနည်းဆုံးတိုင်းဒေသကြီး = တနင်္သာရီတိုင်းဒေသကြီး
(ခ) လူဦးရေအနည်းဆုံးပြည်နယ် = ကယားပြည်နယ်

**မြန်မာ့အထူးစီးပွားရေးဇုန်များ**

(က) သီလဝါအထူးစီးပွားရေးဇုန်
(ခ) ထားဝယ်အထူးစီးပွားရေးဇုန်
(ဂ) ကျောက်ဖြူအထူးစီးပွားရေးဇုန်

**မြန်မာ့ရေနက်ဆိပ်ကမ်းကြီးများ**

(က) ထားဝယ်ရေနက်ဆိပ်ကမ်း
(ခ) ပုသိမ်ရေနက်ဆိပ်ကမ်း
(ဂ) ကျောက်ဖြူရေနက်ဆိပ်ကမ်း
(ဃ) ကုလားဂုတ်ရေနက်ဆိပ်ကမ်း
(င) ဘုတ်ပြင်းရေနက်ဆိပ်ကမ်း

## မြန်မာနိုင်ငံရှိ အပြည်ပြည်ဆိုင်ရာလေဆိပ်များ

(က) နေပြည်တော်အပြည်ပြည်ဆိုင်ရာလေဆိပ်
၆၆၀၃၄၇ စတုရန်းပေ
ပြေးလမ်း(အရှည်-၁၂၀၀၀×အကျယ်-၂၀၀×အထူ-၂. ၂)ပေ

(ခ) မန္တလေးအပြည်ပြည်ဆိုင်ရာလေဆိပ်
၄၆၇၆၁၈ စတုရန်းပေ
ပြေးလမ်း((အရှည်-၁၄၀၀၀×အကျယ်-၂၀၀×အထူ-၂. ၂)ပေ

(ဂ) ရန်ကုန်အပြည်ပြည်ဆိုင်ရာလေဆိပ်
၄၂၃၁၂၆ စတုရန်းပေ
ပြေးလမ်း(အရှည်-၁၁၂၀၀×အကျယ်-၂၀၀×အထူ-၂. ၃)ပေ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် (၁၁)ကြိမ်မြောက် အာရှ-ဥရောပ ထိပ်သီးအစည်းအဝေးမှ ပြောကြားသည့်မိန့်ခွန်းကောက်နုတ်ချက် (၁၆-၇-၂၀၁၆)

- (၁၁)ကြိမ်မြောက် အာရှ-ဥရောပထိပ်သီး အစည်းအဝေးသို့ အာရှဘက်မှ အာဆီယံအထွေထွေအတွင်းရေးမှူးချုပ် အပါ အဝင် ၂၁ ဦး၊ ဥရောပဘက်မှ ၃၁ ဦး ကိုယ်စားပြုတက်ရောက်ခဲ့ပါကြောင်း၊ ထိပ်သီးအစည်းအဝေး၏ ယမန်နေ့နှင့် ယနေ့တွင် မိမိတို့အနေဖြင့် အကျိုးရှိသော ဆွေးနွေးမှုများ ပြုလုပ်နိုင်ခဲ့ပါကြောင်း၊ နှစ်ရက်တာ ထိပ်သီးအစည်းအဝေးတွင် တရားဝင် ဆွေးနွေးပွဲများနှင့် တရားဝင် မသတ်မှတ်ထားသော ဆွေးနွေးပွဲများ ပါဝင် ပါကြောင်း။
- မျက်နှာစုံညီအစည်းအဝေးတွင် လွန်ခဲ့သော အနှစ် ၂၀ က မိမိတို့ အောင်မြင်မှုရရှိခဲ့သည်များကို ပြန်လည်သုံးသပ်ခဲ့ကြပြီး လာမည့် ၁၀ စုနှစ်တွင် မည်ကဲ့သို့ ရှေ့ဆက်သွားမည်ဆိုသည့် စိတ်ကူးအသစ်များကို ဆွေးနွေးခဲ့ပါကြောင်း၊ ASEM ၏ ပင်မဒေါက်တိုင် သုံးတိုင်ကို ပိုမိုအားအင်ရှိအောင် ပြုလုပ်သင့်သည်ဟု မိမိတို့အားလုံးခံစားမိခဲ့ကြပါကြောင်း။
- ဒေသကြီးနှစ်ခုအကြား ဆက်သွယ်ချိတ်ဆက်နေမှုကို ပိုမိုတိုးတက်ကောင်းမွန်အောင် မိမိတို့အာရုံစူးစိုက်ခဲ့ကြပါကြောင်း၊ ဆက်သွယ်ချိတ်ဆက်နေမှု (Connectivity) တွင် မတူကွဲပြားသော အမြင်များ ရှိကြပါကြောင်း၊ ထို့ကြောင့် ကဏ္ဍမျိုးစုံ၌ ရှိနေသည့် တင်းမာသော၊ ပျော့ပျောင်းသော ဆက်သွယ်ချိတ်ဆက်နေမှု နှစ်ခုစလုံးတွင် ပူးပေါင်းဆောင်ရွက်ရေးကို ဆွေးနွေးခဲ့ပါကြောင်း။
- ဒေသကြီးနှစ်ခုစလုံးအတွက် ဘုံအကျိုးစီးပွားနှင့် သက်ဆိုင်နေသော နယ်ပယ်များကို အမြင်ချင်းဖလှယ်ခဲ့ပါကြောင်း၊ ထို့အတူ ဒေသကြီးနှစ်ခုစလုံး ပူးပေါင်းဆောင်ရွက်ပြီး ဖြေရှင်းရမည့် ဒေသတွင်းနှင့် နိုင်ငံတကာကိစ္စရပ်များကိုလည်း အမြင်ချင်းဖလှယ်ခဲ့ကြပါကြောင်း၊ ယင်းတို့ထဲတွင် သမားရိုးကျမဟုတ်သော လုံခြုံရေးဆိုင်ရာ အခက်အခဲများ၊ အထူးသဖြင့် အစွန်းရောက်၊ အကြမ်းဖက်ဝါဒပေါ်ထွက်လာခြင်း၊ တရားဥပဒေစိုးမိုးမှု စဉ်ဆက်မပြတ် ဖွံ့ဖြိုးတိုးတက်ရေးအတွက် ၂၀၃၀ ပြည့်နှစ်အစီအစဉ်၊ အားလုံးပါဝင်သော ဖွံ့ဖြိုးမှု၊ ဆင်းရဲမွဲတေ

မှုလျှော့ချရေး၊ သဘာဝဘေးဖြစ်ပွားနိုင်မှုကို စီမံဆောင်ရွက်ခြင်းနှင့် လူငယ်ဖွံ့ဖြိုးတိုးတက်ရေးတို့ ပါဝင်ပါကြောင်း၊ မကြာမီက ဖြစ်ပွားခဲ့သော အကြမ်းဖက်မှုအတွက် ခေါင်းဆောင်များအနေဖြင့် ပြင်သစ်နိုင်ငံအစိုးရ ပြည်သူများနှင့် အထူးသဖြင့် အကြမ်းဖက်ခံရသူများ၏ မိသားစုများအတွက် ဝမ်းနည်းကြောင်း ဖော်ပြခဲ့ကြပြီး သူတို့အတွက် ခေါင်းဆောင်များအနေဖြင့် စည်းလုံးညီညွတ်စွာရှိနေပါသည်ဟု ဖော်ပြခဲ့ကြပါကြောင်း။

❒ သေချာသော ရလဒ်များရစေမည့် ပူးပေါင်းဆောင်ရွက်ရေးနယ်ပယ်ကို ဆွေးနွေးခဲ့ကြပါကြောင်း၊ ထိပ်သီးအစည်းအဝေးအပြင် အခြားနှစ်နိုင်ငံအကြား ဆွေးနွေးပွဲ အတော်များများရှိခဲ့ပါကြောင်း၊ တိုင်းပြည်များအနေဖြင့် မိမိတို့ပြည်သူများ၏ အကျိုးစီးပွားကို မြှင့်တင်နိုင်ရန်နှင့် အချုပ်အခြာအာဏာစိုးမိုးမှုအတွက် တူညီသောအမြင်များ၊ ခြားနားသောပန်းတိုင်များရှိသည်မှာ သဘာဝကျပါကြောင်း၊ သို့သော် ယင်းအချက်သည် အခက်အခဲတစ်ခု မဖြစ်စေဘဲ မိမိတို့အကြား ကွဲပြားခြားနားမှုများကို ဖြေရှင်းနိုင်ရန်အတွက် အခွင့်အလမ်းတစ်ခုသာ ဖြစ်သင့်ပါကြောင်း၊ အာရှ-ဥရောပလက်တွဲဆောင်ရွက်မှုမှတစ်ဆင့် မိမိတို့၏ ပူးပေါင်းဆောင်ရွက်မှုသည် ဥရောပတိုက်နှင့် အာရှတိုက် နှစ်ခုရှိ ပြည်သူများအတွက်သာမက ကမ္ဘာ့ပြည်သူများအတွက်ပါ အကျိုးရှိစေမည့်ဟု မျှော်လင့်ပါကြောင်း။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် ၂၀၁၆ ခုနှစ် အပြည်ပြည်ဆိုင်ရာ ဒီမိုကရေစီနေ့ အထိမ်းအမှတ် အခမ်းအနားသို့ ပေးပို့သော သဝဏ်လွှာမှ ကောက်နုတ်ချက် (၁၄-၉-၂၀၁၆)

- ❐ မြန်မာနိုင်ငံ၏ အနီးကပ်ဆုံးသမိုင်းကိုကြည့်လျှင် နိုင်ငံသူနိုင်ငံသားများအနေဖြင့် ဒီမိုကရေစီဆိတ်သုဉ်းသောဘဝကို ဆယ်စုနှစ်ပေါင်းများစွာ ဖြတ်သန်းကျင်လည်ခဲ့ရသည်ကို တွေ့ရှိရမည်ဖြစ်ပါကြောင်း၊ လွတ်လပ်မှု၊ တန်းတူညီမှု၊ တရားမျှတမှုများကင်းမဲ့သော အနေအထားများမှ လွတ်မြောက်ရန်အတွက် အများပြည်သူတို့ တောင်းဆိုခဲ့၊ လှုပ်ရှားဆောင်ရွက်ခဲ့ကြသဖြင့် ယခုအခါ ဒီမိုကရေစီလမ်းကြောင်းအစဉ်၌ အခြေချမိကြခြင်းဖြစ်ပါကြောင်း၊ သို့သော် ဒီမိုကရေစီ အမြစ်တွယ်အောင်၊ ခိုင်မာတောင့်တင်းအောင်နှင့် ရေရှည်တည်တံ့အောင်ကား နိုင်ငံသူနိုင်ငံသားများ ဝိုင်းဝန်း၍ ဆက်လက်ကြိုးပမ်းတည်ဆောက်ကြရဦးမည်ဖြစ်ပါကြောင်း။
- ❐ နိုင်ငံတော်က ကြိုးပမ်းဆောင်ရွက်နေသည့် အမျိုးသားပြန်လည်သင့်မြတ်ရေးနှင့် ပြည်ထောင်စုငြိမ်းချမ်းရေးလုပ်ငန်းစဉ်ကို ၂၁ ရာစုပင်လုံညီလာခံကြီးမှ အစပြုလိုက်ခြင်းလည်းဖြစ်ပါကြောင်း၊ ဤဖြစ်စဉ်ကြီးတွင် ပါဝင်သင့် ပါဝင်ထိုက်သူများအားလုံး ပါဝင်နိုင်ရန် တာဝန်ရှိသူများက ကြိုးပမ်းဆောင်ရွက်နေပါကြောင်း၊ ပြည်သူများ၏ မျှော်လင့်ချက်များသည်လည်း ဘယ်ခေတ်၊ ဘယ်အခါနှင့်မျှ မတူအောင် မြင့်မားနေသည်ကို သိကြရမည်ဖြစ်ပါကြောင်း။
- ❐ တစ်နိုင်ငံလုံး ပစ်ခတ်တိုက်ခိုက်မှုရပ်စဲရေးဆိုင်ရာ သဘောတူစာချုပ်တွင် လက်မှတ်မရေးထိုးရသေးသည့် တိုင်းရင်းသားလက်နက်ကိုင်အဖွဲ့အစည်းများ ပါဝင်လာရန်ကိုလည်း သက်ဆိုင်ရာတာဝန်ရှိသူများ ကြိုးပမ်းဆောင်ရွက်နေပါကြောင်း၊ နှစ်ပေါင်း ၆၈ နှစ်၊ နှစ် ၇၀ နီးပါးကြာမြင့်ပြီဖြစ်သည့် ပြည်တွင်းလက်နက်ကိုင် ပဋိပက္ခများချုပ်ငြိမ်းရန် ဇာစ်မြစ်ဖြစ်သည့် နိုင်ငံရေးပြဿနာများကို နိုင်ငံရေးနည်းနှင့် ပြေလည်အောင် ဖြေရှင်းနိုင်ရန်လိုအပ်ပါကြောင်း၊ ထို့ကြောင့် အစိုးရသစ်လက်ထက်တွင် ထိပ်တန်းဦးစားပေးလုပ်ငန်းစဉ်ကြီး တစ်ရပ်အနေဖြင့် ကြိုးပမ်းဆောင်ရွက်နေခြင်းဖြစ်ပါကြောင်း။
- ❐ နိုင်ငံရေးပြဿနာများကို စားပွဲဝိုင်း၌ နိုင်ငံရေးနည်းဖြင့် ဇွဲစပ်ညှိနှိုင်းအဖြေရှာ

ကြသည့်နေရာတွင် အရေးကြီးဆုံးမှာ ပြည်ထောင်စုဖွားတိုင်းရင်းသားအချင်းချင်း အပြန်အလှန်နားလည်ရန်၊ အပြန်အလှန်ယုံကြည်ရန်နှင့် အပြန်အလှန် လေးစားရန် ဖြစ်ပါကြောင်း၊ တစ်နည်းအားဖြင့် တိုင်းရင်းသားစည်းလုံး ညီညွတ်ရေးနှင့် တည်ဆောက်ထားသည့် ပြည်ထောင်စုစိတ်ဓာတ် ခိုင်မာ ရှင်သန်ရန်ဖြစ်ပါကြောင်း။

- ❒ ဒီမိုကရေစီအတွေ့အကြုံ၊ ဒီမိုကရေစီ အလေ့အထများ အားနည်းနေသေး သည့် မြန်မာနိုင်ငံတွင် အားလုံးဝိုင်းဝန်းလက်တွဲဆောင်ရွက်မှ အခြေအနေ ကောင်းများကို ဖန်တီးတည်ဆောက်နိုင်မည်ဖြစ်ပါကြောင်း၊ တစ်ချိန်တည်း မှာပင် တိုင်းရင်းသားများအားလုံး လိုလားတောင့်တနေသည့် ဖက်ဒရယ် ပြည်ထောင်စုကြီး ထူထောင်တည်ဆောက်ရန်အတွက် အမျိုးသားညီညွတ်ရေး သည် မရှိမဖြစ်လိုအပ်ပါကြောင်း။
- ❒ ဒီမိုကရေစီစနစ်တွင် နိုင်ငံ၏အရေးအရာကို ပြည်သူများ သို့မဟုတ် အများစုကို ကိုယ်စားပြုသူများက စဉ်းစားကြံဆ ဆုံးဖြတ်ကြရပါကြောင်း၊ သို့သော် ထိုသို့ ဆုံးဖြတ်ရာ၌ အနည်းစုတို့၏ သဘောထားဆန္ဒကို လုံးဝလျစ်လျူရှုထား၍ ကားမရ။ အကြောင်းမူ ဒီမိုကရေစီစနစ်ဟူသည် နိုင်ငံသားတစ်ဦးချင်းတို့၏ အခြေခံရပိုင်ခွင့် လွတ်လပ်ခွင့်များကိုလည်းကောင်း၊ လူနည်းစုတို့၏ အခွင့် အရေးများကိုလည်းကောင်း လေးစားဂရုထားရသောကြောင့်ဖြစ်ကြောင်း။
- ❒ တိုင်းရင်းသားပြည်သူအားလုံး သဘောတူလက်ခံကြသည့် ဒီမိုကရေစီ ဖက်ဒရယ်ပြည်ထောင်စုကြီး ပေါ်ထွန်းလာရေးကို နိုင်ငံရေးစကားဝိုင်းများတွင် ငြိမ်းချမ်းစွာ ဆွေးနွေးညှိနှိုင်း အဖြေရှာကြရဦးမည်ဖြစ်ပါကြောင်း၊ ဤသည်မှာ လူများစု၊ လူနည်းစု မခွဲခြား၊ နိုင်ငံသူ နိုင်ငံသားအများပါဝင်သည့် ဒီမိုကရေစီ စနစ်ကို ကျင့်သုံးခြင်းဖြစ်ပါကြောင်း။
- ❒ ဒီမိုကရေစီကျင့်စဉ်အတိုင်း ဆောင်ရွက်ခြင်းဖြင့် ဤနိုင်ငံ၌ ငြိမ်းချမ်းမှုနှင့် သာယာဝပြောမှုတို့ကို တည်ဆောက်နိုင်မည့်အပြင် နိုင်ငံသူနိုင်ငံသားအပေါင်း သည်လည်း လွတ်လပ်ခြင်း၊ တန်းတူညီမျှခြင်း၊ တရားမျှတခြင်းတည်း ဟူသော လောကပါလတရားများကို ခံစားကြရလိမ့်မည်ဟု အခိုင်အမာ ယုံကြည်ထား ပါကြောင်း။
- ❒ မြန်မာနိုင်ငံ၏ ဒီမိုကရေစီပြုပြင်ပြောင်းလဲမှုများသည်လည်း အသွင်ကူးပြောင်း ရေးမှတစ်ဆင့် ခိုင်မာတည်တံ့သည့်အဆင့်သို့ ရောက်ရှိစေရန်မှာ မျိုးဆက်သစ် လူငယ်များအပါအဝင် ပြည်သူလူထုတစ်ရပ်လုံး၏ နိုင်ငံရေးယဉ်ကျေးမှု

ခိုင်မာလာရန် လိုအပ်ပါကြောင်း၊ ဒီမိုကရေစီပြုပြင်ပြောင်းလဲမှုများ၏ အောင်မြင်မှုကို ပြည်သူလူထု၏ လူနေမှုဘဝများ တိုးတက်ပြောင်းလဲလာမှုများနှင့် တိုင်းတာလေ့ရှိရာ ပြည်သူလူထုကို အခြေပြုသော၊ ပြည်သူလူထုကို အလေးအနက်ထားသော အပြောင်းအလဲများ ဆောင်ကြဉ်းနိုင်အောင် ကြိုးပမ်းဆောင်ရွက်သွားကြရမှာဖြစ်ပါကြောင်း။

❒ အများစု၏ အဆုံးအဖြတ်ကို အနည်းစုက လက်ခံလိုက်နာခြင်း၊ အနည်းစု၏ အခွင့်အရေးကို အများစုက လေးစားခြင်း၊ မတူကွဲပြားမှုများကို အပြန်အလှန် သည်းခံခြင်း စသည့် ခိုင်မာရင့်ကျက်သော ဒီမိုကရေစီနိုင်ငံရေးယဉ်ကျေးမှုကို တည်ဆောက်နိုင်ပြီး ပွင့်လင်းမြင်သာ၍ တာဝန်ယူမှု၊ တာဝန်ခံမှုရှိသော လူ့အဖွဲ့အစည်းမျိုးနှင့် တည်ငြိမ်အေးချမ်းသော လူမှုပတ်ဝန်းကျင်မျိုးတည်ရှိမှသာလျှင် စဉ်ဆက်မပြတ် ဖွံ့ဖြိုးတိုးတက်ရေးအစီအစဉ်၏ ရည်မှန်းချက်ပန်းတိုင်များကို ပြည့်မီအောင် ဖော်ဆောင်နိုင်မည်ဖြစ်ပါကြောင်း။

❒ အနာဂတ်ကာလတွင် စဉ်ဆက်မပြတ် ဖွံ့ဖြိုးတိုးတက်ရေးအတွက် ရည်မှန်းချက်များကို ဖော်ဆောင်ရာတွင် မြန်မာနိုင်ငံအတွင်း မှီတင်းနေထိုင်ကြသည့် တိုင်းရင်းသားညီအစ်ကိုမောင်နှမများအနေဖြင့် တောင်ပေါ်မြေပြန့်မခွဲခြား ပြည်နယ်ပြည်မဟူ၍လည်း သဘောမထား တစ်သားတည်း တစည်းတလုံးတည်း လက်တွဲပူးပေါင်း လျှောက်လှမ်းနိုင်ရန်လိုအပ်သည်မှာ ထင်ရှားပေါ်လွင်လျက်ရှိပါကြောင်း။

❒ နိုင်ငံသူနိုင်ငံသားများအနေဖြင့် ငြိမ်းချမ်းသာယာသည့် ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စုကြီး အောင်မြင်စွာ တည်ဆောက်နိုင်ရေးအတွက် ဒီမိုကရေစီစိတ်ဓာတ်၊ ဒီမိုကရေစီအကျင့်ကို အရင်းခံကာ တစ်ဦးအပေါ်တစ်ဦး အပြန်အလှန်နားလည်မှု၊ လေးစားယုံကြည်မှု၊ ချစ်ကြည်ရင်းနှီးမှုများဖြင့် စုပေါင်းပါဝင်ဆောင်ရွက်သွားကြပါရန် တိုက်တွန်းလိုက်ပါကြောင်း။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် (၃၇)ကြိမ်မြောက် အာဆီယံပါလီမန်များ အထွေထွေညီလာခံသို့ ပေးပို့သော သဝဏ်လွှာမှ ကောက်နုတ်ချက် (၂၉-၉-၂၀၁၆)

- ❒ နိုင်ငံရေးအရ စည်းလုံးညီညွတ်မှုရှိပြီး စီးပွားရေးအရ ပေါင်းစည်း၍ လူမှုရေးအရ တာဝန်ယူမှုရှိသည့် အာဆီယံဒေသအဖြစ်သို့ အကောင်အထည်ဖော်သည့် ကျွန်ုပ်တို့၏ ကြိုးပမ်းအားထုတ်မှုများကို အရှိန်အဟုန်မြှင့်တင်ခြင်းဖြင့် အသိုက်အဝန်းတည်ဆောက်မှုတွင် တိုးတက်မှုကောင်းများကို ရရှိလျက်ရှိပါကြောင်း။
- ❒ အာဆီယံအသိုက်အဝန်းတည်ဆောက်ခြင်းသည် ကျွန်ုပ်တို့၏ ရည်မှန်းချက်ဖြစ်သော အာဆီယံအသိုက်အဝန်းတည်ဆောက်မှုလုပ်ငန်းစဉ်၏ ကနဦးဆောင်ရွက်မှုဖြစ်ပြီး စည်းလုံးညီညွတ်မှုရှိသော ပေါင်းစည်းမှုရှိသော ဒေသဆိုင်ရာအဖွဲ့ အစည်းတစ်ခုအဖြစ် ကမ္ဘာ့အသိုက်အဝန်းအလယ်တွင် ပေါ်ထွန်းလာနိုင်ရန်အတွက် ကျွန်ုပ်တို့အားလုံးသည် ပိုမိုကျစ်လျစ်ခိုင်မာစွာဖြင့် ကြိုးပမ်းအားထုတ်သင့်ပါကြောင်း။
- ❒ အာဆီယံအသိုက်အဝန်း တည်ထောင်ရေးကြိုးပမ်းရာတွင် အာဆီယံပါလီမန်များ ညီလာခံ၏ အရေးပါသောအခန်းကဏ္ဍနှင့် ပူးပေါင်းပါဝင်ဆောင်ရွက်မှုကိုလည်း အသိအမှတ်ပြုပါကြောင်း၊ အောင်မြင်မှုရှိသော အာဆီယံပေါင်းစည်းမှုအတွက် အာဆီယံအဖွဲ့ဝင်နိုင်ငံများသည် အကောင်းဆုံးသောအလေ့အထနှင့် ဦးဆောင်ဦးရွက်ပြုမှုများကို မျှဝေလျက် အပြည့်အဝ ပါဝင်ဆောင်ရွက်ကြရန် လိုအပ်ပါကြောင်း။
- ❒ ၂၀၁၁ ခုနှစ်တွင် အာဆီယံပါလီမန်များညီလာခံသို့ အဖွဲ့ဝင်အဖြစ် ဝင်ရောက်ပြီးနောက် မြန်မာနိုင်ငံသည် အာဆီယံပါလီမန်များညီလာခံ၏ အထွေထွေလုပ်ရှားဆောင်ရွက်မှုများတွင် တက်ကြွစွာ ပါဝင်လှုပ်ရှားဆောင်ရွက်လျက်ရှိပါကြောင်း၊ မြန်မာနိုင်ငံအနေဖြင့် ပါလီမန်အချင်းချင်း ပူးပေါင်းဆောင်ရွက်မှုများကို ဒေသတွင်း၌သာမက နိုင်ငံတကာအဆင့်၌လည်း ပါဝင်ခဲ့ရာ နိုင်ငံတကာပါလီမန်များအဖွဲ့၊ ဗြိတိန်ပါလီမန်နှင့် သြစတြေးလျပါလီမန်စသည်တို့နှင့်လည်း လက်တွဲဆောင်ရွက်ခဲ့ပါကြောင်း။

- ယနေ့အချိန်အခါတွင် ကျွန်ုပ်တို့ဒေသတွင်း၌ သမားရိုးကျမဟုတ်သော လုံခြုံရေးဆိုင်ရာ ကိစ္စရပ်များနှင့် အချို့သော အာဆီယံအဖွဲ့ဝင်နိုင်ငံများ အကြား ဖွံ့ဖြိုးတိုးတက်မှု ကွာဟချက်များ ပပျောက်စေရေးအပါအဝင် စိန်ခေါ် မှုအမြောက်အမြားနှင့် ရင်ဆိုင်ရလျက်ရှိပါကြောင်း၊ အဆိုပါစိန်ခေါ်မှုများကို ရင်ဆိုင်ဖြေရှင်းရာတွင် အစိုးရအဖွဲ့များနှင့် ပါလီမန်များအကြား ပူးပေါင်း ဆောင်ရွက်မှုကို လွယ်ကူချောမွေ့စေရန် အာဆီယံပါလီမန်များညီလာခံ သည် အဓိကကျသော အခန်းကဏ္ဍမှ ပါဝင်လျက်ရှိပါကြောင်း။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် (၇၁)ကြိမ်မြောက် ကုလသမဂ္ဂနှစ်ပတ်လည်နေ့သို့ ပေးပို့သည့် သဝဏ်လွှာမှ ကောက်နုတ်ချက်

## (၂၄-၁၀-၂၀၁၆)

- ငြိမ်းချမ်းရေး၊ လုံခြုံရေးနှင့် ဖွံ့ဖြိုးတိုးတက်ရေးတို့သည် အပြန်အလှန်ချိတ်ဆက်အမှီသဟဲ ပြုနေပါသည်။ ငြိမ်းချမ်းရေးမရရှိဘဲ စဉ်ဆက်မပြတ်ဖွံ့ဖြိုးတိုးတက်ရန် မဖြစ်နိုင်ပါ။ ဖွံ့ဖြိုးတိုးတက်မှုမရှိဘဲ ငြိမ်းချမ်းရေး မတည်မြဲနိုင်ပါ။ ဆင်းရဲနွမ်းပါးမှုကို အမြစ်ပြတ်သုတ်သင်နိုင်ရေးသည် ယနေ့ ကြုံတွေ့နေရသော စိန်ခေါ်မှုအများအပြားအား ဖြေရှင်းနိုင်မည့် နည်းလမ်းများအနက် တစ်ခုဖြစ်ပါသည်။
- ကုလသမဂ္ဂနှင့် ပူးပေါင်းဆောင်ရွက်ခြင်းသည် မြန်မာ့နိုင်ငံခြားရေးမူဝါဒ၏ အခြေခံအုတ်မြစ်တစ်ခု ဖြစ်ပါသည်။ ထို့ကြောင့် ကမ္ဘာ့အသိုက်အဝန်း၏ အဖွဲ့ဝင်တစ်နိုင်ငံဖြစ်သော မြန်မာနိုင်ငံသည် ကမ္ဘာ့နိုင်ငံများအားလုံးနှင့် သက်ဆိုင်သော စိန်ခေါ်မှုများကို ဖြေရှင်းရာတွင် နိုင်ငံတကာပူးပေါင်းဆောင်ရွက်မှုများမှတစ်ဆင့် ကုလသမဂ္ဂကို အခိုင်အမာထောက်ခံပြီး ဆက်လက်ပူးပေါင်းဆောင်ရွက်သွားမည်ဟု သန္နိဋ္ဌာန် ချမှတ်ထားပါသည်။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် (၉၆)နှစ်မြောက် အမျိုးသားနေ့ အထိမ်းအမှတ် အခမ်းအနားသို့ ပေးပို့သော သဝဏ်လွှာမှ ကောက်နုတ်ချက် (၂၄-၁၁-၂၀၁၆)

- ကိုလိုနီနယ်ချဲ့လက်အောက် ကျရောက်ခဲ့စဉ်က မြန်မာပြည်သူအများ တက္ကသိုလ် ပညာသင်ကြားနိုင်ရေး ကန့်သတ်ပိတ်ပင်ထားတဲ့ ယူနီဗာစီတီ အက်ဥပဒေကို ရေးဆွဲပြဋ္ဌာန်းခဲ့ချိန် မြန်မာသက္ကရာဇ် ၁၂၈၂ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် ၁၀ ရက်(၁၉၂၀ ပြည့်နှစ်၊ ဒီဇင်ဘာလ ၅ရက်) တနင်္ဂနွေနေ့မှာ စတင်သပိတ်မှောက်ခဲ့ကြပါတယ်။
- ကိုလိုနီလက်အောက်ကျရောက်ခဲ့တဲ့ နှစ်ပေါင်းများစွာအတွင်း ရဲရင့်မှု၊ တက်ကြွမှု၊ အနစ်နာခံမှုတို့ဖြင့် အစပြုခဲ့သော ကျောင်းသားသပိတ်ဟာ နိုင်ငံ တစ်လျားသို့ ရိုက်ခတ်သွားခဲ့ရပါတယ်။ ဒီသပိတ်ကိုအကြောင်းပြုပြီး များ မကြာမီအတွင်း အမျိုးသားစိတ်ဓာတ်တွေ ပိုမိုရင့်သန်လာပြီး မြန်မာစာ၊ မြန်မာစကား၊ မြန်မာ့အရေးတို့ကို အထူးအလေးပေးတဲ့ အမျိုးသားကျောင်းတွေ နိုင်ငံနှင့်အဝန်း ပေါ်ပေါက်လာခဲ့ကြပါတယ်။ တက္ကသိုလ်ပညာရေးသက်သက် နှင့်သာသက်ဆိုင်တဲ့ အရေးကိစ္စမဟုတ်ဘဲ နယ်ချဲ့တို့ရဲ့ဖိနှိပ်မှုကို အန်တု လိုက်တဲ့၊ နိုင်ငံရေးသဘောဆောင်တဲ့၊ တစ်နည်းဆိုရရင် လူထုကြီးကို အမျိုးသားရေးစိတ်ဓာတ်တွေ နှိုးဆွပေးလိုက်တဲ့ အရေးတော်ပုံကြီးပင် ဖြစ်ပါတယ်။ အဲဒီအချိန်က အစပြုပြီး ဖြစ်ထွန်းပေါ်ပေါက်လာခဲ့တဲ့ သခင် စိတ်ဓာတ်၊ သခင်အကျင့်တို့ဟာ မြန်မာနိုင်ငံလွတ်လပ်ရေးရရှိတဲ့အချိန်အထိ အမျိုးသားရေးစိတ်ဓာတ် အရှိန်အဟုန်ကို မွေးဖွားပေးခဲ့ခြင်းဖြစ်ပါတယ်။
- ၁၉၂၁ ခုနှစ်၊ အောက်တိုဘာလအတွင်းက မန္တလေးမြို့၌ ကျင်းပခဲ့တဲ့ နဝမအကြိမ်မြောက် ဂျီစီဘီအေညီလာခံကြီးက ပထမကျောင်းသားသပိတ် စတင်ခဲ့တဲ့ ၁၂၈၂ ခု၊ တန်ဆောင်မုန်းလပြည့်ကျော် ၁၀ ရက်နေ့ကို အမျိုးသားနေ့အဖြစ် သတ်မှတ်ဖို့ စတင်ဆွေးနွေးခဲ့ပြီး ရန်ကုန်မြို့မှာ ၁၉၂၂ ခုနှစ်၊ ဇွန်လ ၁၇ ရက်နဲ့ ၁၈ ရက်နေ့ ကျင်းပတဲ့ ဂျီစီဘီအေအထူးကွန်ဖရင့်က အဲဒီနေ့ကို အမျိုးသားနေ့လို့ သတ်မှတ်ကြောင်း ဆုံးဖြတ်အတည်ပြုပေးခဲ့ပါ တယ်။ အဲဒီအချိန်ကစပြီး အမျိုးသားနေ့ကို ကျင်းပလာကြတာဟာ အခု ဆိုလျှင် ရာပြည့်အကြို ၉၆ နှစ်တိုင်ခဲ့ပြီဖြစ်ပါတယ်။

❒ နိုင်ငံတော်စီးပွားရေးနှင့်ဖွံ့ဖြိုးတိုးတက်မှုမူဝါဒကို စဉ်ဆက်မပြတ် ဖွံ့ဖြိုးတိုးတက်ပြီး ရည်မှန်းချက်ပန်းတိုင်တွေကို အကောင်အထည်ဖော်ဖို့ ဦးတည်ရေးဆွဲထားရာမှာ အခြေခံအဆောက်အအုံ ရင်းနှီးမြှုပ်နှံမှု၊ စိုက်ပျိုးရေး၊ ပုဂ္ဂလိကကဏ္ဍ၊ အသေးစားနှင့်အလတ်စား စီးပွားရေးလုပ်ငန်းများ၊ အထူးသဖြင့် ဆင်းရဲနွမ်းပါးမှု ပပျောက်ရေးကို တိုးမြှင့်ဆောင်ရွက်ရေးတို့ ပါဝင်ပါတယ်။ ပြည်သူဗဟိုပြုပြီး အားလုံးပါဝင်တဲ့ မူဝါဒရဲ့ အဓိကဦးတည်ချက်တွေမှာ အမျိုးသားပြန်လည်သင့်မြတ်ရေး၊ အလုပ်အကိုင်ဖန်တီးရေးနဲ့ သဘာဝသယံဇာတများ ထိန်းသိမ်းရေး၊ တိုင်းရင်းသားလူငယ်များရဲ့ စွမ်းရည်မြှင့်တင်ရေးနဲ့ အခွင့်အလမ်းများ ဖန်တီးပေးရေးတို့ဖြစ်ပါတယ်။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် ပဉ္စမအကြိမ်အစိမ်းရောင်ဖွံ့ဖြိုးတိုးတက်မှု ဖိုရမ်ဖွင့်ပွဲအခမ်းအနားတွင် ပြောကြားသည့်မိန့်ခွန်းကောက်နုတ်ချက် (၂၉-၁၁-၂၀၁၆)

- ကမ္ဘာနှင့်တစ်ဝန်းတွင် ကြုံတွေ့နေရသည့် ရာသီဥတုပြောင်းလဲမှု တိုးပွားလာခြင်း၏ ဆိုးကျိုးများ၊ ဂေဟစနစ်လျင်မြန်စွာ ယိုယွင်းပျက်စီးနေမှုများ၊ သစ်တောပြုန်းတီးမှုများ၊ မျိုးသုဉ်းရန် အန္တရာယ်ရှိသော မျိုးစိတ်နှင့် တောရိုင်းတိရစ္ဆာန်ဆုံးရှုံးမှုများ၊ လေထု၊ သမုဒ္ဒရာ၊ မြစ်ချောင်း၊ ရေကန်၊ မြေထုညစ်ညမ်းမှုများနှင့် ကူးစက်ရောဂါများ တစ်နေရာမှ တစ်နေရာသို့ ရောက်ရှိပျံ့နှံ့နေမှု စသည့် ဖြေရှင်းရန်ခက်ခဲလှသည့် ပြဿနာများကို မြန်မာနိုင်ငံအနေဖြင့်လည်း ကြုံတွေ့ခံစားနေရပါကြောင်း။
- မိမိတို့အားလုံးကို ထိခိုက်မှုများ ဖြစ်စေသော ကမ္ဘာလုံးဆိုင်ရာ ပတ်ဝန်းကျင်နှင့် ဂေဟစနစ်ယိုယွင်းပျက်စီးမှုများ၊ ရာသီဥတုပြောင်းလဲမှုများကို တုံ့ပြန်နိုင်ရန်အတွက် အပြည်ပြည်ဆိုင်ရာပူးပေါင်းဆောင်ရွက်မှုသည် အလွန်အရေးကြီးပါကြောင်း။
- မြန်မာနိုင်ငံသည် ရာသီဥတုပြောင်းလဲမှုကို ရင်ဆိုင်ဖြေရှင်းနိုင်ရန် ကမ္ဘာလုံးဆိုင်ရာ သဘောတူညီမှုဖြစ်သည့် ၂၀၁၅ ခုနှစ်၊ ပါရီသဘောတူညီချက်၊ ကုလသမဂ္ဂ၏ ရေရှည်စဉ်ဆက်မပြတ်ဖွံ့ဖြိုးတိုးတက်ရေး ရည်မှန်းချက်များ၊ ဟိုက်ဒရိုဖလူရိုကာဗွန် (HFC)ထုတ်လုပ်မှုနှင့် သုံးစွဲမှုလျှော့ချရပ်ဆိုင်းရေး စသည့် လတ်တလောချမှတ်ဆောင်ရွက်ခဲ့သည့် နိုင်ငံတကာကြိုးပမ်းမှုများတွင် ပါဝင်ဆောင်ရွက်လျက်ရှိသကဲ့သို့ မိမိတို့အားလုံးနှင့် နောင်လာနောက်သားများအပေါ် အမှန်တကယ် ဆိုးကျိုးဖြစ်ပေါ်စေမည့် ကမ္ဘာလုံးဆိုင်ရာ ခြိမ်းခြောက်မှုများကို တုံ့ပြန်ဆောင်ရွက်ရန်အတွက် အပြည်ပြည်ဆိုင်ရာအသိုက်အဝန်းတွင် အလေးအနက်အထား ပါဝင်ဆောင်ရွက်လျက်ရှိပါကြောင်း။
- နိုင်ငံတော်၏ ရှေ့ဆက်ဆောင်ရွက်မည့် အစိမ်းရောင်စီးပွားရေးကူးပြောင်းဆောင်ရွက်မှုနည်းလမ်းများအနေဖြင့် စွမ်းအင်အသစ်နှင့် ပြန်လည်ပြည့်ဖြိုးမြဲစွမ်းအင်အသုံးပြုရေးအတွက် ရည်မှန်းချက်ပန်းတိုင်များချမှတ်ခြင်း၊ စွမ်းအင်၊ ရေ၊ မြေနှင့် ဇီဝမျိုးစုံမျိုးကွဲများကို ထိန်းသိမ်းခြင်းနှင့် အကျိုးရှိစွာ အသုံးချနိုင်

ရေးအတွက် တိုးမြှင့်ဆောင်ရွက်ခြင်း၊ စားသုံးမှုနှင့်ထုတ်လုပ်မှုပုံစံဆိုင်ရာ အပြုအမူနှင့် အလေ့အကျင့်ကောင်းများ ပြောင်းလဲခြင်း၊ စွန့်ပစ်ပစ္စည်းကို အရင်းအမြစ်တစ်ခုအဖြစ် အလေးထားစဉ်းစားရမည့် အခြေခံသဘောတရားများ ပြောင်းလဲခြင်း၊ ဆန်းသစ်တီထွင်ဖန်တီးမှုများကို အထောက်အပံ့ဖြစ်စေမည့် စီးပွားရေးဆိုင်ရာယန္တရားများ ဖန်တီးခြင်းနှင့် အခွင့်အလမ်းများပေါ်ထွက်လာစေရေးအတွက် လူ့စွမ်းအားအရင်းအမြစ်ဖွံ့ဖြိုးရေးနှင့် ပညာရေးမြှင့်တင်ခြင်းတို့ကို ဖော်ညွှန်းလိုပါကြောင်း။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် (၄၂)ကြိမ်မြောက် ရခိုင်ပြည်နယ်နေ့ အခမ်းအနားသို့ ပေးပို့သည့် သဝဏ်လွှာမှ ကောက်နုတ်ချက် (၁၅-၁၂-၂၀၁၆)

- ရခိုင်ပြည်နယ်ဟာ သဘာဝပထဝီအနေအထားအရ ရှည်လျားလှပသည့် ပင်လယ်ကမ်းရိုးတန်းဒေသကို ပိုင်ဆိုင်ထားပြီး အရှေ့ဘက်မှာ ရခိုင်ရိုးမ တောင်တန်း၊ မြောက်ဘက်မှာ မြေဆီဩဇာကောင်းသည့် လယ်မြေများ စတဲ့ ရေခံမြေခံပထဝီအနေအထားကြောင့် ဆန်၊ ရေ၊ စပါး၊ သားငါးနှင့် သဘာဝ သယံဇာတပေါကြွယ်ဝတဲ့အပြင် အဖိုးတန် ရှေးဟောင်းယဉ်ကျေးမှု အမွေ အနှစ်ပေါများလှတဲ့ ပြည်နယ်တစ်ခုဖြစ်ပါတယ်။
- ရခိုင်ပြည်နယ်မှာ ရခိုင်မျိုးနွယ်စုဝင် တိုင်းရင်းသား (၇)မျိုးအပြင် အခြား တိုင်းရင်းသားများလည်း ရှေးပဝေသဏီကတည်းက ချစ်ခင်ရင်းနှီးစွာ နေထိုင် လျက်ရှိကြပါတယ်။ ရခိုင်ပြည်နယ်မှာ မြတ်ဗုဒ္ဓသာသနာ နေလို လလို ထွန်းတောက်ခဲ့ပြီး ဗုဒ္ဓဘာသာဝင် ရခိုင်တိုင်းရင်းသား လူမျိုးများအနေနဲ့လည်း မျိုးရိုးသီလကို အစဉ်အမြဲ စောင့်ထိန်းခဲ့ကြပါတယ်။ အဲဒီလို အမျိုးသီလကို ထိန်းသိမ်းစောင့်ရှောက်နိုင်ခြင်းကိုလည်း ရခိုင်တိုင်းရင်းသားတို့က ဂုဏ်ယူ တန်ဖိုးထားကြပါတယ်။
- နိုင်ငံတော်အစိုးရအနေနဲ့ ရခိုင်ပြည်နယ်နဲ့ လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်ရေး အတွက် ၂၀၁၆ ခုနှစ်၊ မေလ ၃၀ ရက်နေ့မှာ ရခိုင်ပြည်နယ် တည်ငြိမ် အေးချမ်းရေးနှင့် ဖွံ့ဖြိုးတိုးတက်မှု အကောင်အထည်ဖော်ရေး ဗဟိုကော်မတီ ကို ဖွဲ့စည်းခဲ့ပြီး လုပ်ငန်းကော်မတီ(၄)ရပ်ဖြစ်တဲ့ လုံခြုံရေး၊ တည်ငြိမ်အေးချမ်း ရေးနှင့် တရားဥပဒေစိုးမိုးရေးလုပ်ငန်းကော်မတီ၊ လူဝင်မှုကြီးကြပ်ရေးနှင့် နိုင်ငံသားစိစစ်ရေးလုပ်ငန်းကော်မတီ၊ ဒေသတွင်း ပြန်လည်နေရာချထားရေး လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းကော်မတီ၊ ကုလသမဂ္ဂအဖွဲ့အစည်း များ၊ နိုင်ငံတကာအဖွဲ့အစည်းများနှင့် ပူးပေါင်းဆောင်ရွက်ရေး လုပ်ငန်း ကော်မတီ စသည်ဖြင့် ဖွဲ့စည်းထားရှိပြီး ပြည်နယ်ရဲ့ လူမှုစီးပွားဘဝ ဖွံ့ဖြိုး တိုးတက်ရေးအတွက် ဘက်ပေါင်းစုံမှ မြှင့်တင်ကြိုးပမ်း ဆောင်ရွက်လျက်ရှိ ပါတယ်။ အထူးသဖြင့် ဒေသတွင်း လမ်းပန်းဆက်သွယ်ရေး၊ လျှပ်စစ်မီးရရှိရေး

နဲ့ ပညာရေး၊ ကျန်းမာရေး စတဲ့ အခြေခံကျတဲ့ ကဏ္ဍများကို အကောင်အထည်ဖော်ဆောင်ရွက်ခဲ့ရာ တိုးတက်မှုများကို အထိုက်အလျောက် မြင်တွေ့နေရပြီဖြစ်ပါတယ်။ ရခိုင်ပြည်နယ် ဖွံ့ဖြိုးတိုးတက်ရေးအတွက် လွန်စွာအရေးပါတဲ့ ကျောက်ဖြူအထူးစီးပွားရေးဇုန်ကို ဒေသခံများရဲ့ သဘောထား၊ သဘာဝပတ်ဝန်းကျင်ထိခိုက်နိုင်မှုနဲ့ လူမှုစီးပွားသက်ရောက်နိုင်မှုတို့ကို အဘက်ဘက်က လေ့လာသုံးသပ်ပြီး စံချိန်စံနှုန်းမီ အောင်မြင်စွာ ဆက်လက်အကောင်အထည်ဖော်နိုင်ဖို့လည်း ဆောင်ရွက်လျက်ရှိပါတယ်။ ပထဝီအနေအထားအရ မြစ်ချောင်းပေါများလှတဲ့ ရခိုင်ပြည်နယ်အတွင်း ပို့ဆောင်ဆက်သွယ်ရေးအတွက် ကုလားတန်မြစ် ဘက်စုံဖွံ့ဖြိုးရေးစီမံကိန်းကိုလည်း အလေးပေးဆောင်ရွက်လျက်ရှိပါတယ်။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် ရန်ကုန်တက္ကသိုလ် မြန်မာစာဌာန (၇၅)နှစ်ပြည့် အထိမ်းအမှတ် စိန်ရတုသဘင်ဖွင့်ပွဲအခမ်းအနားတွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၂၂-၁၂-၂၀၁၆)

- ❐ နိုင်ငံတစ်နိုင်ငံ လူမျိုးတစ်မျိုးအတွက် မိမိတို့၏ စာပေ၊ ဘာသာစကားတို့သည် အဖိုးအနဂ္ဃထိုက်သည့် ရတနာတစ်ပါးဖြစ်ကြောင်း၊ နိုင်ငံတိုင်း လူမျိုးတိုင်းသည် မိမိတို့၏ စာပေ၊ ဘာသာစကားကို အမြတ်တနိုး တန်ဖိုးထားပြီး ထိန်းသိမ်းစောင့်ရှောက်မှုများ၊ တိုးတက်ထွန်းကားပြန့်ပွားအောင် ဆောင်ရွက်မှုများကို အလေးထားဆောင်ရွက်လျက်ရှိကြကြောင်း။
- ❐ မြန်မာနိုင်ငံ၏ ပညာရေးသမိုင်းမှတ်တိုင်များတွင် ရန်ကုန်တက္ကသိုလ် မြန်မာစာဌာနကို တည်ထောင်နိုင်ခဲ့ခြင်းသည် သမိုင်းမှတ်တိုင်တစ်ခုဟု ဆိုနိုင်ကြောင်း၊ ၁၉၂၀ ပြည့်နှစ်၊ ရန်ကုန်တက္ကသိုလ်ကို ယူနီဗာစတီကောလိပ်အဖြစ် စတင်တည်ထောင်စဉ်က မြန်မာစာဌာနဟူ၍ သီးခြားမရှိသေးကြောင်း။
- ❐ တက္ကသိုလ် မြန်မာစာသင်ကြားရေးသည် အရှေ့တိုင်းပညာရပ်များ လေ့လာရေးဌာနအောက်၌သာ ရှိခဲ့ကြောင်း၊ သို့သော် ယူနီဗာစတီကောလိပ်၏ ပထမဆုံး မြန်မာလူမျိုးကျောင်းအုပ်ကြီးဖြစ်လာသည့် ဆရာကြီး ဦးဖေမောင်တင်နှင့် ဆရာ ဦးဇေမောင်၊ ဆရာဦးဝန်၊ ဆရာဦးသိန်းဟန်၊ ဆရာသိပ္ပံမောင်ဝ စသည့် ထူးချွန်ထက်မြက်သည့် တပည့်များ၏ ကြိုးပမ်းချက်ကြောင့် ၁၉၄၀ ပြည့်နှစ်တွင် မြန်မာစာဌာန သီးခြားပေါ်ထွန်းလာခဲ့ပါကြောင်း။
- ❐ တိုင်းတစ်ပါးလက် အောက်ခံဘဝတွင် မြန်မာစာဌာနကို ထူထောင်နိုင်ခဲ့ခြင်းသည် မြန်မာတစ် မျိုးသားလုံး၏ မြန်မာစာပေ၊ မြန်မာဘာသာစကားအပေါ် ချစ်မြတ်နိုးမှုကို သက်သေထူထောင်နိုင်ခဲ့ခြင်းပင်ဖြစ်ပါကြောင်း။
- ❐ ဆရာဦးဖေမောင်တင်၏ ကြိုးပမ်းမှုကြောင့် ၁၉၄၁ ခုနှစ်တွင် စတင်ပေါ်ထွန်းလာခဲ့သည့် ရန်ကုန်တက္ကသိုလ် မြန်မာစာဌာန၏ ပထမဆုံးဌာနမှူးမှာ ပါမောက္ခဆရာကြီး ဦးဇေမောင် ဖြစ်ပါကြောင်း၊ ဒုတိယအကြိမ် မြန်မာစာဌာန၏ ဌာနမှူးအဖြစ် ဦးစီးဦးဆောင်ပြုပြီး မြန်မာသင်ကြားရေးနှင့် မြန်မာစာပေ ဖွံ့ဖြိုးတိုးတက်ရေးတို့အတွက် ကြိုးပမ်းခဲ့သူမှာ ဆရာကြီးဦးဝန်(မင်းသုဝဏ်) ဖြစ်ပါကြောင်း။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် ၂၀၁၇ ခုနှစ် နှစ်သစ်ကူးနှုတ်ခွန်းဆက် အမှာစကားမှ ကောက်နုတ်ချက် (၁-၁-၂၀၁၇)

❒ နိုင်ငံတော်အစိုးရအနေနဲ့ ၂၀၁၆ ခုနှစ်အတွင်း တာဝန်ယူခဲ့တဲ့ ကိုးလတာ ကာလတစ်လျှောက်မှာ တိုင်းပြည်အကျိုးအတွက် ရည်ရွယ်ချမှတ်ထားတဲ့ မူဝါဒများဖြစ်တဲ့ ပြည်တွင်းငြိမ်းချမ်းရေး၊ အမျိုးသားပြန်လည်သင့်မြတ်ရေး၊ ဒီမိုကရေစီနှင့် ဖက်ဒရယ်စနစ်ကို အခြေခံသည့် ပြည်ထောင်စုဖြစ်ပေါ်ရေး၊ ပြည်သူတို့ရဲ့ လူနေမှုဘဝများ တိုးတက်မြင့်မားရေးတို့အတွက် တစ်စိုက် မတ်မတ် ကြိုးပမ်းဆောင်ရွက်ခဲ့ပါကြောင်း။

❒ ယခုအခါမှာလည်း ၂၁ ရာစု ပင်လုံညီလာခံကအစပြုပြီး တိုင်းရင်းသား ပြည်သူအများ လိုလားတောင့်တတဲ့ ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စု တည်ဆောက်နိုင်ဖို့ ကြိုးပမ်းဆောင်ရွက်လျက်ရှိတာ အများအသိပဲဖြစ်ပါ ကြောင်း၊ ဒီမိုကရေစီနိုင်ငံ၊ ဒီမိုကရေစီစနစ်ဟူသည် အများပြည်သူတို့ရဲ့ ပူးပေါင်းပါဝင်မှုဖြင့်သာ အောင်မြင်နိုင်တာဖြစ်လို့ ယခုလို ဒီမိုကရေစီစနစ်ကို ကျင့်သုံးပြီး ဖက်ဒရယ်ပြည်ထောင်စုကြီး တည်ဆောက်ရာမှာလည်း နိုင်ငံသူ နိုင်ငံသားအားလုံးတို့က ဒီမိုကရေစီစိတ်ဓာတ် ပြည့်ဝစွာနဲ့ တက်ညီလက်ညီ ပူးပေါင်းပါဝင်ဆောင်ရွက်ကြဖို့ တိုက်တွန်းနှိုးဆော်လိုပါကြောင်း။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် (၆၉)နှစ်မြောက် လွတ်လပ်ရေးနေ့ အခမ်းအနားသို့ ပေးပို့သော သဝဏ်လွှာမှ ကောက်နုတ်ချက် (၄-၁-၂၀၁၇)

❒ နိုင်ငံတော်၏ အချုပ်အခြာအာဏာနှင့် လွတ်လပ်ရေးဆုံးရှုံးနေချိန်တွင် မျိုးချစ်စိတ်ထက်သန်သော ပြည်ထောင်စုဖွား တိုင်းရင်းသားအပေါင်းတို့သည် ခိုင်မာသော ပြည်ထောင်စုစိတ်ဓာတ်၊ ကိုယ့်တိုင်းပြည်၊ ကိုယ့်လူမျိုးအတွက် စွန့်လွှတ်စွန့်စားလိုသော အမျိုးသားရေးစိတ်ဓာတ်တို့ဖြင့် နယ်ချဲ့တို့ကို စုစည်းညီညွတ်စွာ တွန်းလှန်ခဲ့ကြရာ ၁၉၄၈ ခုနှစ်၊ ဇန်နဝါရီလ ၄ ရက်နေ့တွင် နိုင်ငံတော်၏ အချုပ်အခြာအာဏာနှင့် လွတ်လပ်ရေးကို ပြန်လည်ရယူနိုင်ခဲ့ပါကြောင်း၊ ယနေ့ဆိုလျှင် မြန်မာနိုင်ငံတော်၏ လွတ်လပ်ရေးရရှိခဲ့သည်မှာ (၆၉) နှစ်ပြည့်မြောက်ခဲ့ပါကြောင်း။

❒ လွတ်လပ်ရေးရပြီးနောက် အတိတ်သမိုင်းတွင် မိမိတို့တိုင်းရင်းသား ညီရင်းအစ်ကို မောင်ရင်းနှမများအကြား အကြောင်းအမျိုးမျိုးကြောင့် သံသယများ၊ ပဋိပက္ခများ ပေါ်ပေါက်ခဲ့သည့်အတွက် နိုင်ငံတော်၏ ဖွံ့ဖြိုးတိုးတက်မှုကို အဟန့်အတားဖြစ်စေခဲ့ပါကြောင်း၊ လွတ်လပ်ပင်လွတ်လပ်သော်ငြားလည်း လက်နက်ကိုင်ပဋိပက္ခများကြောင့် တိုင်းရင်းသားဒေသနေရာအချို့တွင် လွတ်လပ်ရေးအသီးအပွင့်ကို တင်းပြည့်ကျပ်ပြည့် ခံစားနိုင်ခြင်းမရှိဘဲ အနာဂတ်များ ပျောက်ဆုံးကာ အမှောင်ဖုံးခဲ့ရသည်မှာ စိတ်မကောင်းဖွယ်ရာပင်ဖြစ်ပါကြောင်း၊ ယနေ့အချိန်အခါတွင် သံသယနှင့် ပဋိပက္ခများ ကင်းစင်ပပျောက်ပြီး ရေရှည်တည်တံ့သည့် စစ်မှန်သော ထာဝရငြိမ်းချမ်းရေးရရှိရန်နှင့် ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စုတည်ဆောက်ရန် တိုင်းရင်းသားညီအစ်ကိုမောင်နှမအားလုံးက နည်းလမ်းပေါင်းစုံဖြင့် ကြိုးပမ်းဆောင်ရွက်လျက်ရှိပါကြောင်း၊ အမျိုးသားပြန်လည်သင့်မြတ်ရေးနှင့် ပြည်ထောင်စုငြိမ်းချမ်းရေးလုပ်ငန်းစဉ်ကို နိုင်ငံတော်အစိုးရက ပြည်ထောင်စုငြိမ်းချမ်းရေးညီလာခံ (၂၁)ရာစု ပင်လုံကျင်းပခြင်းဖြင့် ကြိုးပမ်းဆောင်ရွက်လျက်ရှိပါကြောင်း၊ လက်နက်ကိုင်နည်းလမ်းသည် ခေတ်အဆက်ဆက် နိုင်ငံရေးပြဿနာများကို ဖြေရှင်းနိုင်ခြင်း အလျဉ်းမရှိဘဲ လက်နက်ကိုင်ပဋိပက္ခကို ရှည်ကြာစေခဲ့ပြီး

လက်နက်ကိုင်ပဋိပက္ခနှင့် ဆက်စပ်လျက် ဖွံ့ဖြိုးမှုများလည်း နောက်ကျကျန်ရစ်ခဲ့ရသည်ကို ဆယ်စုနှစ်များစွာ အထင်အရှားတွေ့မြင်ခဲ့ကြရပြီး ဖြစ်ပါကြောင်း၊ ထို့ကြောင့် အမျိုးသားပြန်လည်သင့်မြတ်ရေးနှင့် ပြည်ထောင်စုငြိမ်းချမ်းရေးအတွက် စုပေါင်းဆွေးနွေး၊ စုပေါင်းအဖြေရှာမည့် ပြည်ထောင်စုငြိမ်းချမ်းရေး ညီလာခံ (၂၁)ရာစုပင်လုံကို တိုင်းရင်းသားပြည်သူအားလုံးက မျက်မှောက်ပြုကြရန် အထူးအရေးကြီးလှပါကြောင်း။

❐ နိုင်ငံတော်တစ်ဝန်းလုံးတွင် တည်ငြိမ်အေးချမ်းလာသည်နှင့်အမျှ ပြည်ထောင်စု၏ နယ်မြေဒေသအားလုံးတွင် တစ်ချိန်တည်းတစ်ပြိုင်တည်း ဖွံ့ဖြိုးတိုးတက်ရေးနှင့် တိုင်းရင်းသားပြည်သူတစ်ရပ်လုံး၏ စားဝတ်နေမှုပြည့်စုံလုံခြုံရေး၊ လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်စေရေးတို့အတွက် ကြိုးပမ်းအကောင်အထည်ဖော်ဆောင်ရွက်လျက်ရှိရာ တိုင်းရင်းသားပြည်သူတစ်ရပ်လုံးအနေဖြင့်လည်း တောင်ပေါ်မြေပြန့်၊ ပြည်နယ် ပြည်မ မခွဲခြားဘဲ မိမိကျရာအခန်းကဏ္ဍမှ ပြည်ထောင်စုအစိုးရနှင့်အတူ လက်တွဲပူးပေါင်းဆောင်ရွက်သွားကြရန် လိုအပ်လှပါကြောင်း။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် ဂုဏ်ထူးဆောင်ဘွဲ့များ ချီးမြှင့်အပ်နှင်းခြင်းအခမ်းအနားတွင် တိုက်တွန်းပြောကြားချက်မှ ကောက်နုတ်ချက် (၄-၁-၂၀၁၇)

- မိမိတို့နိုင်ငံ၏ လွတ်လပ်ရေးပြန်လည်ရရှိရန် အသက်၊ သွေး၊ ချွေးပေါင်းများစွာ ရင်းနှီးပြီး နှစ်ပေါင်းများစွာ ကြိုးစားခဲ့ကြရပါကြောင်း၊ အမျိုးသားခေါင်းဆောင်ကြီး ဗိုလ်ချုပ်အောင်ဆန်း၏ ခေါင်းဆောင်မှုအောက်တွင် မြန်မာတစ်မျိုးသားလုံး၊ ဇွဲ၊ လုံ့လ၊ သတ္တိအပြည့်ဖြင့် ညီညီညွတ်ညွတ် ကြိုးစားခဲ့သည့်အတွက် လွတ်လပ်ရေးကို အရယူနိုင်ခဲ့ခြင်းဖြစ်ပါကြောင်း။

- အမျိုးသားခေါင်းဆောင်ကြီးများနှင့် ဘိုးဘေးဘီဘင်များ စွန့်လွှတ်စွန့်စားအားထုတ်ကြိုးပမ်းရယူခဲ့ရသည့် မြန်မာ့လွတ်လပ်ရေးကို ကမ္ဘာတည်သရွေ့ အစဉ်ထာဝရ တည်တံ့စေရန်အတွက် လွတ်လပ်ရေးအရယူခဲ့သည့် အချိန်ကကဲ့သို့ မြန်မာတစ်မျိုးသားလုံး ညီညီညွတ်ညွတ် လက်တွဲကာကွယ်စောင့်ရှောက်ကြရမည်ဖြစ်ပါကြောင်း၊ (၆၉) နှစ်တိုင်ခဲ့ပြီဖြစ်သည့် မိမိတို့နိုင်ငံ၏ လွတ်လပ်ရေးကို ကာကွယ်ထိန်းသိမ်းစောင့်ရှောက်ရန်နှင့် လွတ်လပ်သည့် နိုင်ငံတော်ကြီး တည်ငြိမ်အေးချမ်းပြီး ခေတ်မီဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်ရမည့် တာဝန်သည် မြန်မာနိုင်ငံသူ နိုင်ငံသားအားလုံး၏ တာဝန်ပင်ဖြစ်ပါကြောင်း။

- နိုင်ငံတော်တည်ငြိမ်အေးချမ်းရေးအတွက် မိမိတို့၏ အသက်ခန္ဓာကိုယ်ကို ပဓာနမထားဘဲ ကြံ့ခိုင်သည့်စိတ်ဓာတ်၊ စံတင်ထိုက်သည့် စွမ်းရည်၊ ဂုဏ်ယူထိုက်သည့် စွန့်စားခြင်းမျိုးဖြင့် ထူးထူးချွန်ချွန် ဆောင်ရွက်ခဲ့ကြသူများအား ဂုဏ်ထူးဆောင်ဘွဲ့များ၊ ဂုဏ်ထူးဆောင်တံဆိပ်များ ချီးမြှင့်အပ်နှင်းရန် စိစစ်ရေးအဖွဲ့၏ ထောက်ခံတင်ပြချက်အရ ယခုလိုဂုဏ်ပြုချီးမြှင့်အပ်နှင်းခြင်းအခမ်းအနားကျင်းပပြီး သီဟသူရဘွဲ့တံဆိပ်ရရှိသူတစ်ဦးနှင့် သူရဘွဲ့တံဆိပ်ရရှိသူ ၁၄ ဦးတို့အား ဂုဏ်ယူစွာဖြင့် ဂုဏ်ထူးဆောင်ဘွဲ့တံဆိပ်များပေးအပ်ချီးမြှင့်သွားမည်ဖြစ်ပါကြောင်း။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် ဘဏ္ဍာရေးကော်မရှင် အစည်းအဝေးပြောကြားချက်မှ ကောက်နုတ်ချက် (၉-၁-၂၀၁၇)

- စိန်ခေါ်မှုများမှာ နိုင်ငံတော်၏ အဓိကရငွေတစ်ခုဖြစ်သည့် သဘာဝဓာတ်ငွေ့ တင်ပို့မှုမှ ရငွေသည် ကမ္ဘာ့သဘာဝဓာတ်ငွေ့ဈေးနှုန်းအခြေအနေကြောင့် ကျဆင်းခြင်း၊ လျှပ်စစ်ဓာတ်အားထုတ်လုပ်မှု ဖြန့်ဖြူးခြင်းကဏ္ဍတွင် ပြည်သူများ သက်သာမှုရရှိစေရန် အရှုံးခံ၍ ထုတ်လုပ်ဖြန့်ဖြူးနေရခြင်း၊ နိုင်ငံတော် ဖွံ့ဖြိုးတိုးတက်ရေးအတွက် အခြေခံအဆောက်အအုံ လိုအပ်ချက်များ ကြီးမားစွာ ရှိနေဆဲဖြစ်ခြင်း၊ ပြည်တွင်းပြည်ပရင်းနှီးမြှုပ်နှံမှုများ စီးဝင်လာစေရန် ဥပဒေ၊ နည်းဥပဒေ ပြဋ္ဌာန်းချက်များအပြင် ပတ်ဝန်းကျင်ကောင်းများ ဖန်တီးပေးရန် ဆက်လက်ဆောင်ရွက်ရမည်ဖြစ်ခြင်း၊ ကုန်သွယ်ဖက်နိုင်ငံများ၏ စီးပွားရေးအခြေအနေနှင့် ကုန်သွယ်မှုမူဝါဒများအပေါ် မူတည်ပြီး မိမိနိုင်ငံ၏ ကုန်သွယ်မှုမူဝါဒများကိုလည်း သုံးသပ်ဆောင်ရွက်ရမည်ဖြစ်ခြင်း၊ ပြည်တွင်း ငွေကြေးဈေးကွက်တည်ငြိမ်စေရေးအတွက် စဉ်ဆက်မပြတ် ဂရုပြုဆောင်ရွက်ရန် လိုအပ်ခြင်း စသည်တို့ဖြစ်ပါကြောင်း၊ အဆိုပါစိန်ခေါ်မှုများကို ရင်ဆိုင်ကျော်လွှားနိုင်ရန် အဘက်ဘက်မှ လေ့လာသုံးသပ်ပြင်ဆင်ထားကြရန်ကိုလည်း တိုက်တွန်းလိုပါကြောင်း။
- ပြည်ထောင်စုအစိုးရအဖွဲ့သည် စီးပွားရေးမူဝါဒ (၁၂) ရပ်ကို ချမှတ်ခဲ့ပြီး ပြည်သူကို ဗဟိုပြု၍အားလုံးပါဝင်နိုင်သည့် စဉ်ဆက်မပြတ် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုရရှိစေရန် ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ နိုင်ငံတော်၏ စီးပွားရေးမူဝါဒများနှင့် အမျိုးသားဖွံ့ဖြိုးမှုစီမံကိန်းများကို အထောက်အကူပြုစေမည့် အသုံးစရိတ်များကို စနစ်တကျခွဲဝေသုံးစွဲသွားရမည်ဖြစ်ပါကြောင်း၊ သို့သော် ကြွေးမြီဝန်ထုပ်ဝန်ပိုး ကြီးလေးမလာစေရန်နှင့် ကြွေးမြီအတွက် ခံနိုင်ရည်ရှိမှုအနေအထားကို ထိန်းသိမ်းထားနိုင်ရေးအတွက် ဘတ်ဂျက်လိုငွေကို ဂျီဒီပီ၏ ၅ ရာခိုင်နှုန်းထက်မကျော်လွန်စေရေးကိုလည်း ဆက်လက်ထိန်းသိမ်းဆောင်ရွက်သွားကြရမည်ဖြစ်ပါကြောင်း။
- နိုင်ငံတော်အနေဖြင့် လူ့စွမ်းအားအရင်းအမြစ် ဖွံ့ဖြိုးတိုးတက်ရေးအတွက် ပညာရေး၊ ကျန်းမာရေး အသုံးစရိတ်များကို နှစ်စဉ်တိုးမြှင့်လျာထားသုံးစွဲလျက်ရှိပါကြောင်း၊ ထို့ပြင် လူမှုကာကွယ်စောင့်ရှောက်ရေး၊ သစ်တောများ ပြန်လည်ထူထောင်ရေး၊ လျှပ်စစ်မီးရရှိရေး၊ ကျေးလက်ဒေသဖွံ့ဖြိုးတိုးတက်ရေး၊ အခြေခံအဆောက်အအုံများ ဖွံ့ဖြိုးတိုးတက်ရေး စသည့် အသုံးစရိတ်များကို ဟန်ချက်ညီအောင် ခွဲဝေသုံးစွဲလျက်ရှိပါကြောင်း၊ ၂၀၁၇-၂၀၁၈ ခုနှစ်တွင် လူမှုကာကွယ်စောင့်ရှောက်ရေးအသုံးစရိတ်များကိုလည်း တိုးမြှင့်ခွဲဝေပေးခဲ့ပါကြောင်း။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် (၆၅) ကြိမ်မြောက် ကယားပြည်နယ်နေ့အခမ်းအနားသို့ ပေးပို့သည့်သဝဏ်လွှာမှ ကောက်နုတ်ချက် (၁၅-၁-၂၀၁၇)

- မြန်မာနိုင်ငံလွတ်လပ်ရေးရပြီးနောက် ပြည်နယ်နှင့်တိုင်းများ ဖွဲ့စည်းတည်ထောင်ရာမှာ ၁၉၄၇ ခုနှစ်၊ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေပုဒ်မ ၁၈၀၊ ပုဒ်မခွဲ (၁)အရ ကရင်နီပြည်နယ်ကို ကရင်ပြည်နယ်အတွင်း ထည့်သွင်းပြဋ္ဌာန်းခဲ့ပြီး ၁၉၅၁ ခုနှစ် ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ ပြင်ဆင်ချက်ဥပဒေ (၁၉၅၁ ခုနှစ် အက်ဥပဒေအမှတ် ၆၂) ပုဒ်မ ၈ အရ ပြည်ထောင်စုမြန်မာနိုင်ငံတော် ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေမှာ “ကရင်နီပြည်နယ်” ဆိုတဲ့ စကားရပ်ပါရှိတဲ့ နေရာတိုင်းမှာ အဲဒီစကားရပ်အစား “ကယားပြည်နယ်” ဆိုတဲ့ စကားရပ်ကိုထည့်သွင်းရမယ်လို့ ပြဋ္ဌာန်းခဲ့ပါကြောင်း၊ ဒီလိုကရင်နီပြည်နယ်မှ ကယားပြည်နယ်သို့ ပြောင်းလဲခေါ်တွင်တဲ့ ပထမဦးဆုံးသော “ကယားပြည်နယ်”နေ့ အခမ်းအနားကို ၁၉၅၂ ခုနှစ်၊ ဇန်နဝါရီလ ၁၅ ရက်နေ့မှာ စတင်ကျင်းပခဲ့တဲ့အတွက် ဒီနှစ်ဆိုရင် (၆၅)နှစ်ပြည့်မြောက်ခဲ့ပြီဖြစ်ပါကြောင်း။
- သမိုင်းကြောင်းကို ပြန်ကြည့်မယ်ဆိုရင် ကယားပြည်နယ်မှာ ကယားမျိုးနွယ်စုဝင် ကိုးမျိုးအပြင် အခြားတိုင်းရင်းသားများလည်း ရှေးပဝေသဏီကတည်းက ချစ်ခင်ရင်းနှီးစွာ နေထိုင်ခဲ့ကြပါကြောင်း၊ လွတ်လပ်ရေးရပြီးနောက်ပိုင်းမှာ တိုင်းရင်းသားညီအစ်ကို မောင်နှမအကြား သံသယများကြောင့် ပဋိပက္ခများ ဆယ်စုနှစ်ပေါင်းများစွာ ဖြစ်ပေါ်ခဲ့တဲ့အတွက် မြန်မာနိုင်ငံဟာ နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေးအဘက်ဘက်မှာ အိမ်နီးချင်းနိုင်ငံများထက် နောက်ကျခဲ့ပါကြောင်း၊ ဒါကြောင့် မိမိတို့အစိုးရသစ်အနေနဲ့ တိုင်းရင်းသားပြည်သူများ နှစ်ပေါင်းကြာရှည်မျှော်လင့်တောင့်တခဲ့ရတဲ့ အမျိုးသားပြန်လည်သင့်မြတ်ရေးနဲ့ ပြည်ထောင်စုငြိမ်းချမ်းရေးကို ဆောင်ကြဉ်းပေးနိုင်ရေးအတွက် ပြည်ထောင်စုငြိမ်းချမ်းရေးညီလာခံ ၂၁ ရာစုပင်လုံကို စတင်အကောင်အထည်ဖော် ကြိုးပမ်းဆောင်ရွက်လျက်ရှိပါကြောင်း။

- ❒ ကယားပြည်နယ်အတွင်းရှိ တိုင်းရင်းသားညီအစ်ကိုမောင်နှမများဟာ ခက်ခဲကြမ်းတမ်းတဲ့ခရီးလမ်းကို ကာလကြာရှည်စွာ ဖြတ်သန်းခဲ့ကြပါကြောင်း၊ တိုင်းရင်းသားညီအစ်ကိုမောင်နှမအချင်းချင်း ယုံကြည်မှုအားနည်းခဲ့ကြပြီး လက်နက်ကိုင်ပဋိပက္ခများဖြစ်ပေါ်ခဲ့တဲ့နေရာမှာ တိုင်းရင်းသားအများစုနေထိုင်ရာဒေသတွေဟာ ထိခိုက်မှုအခံခဲ့ရဆုံးဖြစ်ပါကြောင်း၊ နှစ်ပေါင်းများစွာအတွင်း မျိုးဆက်အလိုက် လူငယ်များရဲ့အနာဂတ်တွေ ဆုံးရှုံးခဲ့ပါကြောင်း၊ ဒါပေမယ့် ဒီနှစ်အချိန်မှာ ကယားပြည်နယ်အတွင်း သေနတ်သံ၊ ဗုံးသံတွေ တိတ်သလောက်ဖြစ်နေပါကြောင်း၊ ကယားပြည်နယ်အတွင်းရှိ တိုင်းရင်းသားလက်နက်ကိုင်အဖွဲ့တွေအနေနဲ့ ပြည်ထောင်စုငြိမ်းချမ်းရေးလုပ်ငန်းစဉ်များမှာ ပူးပေါင်းပါဝင်ဆောင်ရွက်လာခြင်းကြောင့် ပြည်နယ်သူ၊ ပြည်နယ်သားတွေအနေနဲ့ ငြိမ်းချမ်းရေးရဲ့အရသာကို စတင်ခံစားကြရပြီဖြစ်သလို ဖွံ့ဖြိုးတိုးတက်မှု အခွင့်အလမ်းသစ်များလည်း ရရှိနေပြီဖြစ်ပါကြောင်း၊ အခုလိုသေနတ်သံတွေ ရပ်နိုင်ရာက ရေရှည်တည်တံ့ခိုင်မြဲတဲ့ ငြိမ်းချမ်းရေးဖြစ်ဖို့ အတွက် တိုင်းရင်းသား ညီအစ်ကိုမောင်နှမများအားလုံး လက်တွဲပါဝင်ဖို့ လိုပါကြောင်း။
- ❒ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်ကို အေးချမ်းသာယာပြီး ခေတ်မီဖွံ့ဖြိုးတိုးတက်တဲ့ ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စုအဖြစ် တည်ဆောက်ရာမှာ တိုင်းရင်းသားအားလုံး တန်းတူရည်တူ ပါဝင်ဖော်ဆောင်နိုင်ရေးဟာ အထူးအရေးကြီးလှပါကြောင်း၊ ပြည်ထောင်စုရဲ့ နိုင်ငံရေးပြဿနာများကို ငြိမ်းချမ်းစွာ ဆွေးနွေးညှိနှိုင်းအဖြေရှာတဲ့ နိုင်ငံရေးဆွေးနွေးပွဲတွေအတွက် အခြေခံမူဝါဒများထွက်ပေါ်လာမည်ဟု အခိုင်အမာယုံကြည်ထားပါကြောင်း၊ မြန်မာနိုင်ငံလွတ်လပ်ရေးကြိုးပမ်းမှုသမိုင်းမှာ တက်ကြွစွာ ပါဝင်ခဲ့သလို ငြိမ်းချမ်းရေးခရီးလမ်းကို သတ္တိရှိရှိ၊ အမြော်အမြင်ပြည့်ပြည့်ဝဝနဲ့ လျှောက်လှမ်းခဲ့ကြတဲ့ ကယားတိုင်းရင်းသားညီအစ်ကိုမောင်နှမများအားလုံးအနေနဲ့ ရှေ့ဆက်ပြီး အမျိုးသားပြန်လည်သင့်မြတ်ရေး၊ ပြည်ထောင်စုငြိမ်းချမ်းရေးနဲ့ ခေတ်မီဖွံ့ဖြိုးတိုးတက်ရေးတို့မှာ စုစည်းညီညွတ်တဲ့ စွမ်းပကားနဲ့ ဝိုင်းဝန်းပူးပေါင်းပါဝင်ဆောင်ရွက်သွားကြစေလိုပါကြောင်း၊ မိမိတို့ခေတ်အတွက်သာမက အနာဂတ်မှာပါ ပြည်နယ်ခေတ်မီတိုးတက် သာယာလှပစေရေးအတွက် ကြိုးပမ်းတည်ဆောက်သွားကြရန် ဖြစ်ပါကြောင်း။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် (၁၇)ကြိမ်မြောက် မြန်မာ့တိုင်းရင်းဆေးသမားတော်များညီလာခံသို့ ပေးပို့သည့် ဂုဏ်ပြုသဝဏ်လွှာမှ ကောက်နုတ်ချက် (၁၈-၁-၂၀၁၇)

- အမျိုးသားယဉ်ကျေးမှု အမွေအနှစ် ဂုဏ်ဒြပ်တစ်ရပ်ဖြစ်တဲ့ မြန်မာ့တိုင်းရင်းဆေးလောက ဘက်စုံအဆင့်အတန်းမြင့်မားရေး၊ မြန်မာ့တိုင်းရင်းဆေးပညာဖွံ့ဖြိုးတိုးတက်ရေး၊ မြန်မာ့တိုင်းရင်းဆေးဆရာတို့ရဲ့ ကျင့်ဝတ်သိက္ခာမြင့်မားရေးနဲ့ မြန်မာ့တိုင်းရင်းဆေးဝါးများ ပိုမိုကောင်းမွန်လာစေရေးစတဲ့ မွန်မြတ်တဲ့ ရည်ရွယ်ချက်များနဲ့ နှစ်စဉ်မပျက် ကျင်းပလျက်ရှိတဲ့ မြန်မာ့တိုင်းရင်းဆေးသမားတော်များညီလာခံကို ခရစ်သက္ကရာဇ် ၂၀၀၀ ပြည့်နှစ်ကစတင်ပြီး နှစ်စဉ် မပျက်မကွက် ကျင်းပလာခဲ့တာ ယခုဆိုရင် (၁၇)ကြိမ်မြောက်ခဲ့ပြီဖြစ်ပါကြောင်း။
- မြန်မာ့တိုင်းရင်းဆေးပညာဟာ မြန်မာ့ရေမြေသဘာဝ၊ ရာသီဥတု၊ မြန်မာ့ရိုးရာအတွေးအခေါ် အယူအဆ၊ မြန်မာ့လူနေမှုစနစ်တို့နဲ့ အပြန်အလှန်အကျိုးပြုယှဉ်တွဲဖြစ်ထွန်းလာခဲ့တဲ့ မြန်မာ့ရိုးရာ အမွေအနှစ် ပညာရပ်စစ်စစ်တစ်ရပ်လည်းဖြစ်ပါကြောင်း၊ ဒါကြောင့် နိုင်ငံတော်အစိုးရဟာ မြန်မာ့တိုင်းရင်းဆေးပညာကို ရိုးရာယဉ်ကျေးမှုအမွေအနှစ်တစ်ရပ်အဖြစ်နဲ့သော်လည်းကောင်း၊ တိုင်းရင်းသားပြည်သူများကို ကျန်းမာရေးစောင့်ရှောက်မှုပေးနိုင်တဲ့ ဆေးပညာတစ်ရပ်အဖြစ်နဲ့သော်လည်းကောင်း အခွန့်ရှည်တည်တံ့ခိုင်မြဲပြီး နည်းလမ်းတကျ ဆက်လက်တိုးတက်ထွန်းကားစေဖို့ အလေးထားအားပေးစောင့်ရှောက်နေခြင်းဖြစ်ပါကြောင်း။
- "အာရောဂျံ ပရမံ လာဘံ" ကျန်းမာခြင်းသည် လာဘ်တစ်ပါးဖြစ်တာနဲ့အညီ ကျန်းမာကြံ့ခိုင်တဲ့ ပြည်သူတို့ကသာလျှင် နိုင်ငံအကျိုးစီးပွားကို ထိရောက်စွာ ဖော်ဆောင်မြှင့်တင်ပေးနိုင်မှာဖြစ်ပါကြောင်း၊ နိုင်ငံတော်အစိုးရအနေနဲ့လည်း တစ်မျိုးသားလုံး ကျန်းမာကြံ့ခိုင်ရေးနဲ့ ပညာရည်မြင့်မားရေးကို အကောင်အထည်ဖော်ဆောင်ရွက်လျက်ရှိပါကြောင်း၊ အဲဒီလိုဆောင်ရွက်ရာမှာလည်း တိုင်းရင်းဆေးပညာ အဆင့်အတန်းမြှင့်တင်ရေးနဲ့ မြန်မာ့တိုင်းရင်းဆေးပညာနဲ့ ပြည်သူတို့ကို ကျန်းမာရေးစောင့်ရှောက်မှု တိုးမြှင့်လွှမ်းခြုံပေးနိုင်ရေးတို့ကို

အမျိုးသားကျန်းမာရေးဆိုင်ရာ မူဝါဒတစ်ရပ်အဖြစ် ထည့်သွင်းသတ်မှတ်ဆောင်ရွက်လျက်ရှိပါကြောင်း။

❒ မြန်မာတို့ရဲ့ ရိုးရာအမွေအနှစ်စစ်စစ်ဖြစ်ပြီး မူပိုင်ခွင့်ရရှိသင့်တဲ့ တိုင်းရင်းဆေးပညာ၊ တိုင်းရင်းဆေးဝါးများ၊ တိုင်းရင်းဆေးကုထုံးများ၊ ဆေးဖက်ဝင်အပင်များနဲ့ပတ်သက်ပြီး Intellectual Property Rights Law ရေးဆွဲနိုင်ရေးအတွက် တိုင်းရင်းဆေးပညာရှင်များ၊ သိပ္ပံပညာရှင်များ၊ ဥပဒေပညာရှင်များ ပူးပေါင်းရေးဆွဲဆောင်ရွက်နိုင်ဖို့၊ အခြားနိုင်ငံတွေမှာ ကျင့်သုံးနေတဲ့ ဥပဒေနဲ့ Intellectual Property Rights ဆက်နွှယ်ပုံတွေကိုလေ့လာပြီး မြန်မာနိုင်ငံနဲ့ သင့်လျော်မည့်ဥပဒေနဲ့ Intellectual Property Rights Law ရေးဆွဲရာမှာ မြန်မာ့တိုင်းရင်းဆေးပညာ၊ ဆေးပင်များ၊ ကုထုံးများနဲ့ပတ်သက်ပြီး ထည့်သွင်းရေးဆွဲနိုင်စေရေးဟာလည်း ခေတ်ကာလအခြေအနေအရ လိုအပ်လာတဲ့ အချက်တစ်ခုဖြစ်ပါကြောင်း။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် နိဘယ်လ်-မြန်မာစာပေပွဲတော် ၂၀၁၇၊ ရသစာပေဖွင့်ပွဲအခမ်းအနားတွင် ပြောကြားသည့်မိန့်ခွန်းကောက်နုတ်ချက် (၂၂-၁-၂၀၁၇)

- ❒ စာပေဆိုသည်မှာ အသိဉာဏ်ပညာတို့ စုဝေးကိန်းအောင်းရာ နေရာဖြစ်ကြောင်း၊ နိုင်ငံတစ်နိုင်ငံနှင့် လူမျိုးတစ်မျိုးအတွက် စာပေအဆင့်အတန်းမြင့်မားသည်ဆိုသည်မှာ နိုင်ငံနှင့်လူမျိုးအတွက် ပညာမြင့်မားခြင်းပင်ဖြစ်ကြောင်း၊ အသိဉာဏ်ပညာမြင့်မားသည့် နိုင်ငံသားတို့ရှိမှသာလျှင် အဆိုပါနိုင်ငံသည် တိုးတက်ဖွံ့ဖြိုးမည်၊ ငြိမ်းချမ်းမည် ဆိုသည်မှာ အမှန်တရားတစ်ရပ်ဖြစ်ပါကြောင်း၊ စာပေမြင့်မားတိုးတက်ရေးသည် မိမိတို့ကဲ့သို့ တိုင်းပြည်ငြိမ်းချမ်းရေး ရရှိပြီး ဖွံ့ဖြိုးတိုးတက်လာအောင် တည်ဆောက်နေရသည့်နိုင်ငံအဖို့ ပို၍ အရေးကြီးသည်ဟု ယူဆပါကြောင်း။
- ❒ နိဘယ်လ်-မြန်မာစာပေပွဲတော်ဟူ၍ ကျင်းပခဲ့သည်မှာ ယခုဆိုလျှင် သုံးနှစ်ရှိခဲ့ပြီး စာအုပ်များကို မြတ်နိုးချစ်ခင်စွာဖြင့် ကျင်းပသည့် ဤပွဲတော်ကြီးကို ယခုနှစ်တွင် ရသစာပေဆိုသည့် ခေါင်းစဉ်နှင့် ကျင်းပသည်ကို တွေ့ရပါကြောင်း၊ ရသစာပေနှင့်ပတ်သက်၍ပြောရလျှင် မြန်မာဝတ္ထုရှည်သမိုင်း၏ အဦးအစဟုဆိုရမည့် ဂျိမ်းစ်လှကျော်၏ "မောင်ရင်မောင် မမယ်မ"နှင့် ဝန်စာရေးကြီး၏ "ချဉ်ပေါင်ရွက်သည် မောင်မှိုင်း"စာအုပ်တို့သည် ၁၉၀၄ ခုနှစ်တွင် ထွက်ရှိခဲ့သည်ဖြစ်၍ နှစ်ပေါင်းတစ်ရာကျော် ရှိခဲ့ပြီဖြစ်ကြောင်း၊ ယနေ့ကျင်းပသည့်ပွဲတွင် ထိုသို့နှစ်တစ်ရာကျော် ကာလကစပြီး ခေတ်အဆက်ဆက်တွင် ထင်ရှားကာ ဂန္ထဝင်အဖြစ် တွင်ကျန်ရစ်သည့် စာအုပ်များကို စုဆောင်းဖော်ထုတ်ပြသထားသည့် စာအုပ်ပြပွဲအခင်းအကျင်းများကို တွေ့ရသည်မှာ အားရဖွယ်ဖြစ်ကြောင်း။
- ❒ ရသစာပေကောင်းများသည် မိမိတို့အတွက် ထိုကဲ့သို့ မြင့်မြတ်သည့် လူသားချင်းစာနာတတ်သည့် စိတ်မျိုးကို ဖြစ်ပေါ်စေနိုင်ပါကြောင်း၊ ထို့ကြောင့်လည်း ဤကဲ့သို့ ရသစာပေစာကောင်းများ ပေါ်ထွက်ရန် မိမိတို့နိုင်ငံတွင် လိုအပ်သည်ဟု ယုံကြည်ပါကြောင်း၊ ဤနေရာတွင် စိတ်ကောင်းရှိမှ စာကောင်းထွက်တယ်၊ စေတနာကောင်းရှိမှ စာကောင်းထွက်တယ်ဆိုသည့် စကားအတိုင်း စာရေးဆရာတို့၏ စေတနာသည် အလွန်ပင်အရေးကြီးပါကြောင်း။

❒ ယနေ့ မြန်မာနိုင်ငံသည် အားလုံးသိကြသည့်အတိုင်း သူတစ်ပါးမထိခိုက်စေသော လူတစ်ဦးချင်းစီ၏ လွတ်လပ်ခွင့်၊ နိုင်ငံသားအားလုံး လွတ်လပ်ခွင့်တို့နှင့်အတူ စာပေလွတ်လပ်ခွင့်ဆိုသည်လည်း ရှိလာနေပြီဖြစ်ကြောင်း၊ ဤသို့ တိုးတက်ရရှိလာသည့် စာပေလွတ်လပ်ခွင့်ကို အခြေခံပြီး မိမိတို့နိုင်ငံ၏ တိုးတက်ဖွံ့ဖြိုးမှုနှင့် ငြိမ်းချမ်းရေး၊ မိမိတို့နိုင်ငံသားများတစ်ဦးချင်း၏ ကြီးပွားချမ်းသာရေးနှင့် စိတ်အေးချမ်းသာယာမှုတို့ကို ဝိုင်းဝန်းတည်ဆောက်နိုင်ပါစေဟု ယခုကဲ့သို့ မင်္ဂလာရှိသည့် နိုဘယ်လ်-မြန်မာစာပေပွဲတော်တွင် နှီးဆော်ဆုမွန်ကောင်း တောင်းပါကြောင်း။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် ရှမ်းပြည်နယ်နေ့ အခမ်းအနားသို့ ပေးပို့သည့် သဝဏ်လွှာမှ ကောက်နုတ်ချက် (၇-၂-၂၀၁၇)

- ရှမ်းတိုင်းရင်းသားများဟာ တောင်တန်းဒေသ တိုင်းရင်းသားများဖြစ်ကြတဲ့ ချင်း၊ ကချင်တို့နဲ့အတူ ပြည်မနဲ့အတူတကွ လွတ်လပ်ရေးကို အရယူမယ်ဆိုတဲ့ ဆုံးဖြတ်ချက်ကို ၁၉၄၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၇ ရက်နေ့မှာ ချမှတ်နိုင်ခဲ့ပါတယ်။ တိုင်းရင်းသားစည်းလုံးညီညွတ်မှုဟာ ပင်မမဏ္ဍိုင်ဖြစ်တယ်ဆိုတာကို ထင်ရှားစေခဲ့တဲ့ ပင်လုံစာချုပ်ကို ချုပ်ဆိုပြီး လွတ်လပ်ရေးရယူရန် ဆုံးဖြတ်နိုင်ခဲ့တဲ့ ဖေဖော်ဝါရီလ ၇ ရက်နေ့ကို ဂုဏ်ပြုသောအားဖြင့် ရှမ်းပြည်နယ်နေ့အဖြစ် သတ်မှတ်ကာ အထိမ်းအမှတ်အခမ်းအနားများ ပြုလုပ်ကျင်းပလာခဲ့တာဟာ ယခုဆိုလျှင် နှစ်ပေါင်း (၇၀)ပြည့်မြောက်ခဲ့ပြီဖြစ်ပါတယ်။ ပြည်ထောင်စုဖွားတိုင်းရင်းသားအားလုံး မြန်မာတစ်မျိုးသားလုံးနဲ့ သက်ဆိုင်တဲ့နေ့ဖြစ်ကြောင်း အလေးအနက်ပြောကြားလိုပါတယ်။
- ယနေ့အချိန်အခါမှာ တိုင်းရင်းသားသွေးချင်းများအနေနဲ့ သံသယများနဲ့ ပဋိပက္ခများ ချုပ်ငြိမ်းပပျောက်ပြီး ရေရှည်တည်တံ့တဲ့ စစ်မှန်တဲ့ ငြိမ်းချမ်းရေး ရရှိဖို့နဲ့ ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စုတည်ဆောက်ဖို့ နည်းလမ်းပေါင်းစုံနဲ့ ကြိုးပမ်းဆောင်ရွက်လျက်ရှိပါတယ်။ နိုင်ငံတော်အစိုးရအနေနဲ့ ပြည်ထောင်စုငြိမ်းချမ်းရေးညီလာခံ ၂၁ ရာစုပင်လုံ ကျင်းပခြင်းဖြင့် အမျိုးသားပြန်လည်သင့်မြတ်ရေးနဲ့ ပြည်ထောင်စုငြိမ်းချမ်းရေးလုပ်ငန်းစဉ်ကို ကြိုးပမ်းဆောင်ရွက်နေပြီဖြစ်ပါတယ်။ လက်နက်ကိုင်ပဋိပက္ခများကြောင့် နိုင်ငံဖွံ့ဖြိုးမှုများလည်း ဆယ်စုနှစ်များစွာ နောက်ကျကျန်ရစ်ခဲ့တာကိုလည်း အထင်အရှားတွေ့မြင်ခဲ့ကြရပြီးဖြစ်ပါတယ်။
- မြန်မာနိုင်ငံရဲ့ နယ်မြေဒေသအသီးသီးမှာ ဟန်ချက်ညီဖွံ့ဖြိုးတိုးတက်ရေးနဲ့ တိုင်းရင်းသားပြည်သူတစ်ရပ်လုံးရဲ့ စားဝတ်နေမှုပြည့်စုံရေး၊ လုံခြုံမှုရှိရေး၊ လူမှုစီးပွားဘဝဖွံ့ဖြိုးတိုးတက်လာစေရေးတို့အတွက် တောင်ပေါ်မြေပြန့်နဲ့ ပြည်နယ်ပြည်မမခွဲခြားဘဲ တိုင်းရင်းသားပြည်သူတစ်ရပ်လုံးက ပြည်ထောင်စုအစိုးရနဲ့အတူ လက်တွဲပူးပေါင်းဆောင်ရွက်သွားဖို့ လိုအပ်ပါတယ်။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် နှစ်(၇၀)ပြည့် ပြည်ထောင်စုနေ့အခမ်းအနားသို့ ပေးပို့သည့် သဝဏ်လွှာမှ ကောက်နုတ်ချက်

(၁၂-၂-၂၀၁၇)

- ❐ နိုင်ငံတော်ဖွံ့ဖြိုးတိုးတက်ရေးအတွက် နိုင်ငံရေးနဲ့စီးပွားရေးဟာ ဒွန်တွဲလျက်ရှိပြီး စီးပွားရေးမူဝါဒကို အခြေခံတဲ့ အုတ်မြစ်များထဲက အရေးကြီးဆုံးအချက်တစ်ချက်ကတော့ အမျိုးသားပြန်လည်သင့်မြတ်ရေး၊ အမျိုးသားပြန်လည်ရင်ကြားစေ့ရေးပဲဖြစ်ပါတယ်။ အနာဂတ်ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စုကို ပုံဖော်နိုင်ဖို့အတွက် ၂၁ ရာစု ပင်လုံညီလာခံကိုလည်း ကျင်းပနေပြီဖြစ်ပါတယ်။ ၂၁ ရာစုပင်လုံညီလာခံရဲ့ အနှစ်သာရကတော့ တစုတစည်းတည်းဖြစ်တဲ့ ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စုကြီး ပေါ်ထွန်းလာရေးပဲဖြစ်ပါတယ်။ နှစ်ပေါင်းများစွာ သက်တမ်းရှည်ကြာခဲ့တဲ့ လက်နက်ကိုင်ပဋိပက္ခတွေ ချုပ်ငြိမ်းပြီး အမျိုးသားပြန်လည်သင့်မြတ်စည်းလုံးနိုင်ရေးအတွက် ဖြေရှင်းချက်က "ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စု တည်ထောင်ရေး"ပဲဖြစ်ပါတယ်။
- ❐ ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စုကို တည်ဆောက်ရေးရဲ့ အရင်းခံဟာ ပြည်ထောင်စုစိတ်ဓာတ်ဖြစ်ပါတယ်။ တိုင်းရင်းသားပြည်သူတစ်ရပ်လုံး ညီညီညွတ်ညွတ်နဲ့ အချင်းချင်းအပြန်အလှန်ညှိနှိုင်းတိုင်ပင်ကာ ပြည်ထောင်စုကြီးတစ်ရပ် တည်ဆောက်မယ်ဆိုတဲ့ ခိုင်မာတဲ့သန္နိဋ္ဌာန်ဟာ ပြည်ထောင်စုစိတ်ဓာတ်ပဲဖြစ်ပါတယ်။ ပြည်ထောင်စုစိတ်ဓာတ်ခိုင်မာမှုမရှိဘဲ၊ ပြည်ထောင်စုစိတ်ဓာတ် နိုးကြားရှင်သန်မှုမရှိဘဲ ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စုကို တည်ဆောက်နိုင်မှာမဟုတ်ပါဘူး။
- ❐ တိုင်းရင်းသားပြည်သူတစ်ရပ်လုံးရဲ့ ချစ်ခင်စည်းလုံးညီညွတ်မှုနဲ့ ပြည်ထောင်စုကြီး အဓွန့်ရှည်ကြာစွာ တည်တံ့ခိုင်မြဲအောင် ဆောင်ရွက်ကြရာမှာ တိုင်းရင်းသားအားလုံး တန်းတူရည်တူ ပါဝင်ဖော်ဆောင်နိုင်မှုဟာ အရေးကြီးလှပါတယ်။ ဒီမိုကရေစီဖက်ဒရယ်စနစ်အတွင်းမှာ တိုင်းရင်းသားတွေ လိုလားတောင့်တနေတဲ့ ကိုယ်ပိုင်ပြဋ္ဌာန်းခွင့်ကို တည်ဆောက်ကြရမှာဖြစ်ပါတယ်။ အမျိုးသား ပြန်လည်သင့်မြတ်ရေးကို ဆောင်ရွက်ကြရမှာလည်း နိုင်ငံတော်နဲ့ တိုင်းရင်းသား

လက်နက်ကိုင် အဖွဲ့အစည်းတွေအကြား သင့်မြတ်ရေးအတွက်ပါ ဆောင်ရွက်သွားကြမှာ ဖြစ်ပါတယ်။ ငြိမ်းချမ်းရေးလုပ်ငန်းစဉ်ရဲ့ အဓိကလိုအပ်ချက်ဟာ ယုံကြည်မှုပင်ဖြစ်တဲ့အတွက် တိုင်းရင်းသားညီအစ်ကို မောင်နှမများအကြား သံသယစိတ်ကင်းစင်ပြီး ခိုင်မာတဲ့ ယုံကြည်မှုရရှိဖို့ ကြိုးပမ်းသွားဖို့ လိုအပ်ပါတယ်။ တိုင်းရင်းသားသွေးစည်းညီညွတ်မှုနဲ့ အမျိုးသားပြန်လည်သင့်မြတ်မှုတို့ ခိုင်မာသည်ထက်ခိုင်မာအောင် တည်ဆောက်နိုင်တာနဲ့အမျှ ငြိမ်းချမ်းသာယာဝပြောတဲ့ ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စုကြီးကို မလွဲမသွေ တည်ဆောက်နိုင်မှာ ဖြစ်ပါတယ်။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် (၆၉)နှစ်မြောက် ချင်းအမျိုးသားနေ့ အခမ်းအနားသို့ ပေးပို့သည့် သဝဏ်လွှာမှ ကောက်နုတ်ချက် (၂၀-၂-၂၀၁၇)

- မြန်မာနိုင်ငံရဲ့ နိုင်ငံရေးပြောင်းလဲမှုမှာ နိုင်ငံရေးအင်အားစုများ ဝင်ရောက်ယှဉ်ပြိုင်တဲ့ ပါတီစုံဒီမိုကရေစီအထွေထွေရွေးကောက်ပွဲကို ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၈ ရက်နေ့မှာ အောင်မြင်စွာကျင်းပနိုင်ခဲ့ပြီး ဖွဲ့စည်းပုံအခြေခံဥပဒေနဲ့အညီ မိမိတို့အစိုးရက နိုင်ငံ့တာဝန်များကို စနစ်တကျလွှဲပြောင်းရယူခဲ့ပါတယ်။ မိမိတို့အစိုးရအနေနဲ့ ချင်းပြည်နယ်အတွင်းမှာရှိတဲ့ တိုင်းရင်းသားပြည်သူများရဲ့ အနာဂတ်လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်ရေးအတွက် ဆောင်ရွက်ပေးလျက်ရှိရာ မြို့ပြနဲ့ကျေးလက်ဖွံ့ဖြိုးတိုးတက်မှုနဲ့ မြို့နယ်အသီးသီးကြား ဖွံ့ဖြိုးတိုးတက်မှုတို့ တစ်ပြေးညီဖြစ်စေဖို့ အခြေခံပညာကျောင်းများ တိုးချဲ့ဖွင့်လှစ်ပေးခြင်း၊ အဆင့်တိုးမြှင့်ပေးခြင်း၊ ပညာရေးဆိုင်ရာအဆောက်အအုံများ ပြုပြင်ပေးခြင်းနဲ့ အသစ်ဆောက်လုပ်ပေးခြင်း၊ ဆရာ ဆရာမများ တိုးချဲ့ခန့်ထားပေးခြင်း၊ ကျန်းမာရေးစောင့်ရှောက်မှုအတွက် ဆေးရုံ၊ ဆေးပေးခန်းများ တိုးချဲ့ဖွင့်လှစ်ပေးခြင်းနဲ့ ဆရာဝန်လိုအပ်မှု ဖြည့်ဆည်းပေးခြင်းတို့ကိုလည်း ဆောင်ရွက်ပေးလျက်ရှိနေပါတယ်။
- ချင်းပြည်နယ်မှာ သွားလာဖို့ခက်ခဲတဲ့ သဘာဝမြေမျက်နှာပြင်နဲ့ မြင့်မားတဲ့ တောင်တန်း၊ တောင်စွယ်များ တည်ရှိခြင်းကြောင့် ဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းများဆောင်ရွက်ရာမှာ အခက်အခဲများကြုံတွေ့နေရသော်လည်း နိုင်ငံတော်အနေနဲ့ ပြည်နယ်တိုးတက်ရေးအတွက် ကြိုးပမ်းဖြည့်ဆည်းဆောင်ရွက်ပေးလျက်ရှိပြီး ချင်းပြည်နယ်အတွင်းရှိ တိုင်းရင်းသားများကလည်း တတ်စွမ်းသရွေ့ ပူးပေါင်းပါဝင်ဆောင်ရွက်သွားဖို့လိုအပ်ပါတယ်။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် (၆၉)နှစ်မြောက် ချင်းအမျိုးသားနေ့ အခမ်းအနားတွင် ပြောကြားသော မိန့်ခွန်းမှကောက်နုတ်ချက် (၂၀-၂-၂၀၁၇)

- ❑ လွတ်လပ်ရေးရရှိပြီးနောက် ၁၉၄၈ ခုနှစ်၊ ဖေဖော်ဝါရီ ၂၀ ရက်တွင် ချင်းပြည်နယ် ဖလမ်းမြို့၌ လူထုညီလာခံကျင်းပပြီး တိုက်သူကြီး(စော်ဘွား)များ အုပ်ချုပ်သည့်စနစ်မှ ဒီမိုကရေစီအုပ်ချုပ်ရေးစနစ်သို့ ပြောင်းလဲကျင့်သုံးရန် ဆုံးဖြတ်ခဲ့ကြပါကြောင်း၊ ၁၉၅၀ ပြည့်နှစ်၊ အောက်တိုဘာလ ၉ ရက်တွင် ရန်ကုန်မြို့၌ ကျင်းပသည့် သတ္တမအကြိမ် ချင်းရိုးရာကောင်စီညီလာခံတွင်လည်း ချင်းအမျိုးသားနေ့သတ်မှတ်ရေးအဆိုများ တင်သွင်းမှုအပေါ် တက်ရောက်လာကြသည့် အမတ်အားလုံး၏ ဆန္ဒကိုရယူပြီး ဖလမ်းမြို့၌ လူထုညီလာခံကျင်းပခဲ့သည့် ဖေဖော်ဝါရီ ၂၀ ရက်ကို "ချင်းအမျိုးသားနေ့"အဖြစ် ရွေးချယ်သတ်မှတ်အတည်ပြုခဲ့ပါကြောင်း၊ ၁၉၄၈ ခုနှစ်ကိုအစပြုပြီး သတ်မှတ်ခဲ့သည့် ချင်းအမျိုးသားနေ့သည် ယခုနှစ်ဆိုလျှင် (၆၉)နှစ်မြောက်ရှိခဲ့ပြီဖြစ်ပါကြောင်း၊ ချင်းအမျိုးသားနေ့သည် ဘာသာစကား၊ ယဉ်ကျေးမှု၊ သမိုင်းအစဉ်အလာနှင့် ရိုးရာဓလေ့ထုံးတမ်းအရ တူညီသည့်မျိုးနွယ်စုအားလုံးပါဝင်သည့် ချင်းလူမျိုးတို့၏ နေ့ထူးနေ့မြတ်လည်း ဖြစ်ပါကြောင်း။
- ❑ မိမိတို့အစိုးရအနေဖြင့် ချင်းပြည်နယ်အတွင်းရှိ တိုင်းရင်းသားပြည်သူများ၏ အနာဂတ်လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်ရေးအတွက် ဆောင်ရွက်ပေးလျက်ရှိရာ မြို့ပြနှင့်ကျေးလက်ဖွံ့ဖြိုးတိုးတက်မှုနှင့် မြို့နယ်အသီးသီးကြား ဖွံ့ဖြိုးတိုးတက်မှုတို့ တစ်ပြေးညီဖွံ့ဖြိုးတိုးတက်စေရန် အခြေခံပညာကျောင်းများ တိုးချဲ့ဖွင့်လှစ်ပေးခြင်း၊ အဆင့်တိုးမြှင့်ပေးခြင်း၊ ပညာရေးဆိုင်ရာ အဆောက်အအုံများ ပြုပြင်ပေးခြင်းနှင့် အသစ်ဆောက်လုပ်ခြင်း၊ ဆရာ ဆရာမများ တိုးချဲ့ခန့်ထားခြင်း၊ ကျန်းမာရေးစောင့်ရှောက်မှုအတွက် ဆေးရုံ၊ ဆေးပေးခန်းများ တိုးချဲ့ဖွင့်လှစ်ပေးခြင်းနှင့် ဆရာဝန်လိုအပ်ချက် ဖြည့်ဆည်းပေးခြင်းတို့ကိုလည်း ဆောင်ရွက်ပေးလျက်ရှိပါကြောင်း။
- ❑ အမျိုးသားအဆင့် နိုင်ငံရေးဆွေးနွေးပွဲများမှတစ်ဆင့် ပြည်ထောင်စုငြိမ်းချမ်းရေးညီလာခံ (၂၁)ရာစုပင်လုံအောင်မြင်ရန် တိုင်းရင်းသားများ လိုလားတောင့်တ

နေသည့် တန်းတူရေးနှင့် ကိုယ်ပိုင်ပြဋ္ဌာန်းခွင့်ကို အာမခံချက်ပေးနိုင်မည့် ဖက်ဒရယ်စနစ်ထွက်ပေါ်လာရေး၊ ပြည်ထောင်စုမျှော်မှန်းချက်၊ ပြည့်ဝအောင်မြင်ရေး ကြိုးပမ်းဆောင်ရွက်ကြရာတွင် ချင်းပြည်နယ်အတွင်းတွင်ရှိသည့် တိုင်းရင်းသားပြည်သူများအားလုံးကလည်း စည်းလုံးညီညွတ်စွာဖြင့် ဝိုင်းဝန်းပါဝင်ဆောင်ရွက်သွားကြရန် လေးနက်စွာတိုက်တွန်းပါကြောင်း။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် ကလေးမြို့နယ်ခန်းမ၌ မြို့နယ်လူထုနှင့် တွေ့ဆုံစဉ် တိုက်တွန်းမှာကြားချက်မှ ကောက်နုတ်ချက် (၂၂-၂-၂၀၁၇)

- မတရားမှုများကို နိုင်ငံတော်သမ္မတရုံးသို့ လိပ်မူပြီး ပေးပို့တိုင်ကြားနိုင်ပါကြောင်း၊ တတ်နိုင်သည့်ဘက်က တရားဥပဒေနှင့်အညီ ဖြစ်စေရန် မတရားလုပ်သူများကို ဥပဒေနည်းလမ်းအတိုင်း ထိုက်သင့်သည့် ပြစ်ဒဏ်ရအောင် လုပ်ဆောင်သွားမည်ဖြစ်ပါကြောင်း၊ ယနေ့အချိန်တွင် အဂတိလိုက်စားမှုများ၊ လာဘ်စားမှုများ ရှိနေသေးသည်ကို မလိုလားပါကြောင်း။
- နိုင်ငံတော်သစ်တည်ဆောက်သည့်နေရာတွင် ဒေသအားလုံးဖွံ့ဖြိုးတိုးတက်အောင် စီမံချက်များဖြင့် လုပ်ဆောင်နေပါကြောင်း၊ ဆောင်ရွက်ပေးရမည့်လုပ်ငန်းများအားလုံး တစ်ပြိုင်တည်း မလုပ်နိုင်ပါကြောင်း၊ ငွေရေးကြေးရေး အကန့်အသတ်ရှိပါကြောင်း၊ ပြည်သူများအနေဖြင့် သည်းခံစေလိုပါကြောင်း၊ အစိုးရအနေဖြင့် လုပ်သည် မလုပ်သည်ကို ပြည်သူများအနေဖြင့် စောင့်ကြည့်စေလိုပါကြောင်း၊ အစိုးရအနေဖြင့် ချက်ချင်းဆောင်ရွက်ပေးနိုင်သည့် ကိစ္စရပ်များရှိသကဲ့သို့ ဆောင်ရွက်မပေးနိုင်သေးသည့် ကိစ္စရပ်များကိုလည်း ဆက်လက်ကြိုးစားဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း။
- လုပ်ငန်းများဆောင်ရွက်ရာတွင်လည်း ဝန်ထမ်းတိုင်းသည် မိမိကျရာတာဝန်ကို ဖြောင့်ဖြောင့်မတ်မတ် မှန်မှန်ကန်ကန် စေတနာထားပြီး သစ္စာတရားနှင့် အလုပ်လုပ်ကြရန် တိုက်တွန်းပါကြောင်း၊ မိမိကိုယ်တိုင် မှန်ကန်ရုံဖြင့် မပြီးပါကြောင်း၊ မိမိပတ်ဝန်းကျင်ရှိလူများ မှန်ကန်မှု ရှိ၊ မရှိကြည့်ပြီး မမှန်ကန်ပါက တတ်နိုင်သမျှ ဝိုင်းဝန်းပြုပြင်ပေးကြရန် လိုအပ်ပါကြောင်း၊ သူတစ်ပါးအကျိုး ပျက်စီးအောင် မလုပ်ရန်လိုအပ်ပါကြောင်း၊ သူတစ်ပါးအကျိုးပျက်စီးစေပါက မိမိအတွက်လည်း အကျိုးမဖြစ်နိုင်ပါကြောင်း၊ တိုင်းသူပြည်သားအားလုံး ကျရာအလုပ်ကို လုပ်ဆောင်ကြရာတွင် စေတနာ၊ သစ္စာ၊ ကရုဏာဖြင့် လုပ်ဆောင်ကြစေလိုကြောင်း။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် အသေးစားနှင့် အလတ်စား စီးပွားရေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေး ဗဟိုကော်မတီ(၁/၂၀၁၇) အစည်းအဝေးပြောကြားချက်မှ ကောက်နုတ်ချက် (၁-၃-၂၀၁၇)

- ❒ နိုင်ငံရဲ့ စီးပွားရေးယန္တရား တည်ဆောက်ပေးကြသူများဖြစ်တဲ့ SME တွေ ရှင်သန်ဖွံ့ဖြိုးတိုးတက်စေဖို့ အားပေးဆောင်ရွက်ဖို့နဲ့ SME လုပ်ငန်းတွေ ဖွံ့ဖြိုးတိုးတက်စေရေးအတွက် Policy တွေ၊ ဥပဒေတွေ၊ နည်းဥပဒေတွေ၊ လုပ်ထုံးလုပ်နည်းတွေကို ပြန်လည်သုံးသပ် ပြုစုပြဋ္ဌာန်း ဆောင်ရွက်သွားရမှာ ဖြစ်ပါတယ်။
- ❒ အကောင်အထည်ဖော်ရာမှာလည်း နိုင်ငံတော်အဆင့်၊ ပြည်နယ်/ တိုင်းဒေသကြီးအဆင့်နဲ့ ဒေသအဆင့်တို့မှာ လိုအပ်တဲ့ ကျောရိုးမူဘောင်တွေ ကို ခိုင်မာစွာ တည်ထောင်ရမှာ ဖြစ်ပါတယ်။ အသေးစားနဲ့ အလတ်စား စီးပွားရေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေးအတွက် အဓိကထားရမယ့် Factor (၄)ခုဖြစ်တဲ့ လုပ်ငန်းသစ်များ အစပျိုးရာမှာ တွေ့ကြုံရမယ့် အခက်အခဲ အတား အဆီးများ လျှော့ချရေး၊ ရင်းနှီးမတည်ငွေ စီးဆင်းမှု၊ ပညာပေးခြင်းနဲ့ စွန့်ဦးတီထွင်မှုလုပ်ငန်းများကို အားကောင်းစေခြင်း၊ သတင်းကွန်ရက် ချိတ်ဆက်ခြင်းနဲ့ ကျယ်ကျယ်ပြန့်ပြန့် သတင်းဖြန့်ချိမှု အားကောင်းစေခြင်းဖြင့် International Supply Chain ထဲ ဝင်ရောက်ခြင်းတို့ကို ဆောင်ရွက်ရမှာ ဖြစ်ပါတယ်။
- ❒ တိုင်းပြည်တစ်ခု၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုတွင် SME များသည် အဓိကအသက်သွေးကြောအဖြစ် တည်ရှိနေသည်ကို တွေ့ရပါကြောင်း၊ SME များသည် နိုင်ငံဖွံ့ဖြိုးမှု၏ မောင်းနှင်အားဖြစ်သကဲ့သို့ စွန့်ဦးတီထွင်မှု Entrepreneurship လုပ်ငန်းများလည်း ဖြစ်ကြပါကြောင်း၊ ပြောင်းလဲနေသည့် ဈေးကွက်လိုအပ်ချက်ကို လုပ်ငန်းကြီးများထက် ပိုမိုလျင်မြန်လွယ်ကူစွာ တုံ့ပြန်နိုင်စွမ်းနှင့် ပြုပြင်ပြောင်းလဲနိုင်စွမ်း ရှိကြပါကြောင်း။
- ❒ SME လုပ်ငန်းများသည် အလွန်များပြားလှပြီး ကျယ်ပြန့်ခြင်းကြောင့် စနစ်တကျ အာရုံစိုက်၍ ဘက်ပေါင်းစုံ ပံ့ပိုးဆောင်ရွက်သင့်သည်ဟု ပြောကြားလိုပါကြောင်း၊ ယခုအစည်းအဝေးမှစ၍ SME ဖွံ့ဖြိုးရေးလုပ်ငန်းများကို ယခင်ကထက် ပိုမိုကျယ်ပြန့်စွာ အရှိန်မြှင့်ထောက်ပံ့ပေးနိုင်မည်ဟု ယုံကြည်ပါကြောင်း၊ ထို့ကြောင့် စီးပွားရေးတိုးတက်မှုတွင် အဓိကပါဝင်သည့် SME များ တိုးတက်ရန် အင်တိုက်အားတိုက် ဆောင်ရွက်ကြပါရန် တိုက်တွန်းပါကြောင်း။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် တောင်သူလယ်သမားနေ့အခမ်းအနားသို့ ပေးပို့သော သဝဏ်လွှာမှ ကောက်နုတ်ချက် (၂-၃-၂၀၁၇)

- ❒ မိမိတို့ ပြည်ထောင်စုမြန်မာနိုင်ငံမှာ လူဦးရေရဲ့ ၇၀ ရာခိုင်နှုန်းဟာ ကျေးလက်ဒေသမှာ နေထိုင်ကြပြီး အဓိက စီးပွားရေးလုပ်ငန်းဟာ လယ်ယာလုပ်ငန်း ဖြစ်ပြီး တစ်မျိုးသားလုံးရဲ့ ပြည်တွင်းအသားထုတ်လုပ်မှုနဲ့ ဝန်ဆောင်မှုတန်ဖိုး (GDP)ရဲ့ ၃၀ ရာခိုင်နှုန်းခန့်ကို လယ်ယာကဏ္ဍမှရရှိပေမယ့် တောင်သူလယ်သမားအများစုဟာ အကျိုးခံစားခွင့် အလွန်နည်းပါးပြီး လူမှုစီးပွားဘဝ နိမ့်ကျလျက်ရှိပါတယ်။
- ❒ ရာသီဥတုပြောင်းလဲမှု သဘာဝဘေးနဲ့ အခြားသော ဘေးအန္တရာယ်ကျရောက်မှုတွေ၊ သစ်တောပြုန်းတီးခြင်းနဲ့ မြေဆီလွှာထိန်းသိမ်းမှုလုပ်ငန်းတွေ အားနည်းခြင်းတို့ရဲ့ အကျိုးဆက်အနေနဲ့ တောင်သူလယ်သမား အများစုဟာ ဝင်ငွေနိမ့်ကျပြီး လူမှုစီးပွားဘဝ အခြေအနေများ ထိခိုက်ခဲ့ပါတယ်။
- ❒ ဒါကြောင့် လယ်ယာ ကဏ္ဍဖွံ့ဖြိုးတိုးတက်လာစေဖို့ မူဝါဒများနဲ့ လုပ်ငန်းစဉ်များကို ခိုင်ခိုင်မာမာ ရေးဆွဲချမှတ် အကောင်အထည်ဖော်ပြီး တောင်သူလယ်သမားများရဲ့ လူမှု စီးပွားဘဝ တိုးတက်လာဖို့ ကြိုးပမ်းဆောင်ရွက်ရမှာ ဖြစ်ပါကြောင်း။
- ❒ နိုင်ငံတော်အစိုးရအနေနဲ့ အဓိကရည်မှန်းချက်တာဝန်တစ်ခုအဖြစ် တည်ငြိမ်အေးချမ်းရေးနဲ့ လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းတွေကို ဦးတည်ဆောင်ရွက်လျက်ရှိပါတယ်။ အစိုးရသစ်ရဲ့ ၁၁ လတာအတွင်းမှာ ရေရှည်တည်တံ့တဲ့ လယ်ယာထုတ်ကုန်စနစ် ထွန်းကားစေဖို့၊ နိုင်ငံတကာနဲ့ ယှဉ်ပြိုင်နိုင်စွမ်းရှိတဲ့ စိုက်ပျိုးမွေးမြူရေးထုတ်ကုန်တွေ တိုးတက်ထုတ်လုပ်နိုင်ဖို့အတွက် ရည်မှန်းချက်ပန်းတိုင်တွေ ချမှတ်ဆောင်ရွက်လျက်ရှိပါတယ်။
- ❒ ဒ့ါအပြင် စားနပ်ရိက္ခာဖူလုံဖို့၊ အာဟာရပြည့်ဝရေးနဲ့ အစားအစာ ဘေးအန္တရာယ် ကင်းရှင်းမှု တိုးတက်လာစေဖို့၊ တောင်သူလယ်သမားများရဲ့ အခွင့်အရေး ပြည့်ဝစွာ ရရှိခံစားနိုင်စေဖို့၊ လယ်ယာကဏ္ဍမှာ ပြည်တွင်းပြည်ပ ရင်းနှီးမြှုပ်နှံမှုတွေ တိုးတက်လာစေဖို့ စသဖြင့် ရည်မှန်းချက် (၁၁)ချက် ချမှတ်

ထားပြီး ဆောင်ရွက်လျက်ရှိပါတယ်။ အဲဒီ ရည်မှန်းချက်တွေကို အကောင်အထည်ဖော်ရာမှာလည်း စိုက်ပျိုးမွေးမြူရေးကဏ္ဍ ထုတ်လုပ်မှုစွမ်းအား မြင့်မားလာဖို့နဲ့အတူ လုပ်ကွက်ငယ် တောင်သူလယ်သမားများရဲ့ ဝင်ငွေပါ တိုးတက်လာစေဖို့၊ ကျေးလက်ဒေသ လူမှုစီးပွားဘဝ တိုးတက်လာဖို့၊ ဖွံ့ဖြိုးတိုးတက်မှု ရေရှည်တည်တံ့ဖို့ စတဲ့ မူဝါဒတွေ ချမှတ်ပြီး ကြိုးပမ်းလျက်ရှိပါတယ်။

- ❑ နိုင်ငံတစ်ဝန်းရှိ လုပ်ကွက်ငယ် တောင်သူလယ်သမားများရဲ့ စွမ်းအားကို ရယူပေါင်းစုနိုင်မယ့် လယ်ယာထုတ်ကုန် သမဝါယမအသင်းအဖွဲ့တွေ ဖွဲ့စည်းထူထောင်နိုင်ဖို့လည်း ထိရောက်စွာ ကြိုးပမ်းဆောင်ရွက်လျက် ရှိပါတယ်။
- ❑ ခေတ်မီ စိုက်ပျိုးရေးနည်းပညာတွေ တောင်သူလက်ဝယ်အရောက် အလွယ်တကူရောက်ရှိဖို့၊ ရာသီဥတုဆိုင်ရာ သတင်းအချက်အလက်များနဲ့ ဈေးကွက်ဆိုင်ရာ သတင်းအချက်အလက်များကို အချိန်နဲ့တစ်ပြေးညီ သိရှိဖို့၊ စိတ်လက်အပန်းဖြေနိုင်ဖို့အတွက် နိုင်ငံပိုင်နဲ့ ပုဂ္ဂလိကပိုင်မီဒီယာတွေသာမက အခုနောက်ဆုံး လူတိုင်း လက်ဝယ်ရောက်ရှိလာနေပြီဖြစ်တဲ့ မိုဘိုင်းဖုန်းတွေကနေ တစ်ဆင့် သတင်းအချက်တွေ မျှဝေပေးနေပါတယ်။
- ❑ ကမ္ဘာ့လူဦးရေဟာလည်း နေ့စဉ် တိုးတက်လျက်ရှိနေရာ လက်ရှိလူဦးရေ သန်းပေါင်း ၇၀၀၀ ကျော်ဟာ လာမယ့် ၂၀၅၀ ပြည့်နှစ်မှာ သန်းပေါင်း ၉၀၀၀ ရှိလာမှာဖြစ်တဲ့အတွက် လိုအပ်လာမယ့် စားနပ်ရိက္ခာကို ပိုမိုတိုးတက်စိုက်ပျိုးထုတ်လုပ်ကြရမှာလည်း ဖြစ်ပါတယ်။
- ❑ မိမိတို့နိုင်ငံအနေနဲ့လည်း လာမယ့်နှစ်များအတွင်း တိုးပွားလာနိုင်မယ့် လူဦးရေ ပမာဏအတွက် မျှော်မှန်းပြီး နိုင်ငံရဲ့ စားနပ်ရိက္ခာလုံခြုံစိတ်ချမှုရှိရုံသာမက နိုင်ငံတကာဈေးကွက်ကို ပိုမိုတိုးတက် တင်ပို့ရောင်းချနိုင်ရေး ရည်မှန်းချက်နဲ့ စိုက်ပျိုးမွေးမြူထုတ်လုပ်မှုတွေကို ဘက်ပေါင်းစုံက အရှိန်အဟုန်မြှင့်တင်အားပေးဆောင်ရွက်လျက်ရှိပါတယ်။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် နှစ်သစ်ကူးနှုတ်ခွန်းဆက်လွှာမှ ကောက်နုတ်ချက် (၁၇-၄-၂၀၁၇)

- နှစ်သစ်ရောက်တဲ့အခါတိုင်းမှာ ပြီးခဲ့တဲ့နှစ်ကို ပြန်ပြောင်းသတိရဆင်ခြင် သုံးသပ်ပြီး ရှေ့တစ်နှစ်တာ ဆက်လက်လျှောက်လှမ်းရမယ့် ခရီးအတွက် ဆောင်ရွက်ဖွယ်ရာများကို ကြံဆတွေးတောပြီး အားသစ်ခွန်သစ်တွေ မွေးကြရစမြဲပါ။
- ငြိမ်းချမ်းရေးအတွက် နိုင်ငံတော်က ကြိုးပမ်းနေတဲ့အချိန်မှာ ဒီနိုင်ငံရေးဖြစ်စဉ်ကြီးအတွက် ပြည်သူတွေက စေတနာနဲ့ ထည့်ဝင်လှူဒါန်းငွေ သန်းထောင်ပေါင်းများစွာကို လက်ခံရရှိခဲ့ပါတယ်။ ဒါဟာ ရှေ့ဆက်ရမယ့်ခရီးအတွက် အားရဖွယ်ရာဖြစ်ပါတယ်။ ပြည်သူတွေရဲ့ အလှူဟာ ဘာကိုပြသလဲဆိုရင် ပြည်သူတွေဟာ ငြိမ်းချမ်းရေးရဖို့ ဘယ်လောက်ဆာလောင်မွတ်သိပ်နေကြတယ်၊ ငြိမ်းချမ်းတဲ့ဘဝကို ဘယ်လောက်လိုချင်နေကြတယ်။ ငြိမ်းချမ်းရေးဖြစ်စဉ်မှာ နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်ဦးဆောင်ပြီး လူထုလူတန်းစား အဖွဲ့အစည်းအသီးသီးနဲ့ ဆွေးနွေးညှိနှိုင်း အဖြေရှာနေကြတဲ့အပေါ်မှာ ဘယ်လောက်ယုံကြည်အားထားမှုရှိတယ်ဆိုတာကို ပြသနေတာ ဖြစ်ပါတယ်။ ဒါကြောင့်လည်း ဒီနှစ်အတွင်းမှာ ပြည်သူတွေအတွက် ဝမ်းမြောက်ဖွယ်ရာ ရလဒ်ကောင်းများ ရရှိလိမ့်မယ်လို့ မျှော်လင့်မိပါတယ်။
- ယူသင့်ယူထိုက်တဲ့ အချိန်ယူလေ့လာမှုကို မပြုလုပ်ခဲ့ရင် ကောင်းကျိုးထက် အပြစ်တွေက များတတ်ပါတယ်။ ပြည်သူ့ဘဏ္ဍာငွေ လေလွင့်ပြုန်းတီးမှုဖြစ်ပြီး နိုင်ငံတော်အပေါ်လည်း ဝန်ထုပ်ဝန်ပိုးကြီး ကျရောက်စေပါတယ်။ သက်သေသာဓကတစ်ခုအနေနဲ့ ပြောရမယ်ဆိုရင် နိုင်ငံတော်က တာဝန်ယူလုပ်ကိုင်နေတဲ့ စီမံကိန်းများစွာအနက်က ပြည်သူ့ဘဏ္ဍာငွေ လေလွင့်ပြုန်းတီးမှု ဆက်လက်မဖြစ်စေရေးအတွက် လုပ်ငန်းစီမံကိန်း(၅)ခုကို လုံးဝပိတ်သိမ်းဖို့နဲ့ လုပ်ငန်းစီမံကိန်း ၂၈ ခုကို လတ်တလောရပ်ဆိုင်းထားဖို့ မတ်လအတွင်း ဒုတိယအကြိမ် ပြည်ထောင်စုလွှတ်တော် စတုတ္ထပုံမှန်အစည်းအဝေးက အတည်ပြုအဆုံးအဖြတ်ပေးခဲ့ရတဲ့ ဖြစ်ရပ်ပဲဖြစ်ပါတယ်။

- ဒီကနေ့ ကမ္ဘာ့ရေးရာအခြေအနေတွေကို လေ့လာကြည့်မယ်ဆိုရင်လည်း မူဝါဒရေးရာ အပြောင်းအလဲနဲ့ဦးတည်ရာ အပြောင်းအလဲတွေကို ကြုံတွေ့ဖြတ်သန်းနေရပါတယ်။ မြန်မာနိုင်ငံအနေနဲ့ ဒီမိုကရေစီအသွင်ကူးပြောင်းရေး ကြိုးစားလျှောက်လှမ်းနေရပေမယ့် မျှော်လင့်အားထားစရာ အကောင်းဆုံး အနေအထားတစ်ခုကို ရောက်ရှိနေပြီဖြစ်ပါတယ်။ အမျိုးသားရင်ကြားစေ့ရေးနဲ့ ငြိမ်းချမ်းရေးအတွက် ဒီမိုကရေစီဖက်ဒရယ် ပြည်ထောင်စုသည်သာ တစ်ခုတည်းသော အဖြေဖြစ်တဲ့အတွက် ကျွန်တော်တို့အားလုံး စိတ်ဝမ်းမကွဲ ဆိုးတူကောင်းဖက် ဒီလမ်းကြောင်းကို လက်တွဲလျှောက်လှမ်းနိုင်ကြမယ်ဆိုရင် အများပြည်သူတွေ မျှော်လင့်စောင့်စားနေတဲ့ ငြိမ်းချမ်းရေးဆိုတဲ့ ခရီးဟာ မည်မျှပင်ခက်ခဲကြမ်းတမ်းပါစေ။ မကြာမီမှာ ကျွန်တော်တို့ ပန်းတိုင်ရောက်အောင် အောင်မြင်စွာလျှောက်လှမ်းနိုင်မယ်လို့ ယုံကြည်ပါတယ်။
- တိုင်းရင်းသားမျိုးနွယ်စုပေါင်း တစ်ရာကျော်မှီတင်းနေထိုင်တဲ့ ကျွန်တော်တို့ရဲ့ ပြည်ထောင်စုကြီးမှာ မတူကွဲပြားမှုတွေကို ပေါင်းစည်းပြီး အင်အားတစ်ရပ်အဖြစ် ရောက်ရှိလာအောင် ကြိုးပမ်းသွားကြရမှာဖြစ်ပါတယ်။ ငြိမ်းချမ်းတဲ့ ဘာသာတရားရဲ့ အဆုံးအမ၊ ရိုးသားပြီး မြင့်မြတ်တဲ့ စာရိတ္တ၊ ယဉ်ကျေးပြီး သဟဇာတဖြစ်တဲ့ ဓလေ့တွေနဲ့ ဖက်ဒရယ်ဆိုတာ မတူကွဲပြားမှုတွေကို လိုက်လျောညီထွေပေါင်းစည်းပြီး ညီညွတ်မှုအင်အားကို တည်ဆောက်ခြင်းပဲဖြစ်ပါတယ်။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် ပြန်ကြားရေးဝန်ကြီးဌာန၊ ပညာရေးဝန်ကြီးဌာနနှင့် ရှမ်းပြည်နယ်အစိုးရတို့ ပူးပေါင်းကျင်းပသည့် ကလေးစာပေပွဲတော်၊ ကလေးစာပေပြပွဲနှင့် စာအုပ်ဈေးရောင်းပွဲ ဖွင့်ပွဲအခမ်းအနားတွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၂-၆-၂၀၁၇)

❒ ကလေးစာပေပွဲတော်များကို ကျင်းပနိုင်သဖြင့် ကလေးများအတွက် ပျော်ရွှင်မှု၊ ဗဟုသုတ အတွေးအခေါ် မြင့်မားစေမှု၊ စာအုပ်စာပေကို ချစ်ခင်မြတ်နိုးတတ်မှု၊ စာဖတ်သည့်အလေ့အထများ လေ့ကျင့်ပျိုးထောင်ပေးနိုင်မှု၊ နိုင်ငံချစ်စိတ်ဖြင့် တိုင်းကျိုးပြည်ကျိုး ထမ်းဆောင်လိုစိတ်များ မြင့်မားစေမှု၊ ဘဝကို ရဲရင့်မှန်ကန်စွာ ကျော်ဖြတ်နိုင်မည့် အားမာန်သတ္တိများ ပြည့်ဝစေမှု စသည့် အကျိုးကျေးဇူးများ ရရှိနိုင်လိမ့်မည်ဟု ယုံကြည်မျှော်လင့်မိပါကြောင်း။

❒ အားလုံးသိကြတဲ့အတိုင်း စာပေထဲမှာ ကလေးစာပေဟာ အခြားစာပေတွေထက် ပိုပြီးခက်ခဲနက်နဲတယ်လို့ ခံစားမိပါတယ်။ လူကြီးစာပေဆိုတာ နယ်နိမိတ် သတ်မှတ်ချက် နည်းပါးပြီး စိတ်ရှိသလောက် လွတ်လပ်စွာ ဖန်တီးနိုင်တယ်လို့ ကျွန်တော်မြင်မိပါတယ်။ ကလေးစာပေတွေကတော့ ကလေးတွေနဲ့ ရင်းနှီးတဲ့ ပတ်ဝန်းကျင်က အကြောင်းအရာတွေကိုသာ စဉ်းစားရတယ်။ ကလေးတွေရဲ့ အတွင်းစိတ်ကိုဝင်ကြည့်ပြီး အဲဒီစိတ်ကူးစိတ်သန်းတွေနဲ့ လိုက်ဖက်ညီညွတ်အောင် ရေးသားဖန်တီးကြရတာ ဖြစ်ပါကြောင်း။

❒ ထိုကလေးစာပေများမှတစ်ဆင့် မိမိတို့ကို ရိုးသားမှုများ၊ အားမာန်သတ္တိများ၊ နိုင်ငံချစ်စိတ်များ မွေးဖွားပေးခဲ့ခြင်းဖြစ်သည့်အတွက် အနာဂတ်နိုင်ငံတော်၏ သားကောင်းရတနာများကို ကလေးစာပေများ၊ ကလေးစာဖတ်ခန်းများ၊ ကလေးကဗျာများနှင့်အတူ ပြုစုပျိုးထောင်ပေးကြပါဟု အကြံပြုတိုက်တွန်းလိုပါကြောင်း၊ ဤနေရာမှာ “လက်ဦးဆရာ မည်ထိုက်စွာ ပုဗ္ဗာစရိယမိနှင့်ဘ” ဆိုသကဲ့သို့ မိဘဆိုသည်မှာ ကလေးများ၏ လက်ဦးဆရာဖြစ်သည့်အတွက် ဖြောင့်မတ်မှန်ကန်သည့်နည်းလမ်းများနှင့် လမ်းညွှန်ပေးရန် လိုပါကြောင်း၊ ကလေးများကို စာပေဖတ်ရှုလေ့လာတတ်သည့် အလေ့အထများ ပေါ်ပေါက်

လာအောင် မိဘများအနေဖြင့်လည်း ဖြည့်ဆည်းဖန်တီးပေးကြပါဟု တိုက်တွန်း ပြောကြားလိုပါကြောင်း။

❒ အနာဂတ်၏ခေါင်းဆောင်များဖြစ်လာကြမည့် ကလေးများကို ဉာဏ်ရည် ဉာဏ်သွေးနှင့် အယူအဆများ ထက်မြက်လာစေရန်၊ တီထွင်ဖန်တီးလိုစိတ် များ ရင့် သန်လာစေရန်၊ ကလေးများ စာပေနှင့်ရင်းနှီးပြီး ပညာရည်ပြည့်ဝ သည့် သားကောင်းရတနာလေးများဖြစ်လာစေရန် အားလုံးပူးပေါင်းပါဝင် ကူညီပေးကြပါ။ အနာဂတ်နိုင်ငံတော်၏ လူသားအရင်းအမြစ်ဖွံ့ဖြိုးရေးကို အထောက်အကူဖြစ်စေမည့် ကလေးစာပေများ၊ ကလေးကဗျာနှင့် ကလေး စာဖတ်ခန်းများ ဖွံ့ဖြိုး လာအောင် ဝိုင်းဝန်းကူညီပေးကြပါဟု ပြောကြားလို ပါကြောင်း။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် ၂၀၁၇ ခုနှစ် ကမ္ဘာ့ပတ်ဝန်းကျင်ထိန်းသိမ်းရေးနေ့ အခမ်းအနားတွင် ပြောကြားသော အမှာစကားမှ ကောက်နုတ်ချက် (၅-၆-၂၀၁၇)

- ကမ္ဘာတစ်ဝန်းတွင် လူသားများကို သဘာဝပတ်ဝန်းကျင်ကြီးနှင့် ဆက်နွယ်ပေးကြရန် အပြုသဘောဆောင်သည့် အစီအစဉ်များချမှတ်ပြီး အကောင်အထည်ဖော်ဆောင်နေကြသည်ကို တွေ့ရှိနေရသည့်အတွက် အထူးအားတက်ရပါကြောင်း၊ ယနေ့ကမ္ဘာတစ်ဝန်းတွင် လူသားများအကျိုးအတွက် ပျက်သုဉ်းမသွားစေရန် ကာကွယ်စောင့်ရှောက်ထိန်းသိမ်းထားသည့် နေရာဒေသအများအပြားရှိနေကြောင်း၊ ယူနက်စကို၏ အထိန်းသိမ်းခံအမွေအနှစ်စာရင်းတွင် ပါဝင်လာသည့် ဘရာဇီးနိုင်ငံမှ အမေဇုန်သစ်တောများ၊ တရုတ်နိုင်ငံမှ ဟူဘေးသစ်တောဧရိယာ၊ အီရန်နိုင်ငံမှ လုကန္တာရဒေသအပါအဝင် သဘာဝဇီဝမျိုးစုံပေါကြွယ်ဝသည့် အရပ်ဒေသများသည် ယူနက်စကို၏ အထိန်းသိမ်းခံ အမွေအနှစ်စာရင်းတွင် ပါဝင်လာသည်ကို တွေ့ရသည့်အတွက် များစွာဝမ်းသာကျေနပ်ရကြောင်း။
- မြန်မာနိုင်ငံသည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်ရေးလုပ်ငန်းများကို ကြိုးပမ်းအားထုတ်ဆောင်ရွက်လျက်ရှိကြောင်း၊ ခါကာဘိုရာဇီအမျိုးသားသဘာဝဥယျာဉ်၊ အလောင်းတော်ကဿပ ဘေးမဲ့ဥယျာဉ်၊ ရွှေစက်တော်ဘေးမဲ့တော၊ လန်ပိအဏ္ဏဝါအမျိုးသားဥယျာဉ်၊ လူသားနှင့် ဇီဝအဝန်းနယ်မြေဟုသတ်မှတ်ထားသည့် အင်းလေးကန် စသည့်နေရာဒေသများကို ထိန်းသိမ်းစောင့်ရှောက်ရေးလုပ်ငန်းများအပါအဝင် မြန်မာနိုင်ငံ၏ ရေမြေသဘာဝ၊ သစ်တော၊ ပန်းခြံ၊ သားရိုင်းတိရစ္ဆာန်ဘေးမဲ့တောများ ကာကွယ်ထိန်းသိမ်းစောင့်ရှောက်ရေးလုပ်ငန်းများကို နိုင်ငံတော်အစိုးရအနေဖြင့် အလေးထားဆောင်ရွက်လျက်ရှိကြောင်း။
- ယနေ့ မိမိတို့ခံစားနေရသည့် အကြီးမားဆုံးစိန်ခေါ်မှုကြီးတစ်ခုမှာ ရာသီဥတုပြောင်းလဲမှုဖြစ်စဉ်၏ ခြိမ်းခြောက်မှုပင်ဖြစ်ကြောင်း၊ မြန်မာနိုင်ငံသည် ကမ္ဘာပေါ်တွင် ရာသီဥတုပြောင်းလဲမှုဒဏ်ကို အများဆုံးခံနေရသည့် နိုင်ငံများအနက် တစ်နိုင်ငံဖြစ်ကြောင်း၊ ရာသီဥတုပြောင်းလဲမှုဖြစ်စဉ်ကြောင့် မကြာသေးမီက

တစ်ကြိမ်တစ်ခါမျှ မကြုံစဖူး အပူရှိန်လွန်ကဲမှုနှင့် ဆိုးရွားသည့်ရာသီဥတုဒဏ်များကို ခံစားခဲ့ရကြောင်း၊ ပြီးခဲ့သည့်သီတင်းပတ်အတွင်းမှာ သီရိလင်္ကာ၊ ဘင်္ဂလားဒေ့ရှ်နှင့် အိန္ဒိယနိုင်ငံမြောက်ပိုင်းဒေသများတွင် ပျက်စီးမှုအမြောက်အမြားဖြစ်စေခဲ့သည့် မိုရာဆိုင်ကလုန်းမုန်တိုင်းသည် ရခိုင်ပြည်နယ်တွင်ရှိသည့်မြို့နယ်အချို့နှင့် ကျေးရွာများကို အပြင်းအထန်ရိုက်ခတ်သွားခဲ့ကြောင်း၊ မိမိတို့နိုင်ငံ၏ အရပ်ဒေသအချို့တွင် လွန်ခဲ့သည့် ၁၀ နှစ်ခန့်ကဖြစ်ခဲ့သည့် အဆိုးရွားဆုံးသဘာဝဘေးဒဏ်တစ်ခုဖြစ်သည့် ဆိုင်ကလုန်းနာဂစ်၏ဒဏ်ခံစားခဲ့ရမှုများကို ယနေ့တိုင်ကုစားနေရဆဲဖြစ်ကြောင်း။

❐ မြန်မာနိုင်ငံသည် ရာသီဥတုပြောင်းလဲမှုကြောင့် ထိခိုက်လွယ်သည့် အခြေအနေကို ကာကွယ်ရန် ခံနိုင်မှုစွမ်းရည်မြှင့်တင်ရန်အတွက် နိုင်ငံတကာမိတ်ဖက်များနှင့် ပူးပေါင်းဆောင်ရွက်မှု တိုးမြှင့်ရေးကို မိမိတို့လက်ကမ်းကြိုဆိုကြောင်း၊ ပါရီရာသီဥတုပြောင်းလဲမှု သဘောတူညီချက်စာချုပ်ဝင် နိုင်ငံတစ်နိုင်ငံအနေဖြင့်လည်း ရာသီဥတုပြောင်းလဲမှု တုံ့ပြန်ရေးဆိုင်ရာ နိုင်ငံတကာကြိုးပမ်းမှုအစီအစဉ်များတွင် ဘဏ္ဍာငွေရှာဖွေထောက်ပံ့ပေးရေး၊ နည်းပညာထုတ်လုပ်ရေးနှင့် လွှဲပြောင်းပေးရေး၊ စွမ်းဆောင်ရည်မြှင့်တင်ရေး စသည့်ကဏ္ဍများတွင် ဆက်လက်ပြီး ဦးဆောင်ပါဝင်တုံ့ပြန်ဆောင်ရွက်ပေးရန်နှင့် ဖွံ့ဖြိုးဆဲနိုင်ငံများ၏ ရာသီဥတုပြောင်းလဲမှုဒဏ်ကာကွယ်ရေး၊ ခံနိုင်ရည်ရှိရေး မဟာဗျူဟာလုပ်ငန်းများကို အားပေးကူညီသွားရန်အတွက် ဖွံ့ဖြိုးပြီးနိုင်ငံများကို တိုက်တွန်းအပ်ပါကြောင်း။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးထင်ကျော် (၁၁)ကြိမ်မြောက် အာရှ-ဥရောပ ထိပ်သီးအစည်းအဝေးတွင် ပြောကြားသည့်မိန့်ခွန်းကောက်နုတ်ချက် (၁၆-၇-၂၀၁၆)

❒ (၁၁)ကြိမ်မြောက် အာရှ-ဥရောပထိပ်သီး အစည်းအဝေးသို့ အာရှဘက်မှ အာဆီယံအထွေထွေအတွင်းရေးမှူးချုပ် အပါ အဝင် ၂၁ ဦး၊ ဥရောပဘက်မှ ၃၁ ဦး ကိုယ်စားပြုတက်ရောက်ခဲ့ပါကြောင်း၊ ထိပ်သီးအစည်းအဝေးတွင် မိမိတို့အနေဖြင့် အကျိုးရှိသော ဆွေးနွေးမှုများပြုလုပ်နိုင်ခဲ့ပါကြောင်း၊ နှစ်ရက်တာ ထိပ်သီးအစည်းအဝေးတွင် တရားဝင်ဆွေးနွေးပွဲများနှင့် တရားဝင်မသတ်မှတ်ထားသော ဆွေးနွေးပွဲများ ပါဝင်ပါကြောင်း။

❒ မျက်နှာစုံညီအစည်းအဝေးတွင် လွန်ခဲ့သော အနှစ် ၂၀ က မိမိတို့ အောင်မြင်မှုရရှိခဲ့သည်များကို ပြန်လည်သုံးသပ်ခဲ့ကြပြီး လာမည့် ၁၀ စုနှစ်တွင် မည်ကဲ့သို့ ရှေ့ဆက်သွားမည်ဆိုသည့် စိတ်ကူးအသစ်များကို ဆွေးနွေးခဲ့ပါကြောင်း၊ ASEM ၏ ပင်မဒေါက်တိုင် သုံးတိုင်ကို ပိုမိုအားအင်ရှိအောင် ပြုလုပ်သင့်သည်ဟု မိမိတို့အားလုံးခံစားမိခဲ့ကြပါကြောင်း။

❒ ဒေသကြီးနှစ်ခုအကြား ဆက်သွယ်ချိတ်ဆက်နေမှုကို ပိုမိုတိုးတက်ကောင်းမွန်အောင် မိမိတို့အာရုံစူးစိုက်ခဲ့ကြပါကြောင်း၊ ဆက်သွယ်ချိတ်ဆက်နေမှု (Connectivity) တွင် မတူကွဲပြားသော အမြင်များ ရှိကြပါကြောင်း၊ ထို့ကြောင့် ကမ္ဘာမျိုးစုံ၌ ရှိနေသည့် တင်းမာသော၊ ပျော့ပျောင်းသော ဆက်သွယ်ချိတ်ဆက်နေမှု နှစ်ခုစလုံးတွင် ပူးပေါင်းဆောင်ရွက်ရေးကို ဆွေးနွေးခဲ့ပါကြောင်း။

❒ ဒေသကြီးနှစ်ခုစလုံးအတွက် ဘုံအကျိုးစီးပွားနှင့် သက်ဆိုင်နေသော နယ်ပယ်များကို အမြင်ချင်းဖလှယ်ခဲ့ပါကြောင်း၊ ထို့အတူ ဒေသကြီးနှစ်ခုစလုံး ပူးပေါင်းဆောင်ရွက်ပြီး ဖြေရှင်းရမည့် ဒေသတွင်းနှင့် နိုင်ငံတကာကိစ္စရပ်များကိုလည်း အမြင်ချင်းဖလှယ်ခဲ့ကြပါကြောင်း၊ ယင်းတို့ထဲတွင် သမားရိုးကျမဟုတ်သော လုံခြုံရေးဆိုင်ရာ အခက်အခဲများ၊ အထူးသဖြင့် အစွန်းရောက်၊ အကြမ်းဖက်ဝါဒပေါ်ထွက်လာခြင်း၊ တရားဥပဒေစိုးမိုးမှု စဉ်ဆက်မပြတ် ဖွံ့ဖြိုးတိုးတက်ရေးအတွက် ၂၀၃၀ ပြည့်နှစ်အစီအစဉ်၊ အားလုံးပါဝင်သော ဖွံ့ဖြိုးမှု၊ ဆင်းရဲမွဲတေမှုလျှော့ချရေး၊ သဘာဝဘေးဖြစ်ပွားနိုင်မှုကို စီမံဆောင်ရွက်ခြင်းနှင့် လူငယ်

ဖွံ့ဖြိုးတိုးတက်ရေးတို့ ပါဝင်ပါကြောင်း၊ မကြာမီက ဖြစ်ပွားခဲ့သော အကြမ်းဖက်မှုအတွက် ခေါင်းဆောင်များအနေဖြင့် ပြင်သစ်နိုင်ငံအစိုးရ ပြည်သူများနှင့် အထူးသဖြင့် အကြမ်းဖက်ခံရသူများ၏ မိသားစုများအတွက် ဝမ်းနည်းကြောင်း ဖော်ပြခဲ့ကြပြီး သူတို့အတွက် ခေါင်းဆောင်များအနေဖြင့် စည်းလုံးညီညွတ်စွာရှိနေပါသည်ဟု ဖော်ပြခဲ့ကြပါကြောင်း။

❐ သေချာသော ရလဒ်များရစေမည့် ပူးပေါင်းဆောင်ရွက်ရေးနယ်ပယ်ကို ဆွေးနွေးခဲ့ကြပါကြောင်း၊ ထိပ်သီးအစည်းအဝေးအပြင် အခြားနှစ်နိုင်ငံအကြား ဆွေးနွေးပွဲ အတော်များများရှိခဲ့ပါကြောင်း၊ တိုင်းပြည်များအနေဖြင့် မိမိတို့ပြည်သူများ၏ အကျိုးစီးပွားကို မြှင့်တင်နိုင်ရန်နှင့် အချုပ်အခြာအာဏာစိုးမိုးမှုအတွက် တူညီသောအမြင်များ၊ ခြားနားသောပန်းတိုင်များရှိသည်မှာ သဘာဝကျပါကြောင်း၊ သို့သော် ယင်းအချက်သည် အခက်အခဲတစ်ခု မဖြစ်စေဘဲ မိမိတို့အကြား ကွဲပြားခြားနားမှုများကို ဖြေရှင်းနိုင်ရန်အတွက် အခွင့်အလမ်းတစ်ခုသာ ဖြစ်သင့်ပါကြောင်း၊ အာရှ-ဥရောပလက်တွဲဆောင်ရွက်မှုမှတစ်ဆင့် မိမိတို့၏ ပူးပေါင်းဆောင်ရွက်မှုသည် ဥရောပတိုက်နှင့် အာရှတိုက် နှစ်ခုရှိ ပြည်သူများအတွက်သာမက ကမ္ဘာ့ပြည်သူများအတွက်ပါ အကျိုးရှိစေမည်ဟု မျှော်လင့်ပါကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် နည်းပညာနှင့် သက်မွေးပညာရေးနှင့် လေ့ကျင့်ရေး နီးနှောဖလှယ်ပွဲတွင် ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက် (၁၅-၇-၂၀၁၆)

❒ မိမိတို့ဘဝတွင် တွေ့ကြုံနိုင်သည့် အခက်အခဲစိန်ခေါ်မှုများကို ရင်ဆိုင်နိုင်ခြင်း၊ ကျော်လွှားနိုင်ခြင်းစသည့် အရည်အချင်းများသည် ပညာဖြစ်သည်ဟု ခံယူကြပြီး မြန်မာနိုင်ငံတွင် သက်မွေးပညာရေးကို ပထမတန်းစားပညာရေးအဖြစ် တန်ဖိုးထားလာသည်အထိ ကြိုးပမ်းမြှင့်တင်ဆောင်ရွက်ကြရန်ဖြစ်ကြောင်း။

❒ နိုင်ငံအချို့တွင် တက္ကသိုလ်ပညာကို တန်ဖိုးထားကြသော်လည်း အသက်မွေးဝမ်းကျောင်းပညာကို တန်ဖိုးထားမှုနည်းပါးပြီး အသက်မွေးဝမ်းကျောင်းပညာကို ဒုတိယတန်းစားပညာဟုယူဆပါကြောင်း၊ တက္ကသိုလ်ပညာ မဆည်းပူးနိုင်သူများ၊ တက္ကသိုလ်ပညာအဆင့်မရောက်ရှိနိုင်သူများသည် အသက်မွေးဝမ်းကျောင်းပညာကို လေ့လာဆည်းပူးသည့်အပိုင်းသို့ ရောက်သွားသည်ဟု ထင်မြင်ယူဆသူများရှိပါကြောင်း၊ သို့သော် တက္ကသိုလ်ပညာသင်ကြားသော လူငယ်များ အများစုမှာ အလုပ်အကိုင်ရရှိမှုနည်းပါးသည့် အခြေအနေသို့ ရောက်ရှိလျက်ရှိပါကြောင်း။

❒ အသက်မွေးဝမ်းကျောင်း (Vocational Training)ဟူသည် မိမိတို့၏ ဝါသနာနှင့် ကိုက်ညီသည့်ပညာရပ်ကို သင်ကြားပေးခြင်းဖြစ်သဖြင့် ကျောင်းသားကျောင်းသူများတွင်သာမက မိဘများသည်လည်း အသက်မွေးဝမ်းကျောင်းပညာကို မြတ်နိုးတန်ဖိုးထားလျှင် ဖွံ့ဖြိုးတိုးတက်မှုရရှိနိုင်ပါကြောင်း၊ မိမိတို့သည် ယခုရရှိလျက်ရှိသည့် အခွင့်အရေးကို အသုံးချကာ အကောင်းဆုံးအမြင့်ဆုံးရောက်ရှိစေရန် ကြိုးစားရမည်ဖြစ်ပါကြောင်း။

❒ ထို့ကြောင့် မိမိတို့ နိုင်ငံသူ နိုင်ငံသားအားလုံး အသက်မွေးဝမ်းကျောင်းပညာရေးကို ပထမတန်းစားပညာရေးဟု လက်ခံနားလည်နိုင်အောင် လုပ်ဆောင်သွားကြရမည် ဖြစ်ပါကြောင်း၊ ထိုသို့မဟုတ်ဘဲ အသက်မွေးဝမ်းကျောင်းပညာသည် ဒုတိယတန်းစားပညာဟု သတ်မှတ်ကာ တက္ကသိုလ်တက်ရန် အဆင့်မမီမှသာ သင်ကြားစေမည်ဆိုပါက တိုးတက်အောင်မြင်ရန် ခက်ခဲမည်ဖြစ်ပါကြောင်း။

- မိမိကိုယ်တိုင် အသက်မွေးဝမ်းကျောင်းပညာကို လေးစားတန်ဖိုးထားပြီး မိမိနိုင်ငံတွင် အသက်မွေးဝမ်းကျောင်းပညာတိုးတက်လာစေရန် ဆောင်ရွက်လိုပါကြောင်း၊ မိမိတို့နိုင်ငံတွင် အသက်မွေးဝမ်းကျောင်းပညာတိုးတက်မှ မိမိတို့နိုင်ငံသူ နိုင်ငံသားများ၏ ဘဝတိုးတက်မည်ဖြစ်ပါကြောင်း။
- ဖွံ့ဖြိုးတိုးတက်မှုရရှိပြီးနိုင်ငံများတွင်ပင် တက္ကသိုလ်ဘွဲ့ရများသည် အလုပ်အကိုင်ရရှိမှု တစ်နှစ်ထက်တစ်နှစ်နည်းပါးလာပါကြောင်း၊ အဘယ်ကြောင့်ဆိုသော် သင်ကြားတတ်မြောက်သည့်ပညာနှင့် လူမှုအသိုင်းအဝိုင်း၏ လိုအပ်ချက် ကိုက်ညီမှုအားနည်းသည့်အတွက်ဖြစ်ပါကြောင်း၊ အသက်မွေးဝမ်းကျောင်းပညာရေးအောင်မြင်အောင် ကြိုးပမ်းရာတွင် ကမ္ဘာပေါ်တွင် အကောင်းဆုံး၊ အအောင်မြင်ဆုံးနိုင်ငံများကို စံနမူနာယူပြီး ဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ အစကောင်းမှ အနှောင်းသေချာဆိုသကဲ့သို့ ယခုအစကပင် အကောင်းဆုံးဖြစ်အောင် ဆောင်ရွက်ရမည်ဖြစ်ပါကြောင်း၊ အသက်မွေးဝမ်းကျောင်းပညာရေးအောင်မြင်သည်၊ မအောင်မြင်သည်ကို တိုင်းတာသည့်အချက်မှာ တစ်ခုတည်းသာရှိ၍ ၎င်းမှာ နိုင်ငံသားအားလုံးက အသက်မွေးဝမ်းကျောင်းပညာရေးကို ပထမတန်းစားပညာရေးဟု ယုံကြည်တန်ဖိုးထားလာသည့်အချိန်သည် အသက်မွေးဝမ်းကျောင်းပညာရေးအောင်မြင်သည်ဟု သတ်မှတ်ရမည် ဖြစ်ပါကြောင်း၊ ထိုသို့ အောင်မြင်တိုးတက်မှုရရှိစေရန် Public Private Partnership သည် အရေးကြီးပါကြောင်း၊ အားလုံးပူးပေါင်း ပါဝင်ဆောင်ရွက်ရန် အရေးကြီးပါကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီးဒေါ်အောင်ဆန်းစုကြည် ငြိမ်းချမ်းရေးလုပ်ငန်းစဉ် ဦးဆောင်အဖွဲ့ PPST အစည်းအဝေး၌ ပြောကြားသည့်မိန့်ခွန်းကောက်နုတ်ချက် (၂၅-၈-၂၀၁၆)

❒ ငြိမ်းချမ်းရေးလုပ်ငန်းစဉ်၏ အဓိကလိုအပ်ချက်မှာ ယုံကြည်မှုပင်ဖြစ်ကြောင်း၊ တစ်ဦးနှင့်တစ်ဦး ယုံကြည်မှုရှိပါက အခြားပြဿနာများကို ဖြေရှင်းနိုင်ကြောင်း၊ ယုံကြည်မှုမရှိပါက စာချုပ်များ မည်သို့ပင် ချုပ်ထားစေကာမူ အဟောသိကံ ဖြစ်သွားစေနိုင်ကြောင်း၊ ယုံကြည်မှုရရှိစေရန်ဆိုလျှင် တစ်ဦးနှင့်တစ်ဦး ဆက်ဆံရာတွင် ပွင့်လင်းရန်၊ တည့်မတ်မှုရှိရန် လိုအပ်ကြောင်း၊ ပွင့်ပွင့်လင်းလင်း ပြောရမည်ဆိုသော်လည်း တစ်ဖက်သားနားလည်ရန် လိုအပ်ပြီး အကျိုးရှိ၊ မှန်ကန်၊ တစ်ဖက်သားခံသာသည့် စကားကို ပြောကြားရမည်ဖြစ်ကြောင်း။

❒ ကမ္ဘာပေါ်တွင် အရေးကြီးဆုံးမေးခွန်းမှာ "ဘာကြောင့်"ဆိုသည့် မေးခွန်းဖြစ်ကြောင်း၊ **မိမိတို့ ဘာကြောင့် ထာဝရငြိမ်းချမ်းရေးမတည်ဆောက်နိုင်သလဲ။ ကိုယ့်ဘက်က ဘာကြောင့် ငြိမ်းချမ်းရေးရအောင် မလုပ်နိုင်သလဲ။ သူ့ဘက်ကလည်း ဘာကြောင့် ငြိမ်းချမ်းရေးရအောင် မလုပ်နိုင်သလဲ**ဆိုသည့် အချက်ကို တစ်ဖက်နှင့်တစ်ဖက် မျှမျှတတစဉ်းစားပါက ယုံကြည်မှုကို တည်ဆောက်နိုင်မည်ဖြစ်ကြောင်း၊ အခွင့်အလမ်းတစ်ခုသည် လူတစ်ယောက်၏ ဘဝတွင် နှစ်ခါပြန်မလာတတ်ပါကြောင်း၊ ငြိမ်းချမ်းရေးလုပ်ငန်းစဉ်ကို အောင်မြင်အောင် ကြိုးစားသွားရမည်ဖြစ်ကြောင်း၊ မိမိတို့နိုင်ငံအနေဖြင့် ဒေသတွင်းနိုင်ငံများနှင့် နှိုင်းယှဉ်ပါက များစွာနောက်ကျကျန်ရစ်ခဲ့ပြီဖြစ်ကြောင်း၊ ယခုအခါ ဆောင်ရွက်ခွင့်ရသည့် ငြိမ်းချမ်းရေးလုပ်ငန်းစဉ်ကို မိမိတို့တိုင်းရင်းသားညီအစ်ကိုမောင်နှမများအားလုံးအတွက် အောင်မြင်အောင် ဝိုင်းဝန်းပူးပေါင်းဆောင်ရွက်သွားရမည်ဖြစ်ကြောင်း။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် အမေရိကန်နိုင်ငံ ဝါရှင်တန်ဒီစီမြို့သို့ သွားရောက်သော တရားဝင်ခရီးစဉ်တွင် ဆွေးနွေးပြောကြားချက်မှ ကောက်နုတ်ချက် (၁၄-၉-၂၀၁၆)

- မြန်မာနိုင်ငံအတွက် တကယ့်အရေးကြီးဆုံး လုပ်ငန်းစဉ်ကြီးမှာ အမျိုးသား ပြန်လည်ရင်ကြားစေ့ရေးနှင့် ငြိမ်းချမ်းရေးလုပ်ငန်းစဉ်ကြီးပင်ဖြစ်ပါကြောင်း၊ မြန်မာနိုင်ငံတွင် တိုင်းရင်းသားလူမျိုးစု ၁၃၅ မျိုးနေထိုင်လျက်ရှိသည့်အတွက် ၎င်းတို့အားလုံးကို တညီတညွတ်တည်းဖြစ်အောင် ကြိုးစားလုပ်ဆောင်ရမည် ဖြစ်ကြောင်း၊ အဘယ်ကြောင့်ဆိုသော် မြန်မာနိုင်ငံသူနိုင်ငံသားအားလုံး စစ်မှန်သောဒီမိုကရေစီနှင့် ဖက်ဒရယ်ပြည်ထောင်စုကြီးအဖြစ် ပေါ်ထွန်းလာ သည်ကို တွေ့မြင်လိုကြောင်း၊ မတူကွဲပြားမှုများအပေါ် ကြီးမားသော အရင်းအမြစ်အဖြစ် အသုံးချအောင်ပွဲခံရမည်ဖြစ်ကြောင်း၊ ထို့အပြင် ရခိုင် အရေးကိစ္စမှာလည်း လျစ်လျူရှု၍မရသောကိစ္စဖြစ်ကြောင်း၊ ထို့ကြောင့် ကော်မရှင်ဖွဲ့စည်းပြီး ရခိုင်ပြည်နယ်အရေးကိစ္စကို ထဲထဲဝင်ဝင် လေ့လာရန် လုပ်ဆောင်နေကြောင်း၊ ထို့ပြင် မြန်မာနိုင်ငံသားတိုင်းသည် နိုင်ငံသား အခွင့်အရေး အပြည့်အဝရရှိသင့်ကြောင်း၊ မတူညီမှုများကို အင်အားအဖြစ် စုစည်းရာတွင် သံသယစိတ်များ၊ နားလည်မှုလွဲမှားမှုများကို ဖယ်ထားရမည် ဖြစ်ကြောင်း။
- မြန်မာနိုင်ငံအပေါ် ပိတ်ဆို့အရေးယူမှုများနှင့်ပတ်သက်၍ အရေးယူပိတ်ဆို့ ခြင်းဆိုသည်မှာ မြန်မာနိုင်ငံအား ဒီမိုကရေစီနိုင်ငံတစ်နိုင်ငံဖြစ်အောင် ဖိအား ပေးခြင်းပင်ဖြစ်ကြောင်း၊ ယခုအခါတွင် စီးပွားရေးတိုးတက်မှုကို ထိခိုက်စေ သည့် မြန်မာနိုင်ငံအပေါ် ပိတ်ဆို့ထားမှုများအားလုံးကို ဖယ်ရှားပေးရမည့် အချိန်ပင်ဖြစ်ပါကြောင်း၊ ယခုအခါ မြန်မာနိုင်ငံသည် စီးပွားရေးလုပ်ချင်သူ များကို လမ်းဖွင့်ပေးသည့်အချိန်ကောင်းပင်ဖြစ်ပါကြောင်း၊ စီးပွားရေးရင်းနှီး မြှုပ်နှံချင်သူများကို မြန်မာနိုင်ငံသို့ လက်တွေ့လာကြည့်စေချင်ပြီး အောင်မြင် သည့်စီးပွားရေးလုပ်ငန်းရှင်များ၊ ကုမ္ပဏီများ လာရောက်ရင်းနှီးမြှုပ်နှံရန် ဖိတ်ခေါ်ပါကြောင်း၊ ရင်းနှီးမြှုပ်နှံမှုဥပဒေသစ်ကိုလည်း မကြာမီ အကောင် အထည်ဖော် ချမှတ်တော့မည်ဖြစ်ပါကြောင်း၊ စီးပွားရေးဖွံ့ဖြိုးမှုသည် ဒီမို

ကရေစီ၏ အစိတ်အပိုင်းတစ်ခုဖြစ်သည့်အတွက် ဒီမိုကရေစီစနစ်ဖော်ဆောင်နေသည့် မြန်မာနိုင်ငံကိုလည်း အားပေးကူညီရာရောက်ပါကြောင်း။

❒ ယခုအခါတွင် ဖွဲ့စည်းပုံအခြေခံဥပဒေရှိသော်လည်း လုံးဝဒီမိုကရေစီ အစစ်အမှန်မဟုတ်သေးကြောင်း၊ အဘယ်ကြောင့်ဆိုသော် စစ်ဘက်ဆိုင်ရာအား နိုင်ငံရေးနယ်ပယ်တွင် နေရာတစ်ခုပေးထားသောကြောင့်ဖြစ်ကြောင်း၊ ပြည်သူတို့၏ အသက်အိုးအိမ်စည်းစိမ်အား ကာကွယ်ပေးသည့်တပ်မတော်ကို ပြည်သူလူထုက ချစ်ခင်လေးစားသောအဖွဲ့အစည်းဖြစ်စေချင်သကဲ့သို့ ကမ္ဘာ့အလယ်တွင် ဝင့်ထည်စေချင်ကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် (၇၁)ကြိမ်မြောက် ကုလသမဂ္ဂ အထွေထွေညီလာခံတွင် ပြောကြားသည့် အထွေထွေမူဝါဒရေးရာ မိန့်ခွန်းမှ ကောက်နုတ်ချက် (၂၂-၉-၂၀၁၆)

- ကျွန်မတို့နိုင်ငံဟာ လွတ်လပ်ရေးရပြီးစ ၁၉၄၈ ခုနှစ်မှာပဲ ပြည်ထောင်စု မြန်မာနိုင်ငံအနေနဲ့ ကုလသမဂ္ဂအဖွဲ့သို့ ပါဝင်ခဲ့ပါကြောင်း၊ အဲဒီအချိန်ဟာ ကမ္ဘာ့လူသားအားလုံးအနေနဲ့ ကမ္ဘာစစ်ကြီးရဲ့ အပျက်အစီးများမှရုန်းထွက်ပြီး ၎င်းတို့ရဲ့နိုင်ငံများ အသစ်တစ်ဖန် ပြည်လည်တည်ဆောက်နေတဲ့အချိန်ဖြစ်သလို တန်းတူညီမျှမှု၊ သာယာဝပြောမှုနဲ့ တရားမျှတမှုတို့ဖြင့် ငြိမ်းချမ်းရေးကို ဖော်ဆောင်နိုင်တဲ့ လူသားတို့ရဲ့ စွမ်းဆောင်ရည်အပေါ် ယုံကြည်မှုတို့ကို ပြန်တည်ဆောက်နိုင်မယ်လို့ ယုံကြည်မှုအပြည့်အဝထားတဲ့ ခေတ်ကာလ တစ်ခုလည်းဖြစ်ပါကြောင်း၊ ယခုအချိန်ဟာဆိုရင်လည်း မြန်မာနိုင်ငံအနေနဲ့ ခိုင်မာတဲ့မျှော်လင့်ချက်များထားရှိနေတဲ့ အချိန်ကာလဖြစ်နေပါကြောင်း၊ ပြီးခဲ့တဲ့နှစ် နိုဝင်ဘာလအတွင်း မြန်မာနိုင်ငံမှာ ကျင်းပခဲ့တဲ့ အထွေထွေ ရွေးကောက်ပွဲမှာ ပြည်သူများက အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ်ကို ထောက်ခံ မဲများ အပြတ်အသတ်ပေးခြင်းဟာ နိုင်ငံရေးပါတီတစ်ခုကို ထောက်ခံခြင်း သက်သက်မဟုတ်ဘဲ နိုင်ငံရဲ့အနာဂတ်ကို ၎င်းတို့ရဲ့အိပ်မက်များ၊ မျှော်လင့် ချက်များနဲ့အညီ ဖန်တီးနိုင်ဖို့အတွက် ၎င်းတို့ရဲ့အခွင့်အရေးနဲ့ စွမ်းဆောင်ရည် များအပေါ် ယုံကြည်မှုရှိကြောင်း ထင်ဟပ်တဲ့ နိုင်ငံရေးယဉ်ကျေးမှုတစ်ခုကို ပြသခဲ့ခြင်းဖြစ်ပါကြောင်း၊ ဒီအိပ်မက်များ၊ မျှော်လင့်ချက်များဟာ ကုလသမဂ္ဂကို စတင်တည်ထောင်စေခဲ့တဲ့ အိပ်မက်များ၊ မျှော်လင့်ချက်များနဲ့ အတူတူပင် ဖြစ်ပါကြောင်း။
- ဓားသွားမှ ထယ်သွားအဖြစ် ပြောင်းလဲရေး သို့တည်းမဟုတ် ပိုမိုခေတ်မီတဲ့ အသုံးအနှုန်းနဲ့ ဒါကိုပြောကြားရမယ်ဆိုရင် အဖျက်လက်နက်များကို လယ်ယာ သုံးကိရိယာများအဖြစ် ပြောင်းလဲရေးအိပ်မက်ဟာ ပဋိပက္ခများရဲ့ ဖိအား ကြောင့် အိပ်စက်မှုနဲ့နေရပ်များကို ကာလရှည်ကြာစွာ စွန့်လွှတ်နေခဲ့ရတဲ့ ကျွန်မတို့ပြည်သူများရဲ့ စိတ်ထဲနှလုံးသားထဲမှာ ရှိနေပါကြောင်း၊ မိမိတို့နေအိမ် များအတွင်းမှာ လုံခြုံဘေးကင်းစွာ နေထိုင်နိုင်ရေး၊ မိမိတို့ရဲ့ စွမ်းဆောင်ရည်ကို

အပြည့်အဝဖော်ထုတ်နိုင်စွမ်းအပေါ် ယုံကြည်မှုရှိရေး၊ လူငယ်များဖွံ့ဖြိုးတိုးတက်ရေးနဲ့ သက်ကြီးရွယ်အိုများရဲ့ လုံခြုံမှုအလားအလာများအပေါ် ကျေနပ်မှုရှိရေး၊ ငြိမ်းချမ်းသာယာဝပြောသော ပြည်ထောင်စုတစ်ခုရဲ့ နိုင်ငံသားများအတွက် ၎င်းတို့ရဲ့အခွင့်အရေးများနဲ့ တာဝန်ဝတ္တရားများခိုင်မာမှုရှိရေးတို့ဟာ ကျွန်မတို့ရဲ့ ရိုးရှင်းတဲ့ မျှော်လင့်ချက်များပဲဖြစ်ပါကြောင်း၊ ရိုးရှင်းပေမယ့် အောင်မြင်ဖို့ ခက်ခဲကြောင်းဆိုတာ အထူးပြောဖို့ မလိုကြောင်း ကျွန်မတို့ရဲ့ ရည်မှန်းချက်များကို ဖော်ဆောင်ပေမယ့် တစ်ခုတည်းသောလမ်းကြောင်းကတော့ ငြိမ်းချမ်းရေးလမ်းကြောင်းသာဖြစ်ပြီး ဒီလမ်းကြောင်းကို မျှော်လင့်ချက်များ၊ သန္နိဋ္ဌာန်များနဲ့အတူ လျှောက်လှမ်းသွားရမှာဖြစ်ပါကြောင်း။

- မြန်မာနိုင်ငံပြည်သူများအနေနဲ့ ၎င်းတို့ရဲ့ မွေးရာပါ အခွင့်အရေးများဖြစ်တဲ့ ငြိမ်းချမ်းရေး၊ လုံခြုံစွာနေထိုင်နိုင်ရေး၊ အခြေခံလွတ်လပ်ခွင့်များရရှိရေး၊ ဖွံ့ဖြိုးတိုးတက်ရေးတို့ကို ကာလကြာရှည် မရရှိ မခံစားခဲ့ကြပါကြောင်း၊ ဒီအခွင့်အရေးများဟာ ၂၀၃၀ ပြည့်နှစ် စဉ်ဆက်မပြတ် ဖွံ့ဖြိုးတိုးတက်မှု ရည်မှန်းချက်များနဲ့လည်း အကျုံးဝင်ပါကြောင်း၊ နှစ်ပေါင်း ၆၀ ကျော် ပြည်တွင်းလက်နက်ကိုင် ပဋိပက္ခများကို တွေ့ကြုံခံစားခဲ့ရတဲ့ နိုင်ငံတစ်နိုင်ငံအတွက် ရေရှည်တည်တံ့တဲ့ငြိမ်းချမ်းရေးနဲ့ အမျိုးသားပြန်လည်သင့်မြတ်ရေးတို့ လောက်အရေးကြီးတဲ့ ကိစ္စရပ်ရှိမှာမဟုတ်ပါကြောင်း၊ အစိုးရသစ်အနေနဲ့ ဒီလိုခက်ခဲရှုပ်ထွေးတဲ့ကိစ္စရပ်ကို အဓိကစိန်ခေါ်မှုတစ်ရပ်အနေနဲ့လည်းကောင်း၊ ပင်မဦးစားပေးလုပ်ငန်းတစ်ရပ်အနေနဲ့လည်းကောင်း ကိုင်တွယ်ဆောင်ရွက်လျက်ရှိပါကြောင်း၊ မကြာသေးခင်က ၂၁ ရာစုပင်လုံလို့ခေါ်တဲ့ ပထမဆုံးသော ပြည်ထောင်စုငြိမ်းချမ်းရေးညီလာခံကြီးကို ကျင်းပခဲ့ပါကြောင်း၊ ဒီလိုခေါ်ရခြင်းဟာ လွတ်လပ်သော မြန်မာနိုင်ငံကို အခြေခံအုတ်မြစ်ချပေးနိုင်ခဲ့တဲ့ ၁၉၄၇ ခုနှစ် ပင်လုံညီလာခံကြီးရဲ့ ပင်လုံစိတ်ဓာတ်ကို ကိုယ်စားပြုခေါ်ဝေါ်ခဲ့ခြင်းဖြစ်ပါကြောင်း။
- ငြိမ်းချမ်းရေးနဲ့ ဖွံ့ဖြိုးတိုးတက်မှုတည်ဆောက်ရေးအကြောင်း ပြောတဲ့အခါမှာ ဘက်ပေါင်းစုံပါဝင်တဲ့ စီးပွားရေးမူဝါဒများကို ဟန်ချက်ညီညီ အကောင်အထည်ဖော်မှုနဲ့အတူ အရေးကြီးတဲ့ လူ့အခွင့်အရေး၊ တန်းတူညီမျှမှုရှိရေး၊ မတူကွဲပြားမှုနဲ့ စိတ်ရှည်သည်းခံမှုတို့ကို လေးစားမှုမြှင့်တင်ရေးတို့ကိုလည်း လျစ်လျူရှုလို့မရနိုင်ပါကြောင်း၊ ဒါဟာ ကျွန်မတို့လို စိန်ခေါ်နေတဲ့လုပ်ငန်းတာဝန်တစ်ရပ်ဖြစ်ပြီး နိုင်ငံတကာဥပဒေနဲ့အညီ တရားမျှတပြီး နားလည်လက်ခံနိုင်တဲ့

ဖြေရှင်းမှုတွေကို ရှာဖွေရာမှာ နိုင်ငံအများက ပူးပေါင်းပါဝင်ပြီး အတူလုပ်ကိုင်ဆောင်ရွက်ဖို့ လိုအပ်ပါကြောင်း၊ ရွှေ့ပြောင်းသွားလာသူများဟာ သူတို့ရဲ့အိမ်ရှင်နိုင်ငံတွေရဲ့ စီးပွားရေးနဲ့ ကမ္ဘာ့စီးပွားရေးကို အထောက်အကူပြုတယ်ဆိုတာကို ကျွန်မတို့ မေ့ထားလို့မဖြစ်ပါကြောင်း၊ ဒါကြောင့် ရွှေ့ပြောင်းသွားလာတဲ့ အလုပ်သမားများရဲ့ အခွင့်အရေးတွေကို အာမခံချက်ပေးနိုင်ဖို့ အိမ်ရှင်နိုင်ငံနဲ့ မူရင်းနိုင်ငံတို့အကြား ပူးပေါင်းဆောင်ရွက်မှုနဲ့ ပေါင်းစပ်ညှိနှိုင်းမှုတွေ ပြုလုပ်ခြင်းဟာ နှစ်နိုင်ငံစလုံးကို အထောက်အကူပေးလိမ့်မယ်လို့ ကျွန်မယုံကြည်ပါကြောင်း၊ ကျွန်မတို့ရဲ့ ကမ္ဘာမြေကြီးဟာ လူတိုင်းမျှဝေခံစားတဲ့ နေရာတစ်ခုဖြစ်ပါကြောင်း၊ တန်ဖိုးများနဲ့ ဓနဥစ္စာတို့ကို ခွဲဝေခံစားခြင်းဖြင့် ပိုမိုကောင်းမွန်တဲ့ ကမ္ဘာကြီးကို ဖန်တီးနိုင်မှာဖြစ်ပါကြောင်း။

- ❒ မြန်မာနိုင်ငံအနေဖြင့် ကျူကလီးယားလက်နက်များကင်းမဲ့တဲ့ ကမ္ဘာကြီးဖြစ်ပေါ်လာစေရေး တိုက်တွန်းအားပေးလျက်ရှိပါကြောင်း၊ လက်ရှိနဲ့ အနာဂတ်မျိုးဆက်များအတွက် ငြိမ်းချမ်းရေးနဲ့ လုံခြုံရေးရရှိစေရန် ရည်ရွယ်ပြီး နျူကလီးယားလက်နက်ဖျက်သိမ်းရေးဆိုင်ရာ ဆုံးဖြတ်ချက်အဆိုတစ်ရပ်ကို ကုလသမဂ္ဂ အထွေထွေညီလာခံမှာ နှစ်စဉ်တင်သွင်းလျက်ရှိပါကြောင်း၊ ကမ္ဘာပေါ်ရှိ ဒေသအသီးသီးမှာ နျူကလီးယားလက်နက်ကင်းမဲ့ရေးဇုန်များ တည်ထောင်ခြင်းဟာလည်း ဒီပန်းတိုင်ကို အထောက်အပံ့ပြုလျက်ရှိပါကြောင်း။
- ❒ ကျွန်မတို့ရဲ့ ကမ္ဘာကြီးကို ပိုမိုကြင်နာတတ်စေချင်သလို ရယူခြင်းထက်ပေးဆပ်ခြင်းကိုလည်း ပိုမိုနေရာရစေလိုပါကြောင်း၊ လောဘ၊ ဒေါသ၊ ကြောက်ရွံ့မှု၊ မသိနားမလည်မှုတွေဟာ မြန်မာနိုင်ငံမှာ အဂတိလိုက်စားမှုရဲ့ အကြောင်းရင်းဖြစ်ပါကြောင်း၊ အဂတိလိုက်စားမှုလို့ ဆိုလိုခြင်းမဟုတ်ဘဲ လူ့သဘာဝကျင့်ဝတ်ပျက်ခြင်းကို ဆိုလိုပါကြောင်း၊ လောဘ၊ ဒေါသ၊ ကြောက်ရွံ့မှု၊ မသိနားမလည်မှုများဟာ လူ့သဘာဝပတ်ဝန်းကျင်ကို ပျက်စေသလို ကမ္ဘာကြီးကိုလည်း ကျင့်ဝတ်ပျက်စေပါကြောင်း၊ ကျွန်မတို့ရဲ့ မြေးမြစ် အဆက်အဆက်အတွက် ပိုမိုကောင်းမွန်တဲ့နေစရာအဖြစ် ကမ္ဘာကြီးကို ဖန်တီးရာမှာ ဝိုင်းဝန်းကူညီဆောင်ရွက်ကြပါလို့ တိုက်တွန်းလိုပါကြောင်း၊ ဒီလို ကမ္ဘာ့နိုင်ငံအများစုဝေးတဲ့နေရာမှာပဲ ဒီလိုမေတ္တာရပ်ခံမှုမျိုး ပြုလုပ်ခြင်းဖြစ်ပါကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် (၃၇)ကြိမ်မြောက် အာဆီယံပါလီမန်များ ညီလာခံဖွင့်ပွဲအခမ်းအနားတွင် ပြောကြားသည့်မိန့်ခွန်းကောက်နုတ်ချက် (၃၀-၉-၂၀၁၆)

- လွှတ်တော်မရှိဘဲ နှစ်ပေါင်းများစွာကြာမြင့်ခဲ့တဲ့ မြန်မာနိုင်ငံဟာ ၂၀၁၁ ခုနှစ်မှာ လွှတ်တော်ပြန်လည်ပေါ်ပေါက်လာပြီး နောက်ပိုင်းကစလို့ အာဆီယံပါလီမန်များ ညီလာခံကိုတက်ရောက်ပါဝင်ခဲ့တာ အခုဆိုရင် (၆)ကြိမ်ပြည့်မြောက်ခဲ့ပါပြီ။ ကျွန်မတို့နိုင်ငံမှာ ၁၉၄၈ ခုနှစ်၊ လွတ်လပ်ရေးရကတည်းက ပါလီမန်ဒီမိုကရေစီစနစ်ကို စတင်ကျင့်သုံးခဲ့ပါတယ်။ အဲဒီကာလတုန်းက မြန်မာနိုင်ငံဟာ အာရှမှာ ပါလီမန်ဒီမိုကရေစီစနစ်ကျင့်သုံးတဲ့ အစောဆုံးနိုင်ငံတွေအထဲမှာ ပါခဲ့ပါတယ်။ ဒါပေမယ့် မြန်မြန်ပြေးနိုင်တိုင်း ပြေးပွဲမှာ အမြဲအနိုင်မရနိုင်၊ ခွန်အားကြီးမားတိုင်းလည်း တိုက်ပွဲမှာ အမြဲအနိုင်မရတတ်ဆိုသလိုပဲ ကျွန်မတို့ဟာ ဖြစ်ရပ်ဆိုးတွေနဲ့ကြုံတွေ့ပြီး ပါလီမန်ဒီမိုကရေစီစနစ်ကို ဆုံးရှုံးခဲ့ရပါတယ်။ ဒါပေမယ့်လည်း အမျိုးမျိုးသော အားထုတ်မှုတွေနဲ့ မလျှော့သော ဇွဲလုံ့လတို့ကြောင့် ကျွန်မတို့ဟာ ပြည်သူ့လိုလားချက်ဆန္ဒကို ထင်ဟပ်စေတဲ့ ပါလီမန်ဒီမိုကရေစီလမ်းကြောင်းအပေါ်ကို တစ်ဖန်ပြန်ပြီး ခြေချလျှောက်လှမ်းနိုင်ခဲ့ပြီ ဖြစ်ပါတယ်။
- AIPA အဖွဲ့ကြီးဟာ အာဆီယံဒေသတွင်းမှာ လူ့အခွင့်အရေးအခြေခံစံနှုန်းတွေ မြှင့်တင်ဖို့၊ ဒီမိုကရေစီ၊ ငြိမ်းချမ်းရေး၊ လုံခြုံရေးနဲ့ သာယာဝပြောရေးတို့ကို မြှင့်တင်ဖို့ရည်ရွယ်ပြီး ကြိုးပမ်းဆောင်ရွက်နေတာ သိရှိရတဲ့အတွက်လည်း ဝမ်းမြောက်ဝမ်းသာဖြစ်ရပါတယ်။ AIPA အဖွဲ့ကြီးရဲ့ ရည်မှန်းချက်တွေဟာ ခရီးရှည်လျားပြီး စိန်ခေါ်မှုတွေ ပြည့်နှက်နေတဲ့ ဒီမိုကရေစီအသွင်ကူးပြောင်းရေးလမ်းကြောင်းကို ဆက်လက်လျှောက်လှမ်းနေတဲ့ ကျွန်မတို့ မြန်မာနိုင်ငံအတွင်းက ဦးစားပေးလုပ်ငန်းစဉ်တွေနဲ့ ထပ်တူထပ်မျှ တူညီနေတာကို သတိပြုမိကြမယ် ထင်ပါတယ်။
- ကျွန်မတို့ အစိုးရသစ်ရဲ့ ပထမဦးစားပေးလုပ်ငန်းစဉ်ကတော့ ကျွန်မတို့ လူ့အဖွဲ့အစည်းတစ်ခုလုံးမှာရှိတဲ့ အစိတ်အပိုင်းအားလုံးအကြား အမျိုးသားပြန်လည်ရင်ကြားစေ့ရေးနဲ့ သဟဇာတဖြစ်ရေးကို ဖော်ဆောင်ဖို့ပဲ ဖြစ်ပါတယ်။

ပြီးခဲ့တဲ့လမှာပဲ စစ်မှန်တဲ့ ဒီမိုကရက်တစ်ဖက်ဒရယ်ပြည်ထောင်စုထူထောင်ဖို့ ခြေလှမ်းတစ်ရပ်အနေနဲ့ ပြည်ထောင်စုငြိမ်းချမ်းရေးညီလာခံ (၂၁) ရာစုပင်လုံကို နေပြည်တော်မှာ ကျင်းပခဲ့ပါတယ်။ ကျွန်မတို့နိုင်ငံလွတ်လပ်ရေးရရှိချိန်ကစလို့ ဆယ်စုနှစ်နဲ့ချီပြီး ဖြစ်ပွားခဲ့ရတဲ့ ပဋိပက္ခတွေကို နိဂုံးချုပ်အဆုံးသတ်နိုင်ဖို့ ယခင်အစိုးရ စတင်ခဲ့တဲ့ ငြိမ်းချမ်းရေးလုပ်ငန်းစဉ်ကို ကျွန်မတို့အနေနဲ့ ပြီးမြောက်အောင်မြင်အောင် လုပ်ဆောင်ပြီး ကျွန်မတို့ ပြည်သူအားလုံး နှစ်ပေါင်းများစွာ မျှော်လင့်တောင့်တနေတဲ့ ထာဝရငြိမ်းချမ်းရေးရရှိအောင် ဆောင်ကြဉ်းပေးဖို့ ရည်မှန်းထားပါတယ်။

- ကျွန်မတို့နိုင်ငံမှာ တိုင်းရင်းသားမျိုးနွယ်စုပေါင်းများစွာရှိနေတဲ့အပြင် ဆယ်စုနှစ်နဲ့ချီပြီး ဖြစ်တည်လာခဲ့တဲ့ ယုံကြည်မှု ပြိုကွဲခဲ့တာတွေကြောင့် ရှေ့ခရီးမှာ ရှုပ်ထွေးလှတဲ့စိန်ခေါ်မှုတွေနဲ့ ရင်ဆိုင်ရမယ်ဆိုတာ ယုံမှားသံသယမရှိပါဘူး။ ဒါပေမယ့်လည်း ပူးပေါင်းဆောင်ရွက်လိုစိတ်၊ အပေးအယူလုပ်ညှိနှိုင်းဆွေးနွေးလိုစိတ်တွေနဲ့ ကျင်းပတဲ့ နိုင်ငံရေးဆွေးနွေးပွဲတွေကတစ်ဆင့် ကျွန်မတို့ ပြည်သူအားလုံးအတွက် ငြိမ်းချမ်းလုံခြုံပြီး သာယာဝပြောတဲ့ အနာဂတ်ဆိုတဲ့ ဘုံရည်မှန်းချက်ကို လက်တွေ့ဖော်ဆောင်နိုင်မယ်လို့ ယုံကြည်ထားပါတယ်။
- ရခိုင်ပြည်နယ်မှာရှိတဲ့ မတူညီတဲ့ အသိုင်းအဝိုင်းတွေအကြားမှာ သဟဇာတဖြစ်မှုနဲ့ နားလည်မှုတွေ ဆောင်ကြဉ်းပေးနိုင်ဖို့ကိုလည်း ကျွန်မတို့ ကြိုးပမ်းဆောင်ရွက်လျက်ရှိပါတယ်။ ရခိုင်ပြည်နယ်အခြေအနေဟာ ရှုပ်ထွေးနက်နဲပါတယ်။ ကျွန်မတို့နိုင်ငံရဲ့ နယ်နိမိတ်ကို ကျော်လွန်ပြီး အာဆီယံဒေသနဲ့ ပြင်ပကမ္ဘာရဲ့ အာရုံစိုက်စရာ၊ စိုးရိမ်ပူပန်စရာကိစ္စရပ်တစ်ခု ဖြစ်လာနေပါတယ်။ ကျွန်မတို့ အစိုးရသစ် စတင်ဖွဲ့စည်းချိန်က စတင်ပြီးတော့ ဒီစိန်ခေါ်မှုတွေကို ဖြေရှင်းနိုင်ဖို့ ကြိုးပမ်းဆောင်ရွက်ခဲ့ပါတယ်။ ရခိုင်ပြည်နယ်အတွင်း တည်ငြိမ်အေးချမ်းမှုနဲ့ တရားဥပဒေစိုးမိုးမှု သေချာခိုင်မာစေဖို့၊ လူဝင်မှုကြီးကြပ်ရေးနဲ့ နိုင်ငံသားစိစစ်ရေးလုပ်ငန်းတွေကို စနစ်တကျစိစစ်ကြပ်မတ်နိုင်ဖို့၊ လူမှုစီးပွားဖွံ့ဖြိုးတိုးတက်ရေးကို ဖော်ဆောင်နိုင်ဖို့ ကျွန်မကိုယ်တိုင်ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်တဲ့ "ရခိုင်ပြည်နယ် တည်ငြိမ်အေးချမ်းမှုနှင့် ဖွံ့ဖြိုးမှုတိုးတက်ရေးအကောင်အထည်ဖော်ရေး ဗဟိုကော်မတီ"ကို ဖွဲ့စည်းဆောင်ရွက်ခဲ့ပါတယ်။ ဒီစိန်ခေါ်မှုတွေကို ဘက်ပေါင်းစုံ လေ့လာသုံးသပ်ဖြေရှင်းရာမှာ ကျွန်မတို့ကို ကူညီပံ့ပိုးနိုင်ဖို့အတွက် ဒေါက်တာကိုဖီအာနန်ဦးဆောင်တဲ့ အကြံပေးကော်မရှင်ကိုလည်း ဖွဲ့စည်းခဲ့ပါတယ်။

❒ ကျွန်မတို့အနေနဲ့ အမျိုးသားပြန်လည်သင့်မြတ်ရေး၊ ဆင်းရဲနွမ်းပါးမှုတိုက်ဖျက်ရေး၊ အမြောက်အမြားလိုအပ်နေတဲ့ အခြေခံအဆောက်အအုံတွေ ဖွံ့ဖြိုးတိုးတက်ရေး၊ တာဝန်သိတာဝန်ယူမှုရှိတဲ့ ပြည်ပရင်းနှီးမြှုပ်နှံမှုတွေ ဝင်ရောက်လာအောင်တွန်းအားပေးရေးနဲ့ အလုပ်အကိုင်အခွင့်အလမ်းတွေ ဖန်တီးပေးနိုင်ရေးတို့အတွက် ရည်ရွယ်ပြီး စီးပွားရေးမူဝါဒအသစ်ကိုလည်း ထုတ်ပြန်ထားပါတယ်။ အဆွေတော်တို့နိုင်ငံတွေမှာ ကျင့်သုံးနေတဲ့ အောင်မြင်ဖြစ်ထွန်းနေတဲ့ နည်းလမ်းတွေကိုလည်း ကျွန်မတို့ လေ့လာသင်ယူနိုင်ဖို့ ကြိုးစားသွားမှာဖြစ်ပါတယ်။ မြန်မာနိုင်ငံရဲ့စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဟာ ကျွန်မတို့ အာဆီယံဒေသကြီးတစ်ခုလုံးရဲ့ တိုးတက်မှုကို အထောက်အကူဖြစ်စေပြီး အာဆီယံအသိုက်အဝန်းရဲ့ အနာဂတ်အောင်မြင်မှုကို အားဖြည့်ပေးနိုင်မယ်လို့ ကျွန်မအနေနဲ့ ယုံကြည်ထားပါတယ်။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် တစ်နိုင်ငံလုံးပစ်ခတ်ရပ်စဲရေး သဘောတူစာချုပ် (NCA) လက်မှတ်ရေးထိုးခြင်း နှစ်ပတ်လည်နေ့ အခမ်းအနားတွင် ပြောကြားသည့်မိန့်ခွန်းကောက်နုတ်ချက် (၁၅-၁၀-၂၀၁၆)

❒ ငြိမ်းချမ်းရေးဆိုတာ ဘာနဲ့မှလဲလို့မရတဲ့ ရတနာကြီးတစ်ခုပါပဲ။ ကျွန်မတို့ ငြိမ်းချမ်းရေးရအောင်လုပ်ဖို့ဆိုတဲ့ နေရာမှာ ကျွန်မက Nationwide Ceasefire Agreement ဆိုတဲ့စကားကို ဆင်ခြင်လိုက်ပါတယ်။ တစ်နိုင်ငံလုံးဆိုင်ရာ အပစ်အခတ်ရပ်စဲရေးဆိုတာကို NCA လို့ လွယ်လွယ်နဲ့ ခေါ်ကြပါတယ်။ မြန်မာစကားနဲ့ကျတော့ အပစ်အခတ်ရပ်စဲရေးပေ့ါ။ အင်္ဂလိပ်ဘာသာစကားနဲ့ဆိုရင် Ceasefire၊ Fire ဆိုတာ ပစ်ခတ်ခြင်း၊ Fire ဆိုတာ တိုက်ခိုက်ခြင်းပါပဲ။ ဒီတော့ Fire ဆိုတာ မီးဆိုတဲ့ စကားကနေ လာတာဖြစ်ပါတယ်။ အဲဒီတော့ ငြိမ်းချမ်းရေးရဖို့ဆိုရင်၊ အပစ်အခတ်ရပ်စဲရေးတွေ ရဖို့ဆိုရင် ကျွန်မတို့ရဲ့ အတွင်းမီးတွေဖြစ်တဲ့ ဒေါသတွေ၊ အာဃာတတွေ ငြိမ်းဖို့ဟာ အင်မတန်မှ အရေးကြီးပါတယ်။ သက်ဆိုင်ရာ ပုဂ္ဂိုလ်အသီးသီး၊ အဖွဲ့အစည်းအသီးသီးက မိမိတို့အတွင်းက ဒေါသတွေ၊ အာဃာတတွေ ငြိမ်းအောင်လုပ်နိုင်မှ ကျွန်မတို့ စစ်မှန်တဲ့ ငြိမ်းချမ်းရေးရနိုင်မှာပါ။

❒ ကျွန်မတို့ အဖွဲ့အစည်းများအတွင်းမှာရှိတဲ့ အာဃာတဒေါသမီးတွေ ငြိမ်းမှ ပြည်သူပြည်သားတွေရဲ့ သောကမီးတွေ ငြိမ်းနိုင်မှာဖြစ်ပါတယ်။ ဒါကြောင့် ကျွန်မတို့ဟာ အပစ်အခတ်ရပ်စဲရေး Ceasefire အတွက် လုပ်တယ်ဆိုရာမှာ ကျွန်မတို့ရဲ့ ပြည်သူပြည်သားများကို သောကဖြစ်စေတဲ့ မီးများအားလုံး ငြိမ်းဖို့အတွက် လုပ်ရတာဖြစ်ပါတယ်။ အဲဒီတော့ ဒီဟာကို အဓိကထားပြီး ကျွန်မတို့ရဲ့ အဖွဲ့အစည်းအသီးသီးက ဆင်ခြင်စေချင်ပါတယ်။ အားလုံးဟာ ကိုယ့်အမြင်နဲ့ကိုယ် ရှိကြတာပါပဲ။ နာကျည်းချက်တွေရှိခဲ့တယ်ဆိုတာလည်း ကျွန်မတို့ မငြင်းပါဘူး။ ဒါပေမယ့် ဒီနာကျည်းချက်တွေကို ကျော်လွှားနိုင်တဲ့ အရည်အချင်းလည်း ကျွန်မတို့အားလုံးမှာ ရှိတယ်လို့ ကျွန်မယုံကြည်ပါတယ်။ ဒါကိုကျော်လွှားနိုင်တဲ့ အရည်အချင်းနဲ့ပတ်သက်ပြီးတော့ ကျွန်မတို့ပြိုင်ရမှာပါ။ တကယ်ဆိုရင် ကျွန်မတို့က Fire Power မီးအင်အားကို ပြိုင်ရမှာ

မဟုတ်ပါဘူး။ မီးကိုငြိမ်းနိုင်တဲ့အင်အားကို ပြိုင်ရမှာဖြစ်ပါတယ်။ ဒီလို ကျွန်မတို့ ကြိုးစားနေတဲ့အခါမှာ တစ်နိုင်ငံလုံးကနေပြီးတော့ စောင့်ကြည့်နေကြပါတယ်။ ပြီးတော့ ကျွန်မတို့ပြည်သူတွေက အစု အစိုးရနှင့်တကွ တပ်မတော်၊ တိုင်းရင်းသားအဖွဲ့အစည်းများနဲ့ ဘာတွေလုပ်နေတယ်ဆိုတာ ကြည့်တဲ့အခါမှာ ကျွန်မတို့ရဲ့ ပြည်သူတွေကို လျှော့မတွက်ပါနဲ့လို့ မေတ္တာရပ်ခံချင်ပါတယ်။

❒ ပထမအားဖြင့် နိုင်ငံရေးဆွေးနွေးမှုမူဘောင် ပြန်လည်သုံးသပ်ရမှာဖြစ်ပါတယ်။ ဒုတိယအားဖြင့် နိုင်ငံရေးဆွေးနွေးမှုမူဘောင် ပြန်လည်ပြင်ဆင်ရမှာဖြစ်ပါတယ်။ ဒီလို သုံးသပ်ပြင်ဆင်တဲ့နေရာမှာ အားလုံးပါဝင်နိုင်အောင်လို့ ကျွန်မတို့အတတ်နိုင်ဆုံး စီစဉ်ထားပါတယ်။ နောက်ပြီးတော့လည်း ပြင်ဆင်အတည်ပြုပြီးဖြစ်သော နိုင်ငံရေးဆွေးနွေးမှု မူဘောင်နှင့်အညီ ပြည်ထောင်စုငြိမ်းချမ်းရေးညီလာခံ ၂၁ ရာစု ပင်လုံကျင်းပခြင်းပဲ ဖြစ်ပါတယ်။ ကျွန်မတို့ အခုဆိုရင် ၂၁ ရာစု ပင်လုံညီလာခံ ရလဒ်များအား စုစည်းပြီး ပြည်ထောင်စု သဘောတူညီချက် 21st Century Panglon Conference Agreement လက်မှတ်ရေးထိုးခြင်းကို ဦးတည်ရပါမယ်။ ပြည်ထောင်စုသဘောတူညီချက်နဲ့အညီ ဖွဲ့စည်းပုံအခြေခံဥပဒေ ပြင်ဆင်ရေးသားခြင်း၊ အတည်ပြုခြင်းကို နောက်တစ်ဆင့် သွားရပါ့မယ်။ နောက်တစ်ဆင့်ကျတော့ ပြင်ဆင်ရေးသားအတည်ပြုပြီးဖြစ်တဲ့ ဖွဲ့စည်းပုံအခြေခံဥပဒေနှင့်အညီ ပါတီစုံဒီမိုကရေစီ အထွေထွေရွေးကောက်ပွဲများ ကျင်းပဖို့ဖြစ်ပါတယ်။ နောက်ဆုံးအဆင့်ကတော့ ပါတီစုံဒီမိုကရေစီအထွေထွေရွေးကောက်ပွဲနှင့်အညီ ဒီမိုကရက်တစ်ဖက်ဒရယ် ပြည်ထောင်စုကြီး တည်ဆောက်ဖို့ပဲဖြစ်ပါတယ်။

❒ ဒီမိုကရေစီဆိုတာ အခွင့်အရေးတွေရှိသလို တာဝန်တွေအင်မတန်မှကြီးပါတယ်။ ပြည်သူလူထုရဲ့ အုပ်ချုပ်မှုစနစ်ဟာ ပြည်သူတစ်ယောက်ချင်း၊ တစ်ယောက်ချင်းမှာ တာဝန်ရှိတဲ့စနစ်လို့ ဒီလိုပဲကျွန်မတို့ပြောရပါလိမ့်မယ်။ ဒါကြောင့်မို့ ကျွန်မတို့ ငြိမ်းချမ်းရေးကို ဦးဆောင်ပြီးတော့ ကြိုးပမ်းနေတဲ့ အဖွဲ့အစည်းများ၊ ခေါင်းဆောင်များအားလုံးဟာ တာဝန်ကိုရှေ့ကထားပြီး အခွင့်အရေးကို နောက်ကထားစေချင်ပါတယ်။ တာဝန်ကိုရှေ့ကထားပြီးတော့ လုပ်ဆောင်သွားမှ ကျွန်မတို့နိုင်ငံရဲ့ အနာဂတ်အတွက် အာမခံချက်ရမှာပါ။ အတိတ်ဆိုတာ ပြန်ပြင်လို့မရပါဘူး။ အတိတ်ကတော့ ဖြစ်ပြီးသွားပါပြီ။ သို့သော်ငြားလည်း အတိတ်ရဲ့အကျိုးဆက်ကို ပြင်နိုင်ဖို့အတွက် ကျွန်မတို့

လိုချင်တဲ့ ပုံစံဖြစ်အောင် လုပ်နိုင်ဖို့အတွက် အားလုံးမှာ ချက်ချင်းလက်ငင်း အခုပစ္စုပ္ပန်မှာ အခွင့်အရေးတွေရှိပါတယ်။ ဒီအခွင့်အရေးတွေကို မှန်မှန်ကန်ကန် အသုံးချမယ်ဆိုရင် အနာဂတ်ဟာ ကျွန်မတို့လိုချင်တဲ့ပုံစံ ပေါ်လာမှာပါ။

❒ ဘယ်သူတွေဟာ တကယ်စစ်မှန်တဲ့ ငြိမ်းချမ်းရေးကို လိုချင်သလဲ၊ ဘယ်သူတွေဟာ ငြိမ်းချမ်းရေးကိုတကယ်မလိုလားဘူးဆိုတာဟာ ပြည်သူတွေမကြာခင်မှာ မြင်ရမှာပါ။ ပြည်သူတွေကလည်း ဒါကို မျက်စိဒေါက်ထောက်ကြည့်နေမှာဖြစ်ပါတယ်။ ဒီမိုကရေစီလမ်းကြောင်းကို လျှောက်လှမ်းနေတဲ့ ကျွန်မတို့နိုင်ငံဟာ ပြည်သူပြည်သားများရဲ့အထင်၊ ပြည်သူပြည်သားများရဲ့အမြင်၊ ပြည်သူပြည်သားများရဲ့ သုံးသပ်ချက်တွေကို အလေးထားပြီးလုပ်သွားမှာဖြစ်ပါတယ်။ ပြည်သူပြည်သားတွေဟာ အစဉ်အမြဲလုပ်သမျှ မှန်တယ်လို့မပြောပါဘူး။ အားလုံးဟာ အတိုင်းအတာအချိန်တစ်ခုအထိ တစ်ခဏလမ်းလွဲပေါ်မှာရောက်ရင် ရောက်သွားမယ်။ ဒါပေမယ့် ထာဝရအားလုံးဟာ လမ်းလွဲပေါ်မှာရောက်မှာမဟုတ်ပါဘူး။ အကြောင်းကြောင့်မိုလို့ ပြည်သူပြည်သားတွေ နားမလည်တဲ့ကိစ္စတွေရှိရင် ရှင်းလင်းဖို့ ကျွန်မတို့မှာ တာဝန်ရှိပါတယ်။ ဒီတာဝန်အရ အများနားလည်အောင်လို့ ရှင်းလင်းသွားမယ်ဆိုရင် ပြည်သူတွေဟာ မှန်မှန်ကန်ကန်နဲ့ ငြိမ်းချမ်းရေးဖြစ်စဉ်ကို ဝန်းရံနိုင်လိမ့်မယ်လို့ ယုံကြည်ပါတယ်။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် စီးပွားရေးလုပ်ငန်းရှင်များ ဖွံ့ဖြိုးမှုမိတ်ဖက်များ တွေ့ဆုံပွဲအခမ်းအနားတွင် ပြောကြားသည့်မိန့်ခွန်းကောက်နုတ်ချက် (၂၂-၁၀-၂၀၁၆)

- နိုင်ငံသူ၊ နိုင်ငံသားအားလုံးက စီးပွားရေးတိုးတက်မှု ဖွံ့ဖြိုးမှုမှာ ပါဝင်စေပြီး ဆောင်ရွက်စေလိုပါတယ်။ အတိတ်ကိုပြန်ပြီး ကြည့်တာမဟုတ်ဘဲ အနာဂတ်ကိုမျှော်တဲ့ မူဝါဒမျိုးနဲ့ ကျွန်မတို့ကဆက်ပြီး ဆောင်ရွက်သွားချင်တာဖြစ်ပါတယ်။ ဒီလိုဆောင်ရွက်တဲ့အခါမှာ ပြည်တွင်းက လုပ်ငန်းရှင်တွေသာမက ပြည်ပမှာရှိတဲ့ ကျွန်မတို့ရဲ့မိတ်ဆွေများ၊ ကျွန်မတို့ရဲ့နိုင်ငံမှာ ရင်းနှီးမြှုပ်နှံဖို့ စိတ်ပါဝင်စားတဲ့ မိတ်ဆွေများ၊ စီးပွားရေးလုပ်ငန်းရှင်များကိုလည်း ကျွန်မတို့က ဖိတ်ခေါ်ချင်ပါတယ်။ ဒီနိုင်ငံတစ်နိုင်ငံ တိုးတက်ဖို့ဆိုတာဟာ အားလုံးဝိုင်းပြီး ရုန်းမှ ဖြစ်ပါလိမ့်မယ်။
- တရားဥပဒေစိုးမိုးရေးဆိုတာ တရားဥပဒေနဲ့ဘောင်ခတ်ထားတယ်လို့ နားလည်ကြပါတယ်။ တကယ်တော့ တရားဥပဒေစိုးမိုးရေးဆိုတာ ဘောင်ခတ်တာမဟုတ်ပါဘူးလို့။ အထောက်အကူပြုတာပါလို့။ ကျွန်မတို့အားလုံးအတွက် လုံလုံခြုံခြုံနဲ့ တိုးတက်နေဖို့အတွက် အထောက်အကူပြုတဲ့အရာဖြစ်ပါတယ်။ အဲဒါကို ပြည်သူပြည်သားများအားလုံး နားလည်စေချင်ပါတယ်။ အထူးသဖြင့် ခုဒီအစည်းအဝေးပွဲကို တက်ရောက်လာတဲ့ လုပ်ငန်းရှင်ကြီးများအားလုံးကိုလည်း နားလည်စေချင်ပါတယ်။ တရားဥပဒေစိုးမိုးရေးဆိုတာ လုပ်ငန်းရှင်များအတွက်လည်း အထောက်အကူ အများကြီးဖြစ်နိုင်ပါတယ်။ လုပ်ငန်းရှင်များအနေနဲ့ လုံလုံခြုံခြုံ ယုံယုံကြည်ကြည်နဲ့ ကိုယ့်ရဲ့စီးပွားရေးအောင်မြင်ဖို့အတွက် ကိုယ့်စီးပွားရေးကနေတစ်ဆင့် ကိုယ့်ရဲ့နိုင်ငံတိုးတက်ဖို့အတွက် လုပ်ပေးနိုင်တဲ့ အခွင့်အရေးတွေကိုပေးမယ့် မူဘောင်တစ်ခုချခြင်းဆိုတာဟာ တရားဥပဒေစိုးမိုးရေးပဲဖြစ်ပါတယ်။ တကယ့်တရားဥပဒေစိုးမိုးတဲ့နိုင်ငံမှာဆိုရင် ရင်းနှီးမြှုပ်နှံမှုတွေ ဖိတ်ခေါ်ဖို့ဟာ အခက်အခဲရှိမှာ မဟုတ်ပါဘူး။
- ကျွန်မတို့ နိုင်ငံမှာဆိုရင် လူများစုဟာ လယ်ယာစိုက်ပျိုးရေးကဏ္ဍကို အားကိုးပြီးတော့ နေကြတယ်ဆိုတာ အများသိပြီးသား ဖြစ်ပါတယ်။ ၇၀ ရာခိုင်နှုန်းလောက်ဖြစ်ပါတယ်။ ဒါကြောင့်မို့လို့ ကျွန်မတို့ရဲ့ စီးပွားရေးမူဝါဒထဲမှာဆိုရင်

လယ်ယာစိုက်ပျိုးရေးကဏ္ဍ ဖွံ့ဖြိုးတိုးတက်ခေတ်မီအောင်လုပ်ဖို့ကို ထည့်ထားတာဖြစ်ပါတယ်။ ကျွန်မတို့အနေနဲ့ ခေတ်မီတယ်ဆိုတာ အခုခေတ်မဟုတ်ဘူး။ နောင်ခေတ်အတွက်ပါ စဉ်းစားစေချင်ပါတယ်။ ကမ္ဘာကြီးမှာ အစားအစာဖူလုံရေးဟာ အင်မတန်မှ အရေးကြီးတဲ့ကဏ္ဍတစ်ခုဖြစ်နေတယ်။ တစ်နှစ်ထက်တစ်နှစ် ပိုပြီးတော့ အရေးကြီးလာမှာ ဖြစ်ပါတယ်။

- အကောက်ခွန်ပေးဆိုတာဟာ ကိုယ့်ရဲ့နိုင်ငံကို ထောက်ပံ့ခြင်းပဲ ဖြစ်ပါတယ်။ နိုင်ငံတစ်နိုင်ငံရဲ့လည်ပတ်မှု၊ နိုင်ငံတစ်နိုင်ငံရဲ့ အောင်အောင်မြင်မြင် လည်ပတ်မှုဆိုတာဟာ နိုင်ငံရဲ့ဘဏ္ဍာတော်ငွေ အခြေအနေပေါ်မှာ အများကြီးတည်ရှိပါတယ်။ အခွန်အကောက်ပေးခြင်းဆိုတာကို ပြည်သူပြည်သားများအားလုံးက ဂုဏ်ယူရမယ့်ကိစ္စပါ။ ဒါဟာ တာဝန်လည်းဖြစ်တယ်။ ဒါဟာ ကိုယ့်ရဲ့ဂုဏ်သရေလည်းဖြစ်ပါတယ်။ တချို့နိုင်ငံတွေက ပြည်သူပြည်သားတွေ ပြောတဲ့စကားကို ကျွန်မနားထဲမှာ ကြားယောင်နေပါတယ်။ ငါတို့က အကောက်အခွန် မှန်မှန်ပေးနေတဲ့ နိုင်ငံသူ နိုင်ငံသားတွေ၊ ပြောချင်တာက ဒါကြောင့်မို့လို့ ငါတို့ဟာ နိုင်ငံသူ နိုင်ငံသားများ ရသင့်ရထိုက်တဲ့ အခွင့်အရေးတွေအားလုံးကို ရပိုင်ခွင့်ရှိတဲ့ လူတွေဆိုပြီးတော့ ဝင့်ကြွားစွာပြောတာကို ကြားဖူးပါတယ်။ ပြည်သူပြည်သားများ၊ စီးပွားရေးလုပ်ငန်းရှင်များကိုလည်း ဒီလိုမာနမျိုး ထားစေချင်ပါတယ်။ ငါတို့ဟာ အပြည့်အဝ နိုင်ငံတော်ကို ဆောင်ရမယ့်အခွန်တွေကို ဆောင်နေတဲ့ ပြည်သူပြည်သားတွေဖြစ်လို့ ငါတို့ဟာ ပြည်သူပြည်သားတွေရသင့်ရထိုက်တဲ့ အခွင့်အရေးအားလုံး ရထိုက်တယ်ဆိုတဲ့ မာန်မာနမျိုးကိုတော့ ထားစေချင်ပါတယ်။
- ဒီမိုကရေစနစ်ကို ထူထောင်လိုက်တဲ့အခါမှာ အဂတိလိုက်စားမှုရှိရင် ပြည်သူပြည်သားများဟာ ပွင့်ပွင့်လင်းလင်း သတိရှိရှိနဲ့ တိုင်လို့ရပါတယ်။ ဒီကိစ္စကိုအစိုးရပိုင်း၊ ဌာနပိုင်းဆိုင်ရာကို အသိပေးလို့ရပါတယ်။ ဒီလိုအသိပေးလို့ ဘာမှကိုယ့်အတွက် အန္တရာယ်မရှိဘူးဆိုတာကို ကျွန်မအနေနဲ့ အာမခံချက်ပေးထားပါတယ်။ သို့သော်ငြားလည်း ပစ်စာတွေကို အားပေးတာ မဟုတ်ပါဘူး။ တိုင်ရဲရင် တာဝန်ခံရဲရမယ်။ ကျွန်တော် ဘယ်သူပါ။ ကျွန်မ ဘယ်သူပါ။ ကျွန်မတို့အမျိုးသားမှတ်ပုံတင်က ဘယ်လောက်ပါ။ ဘယ်လိုအဂတိလိုက်စားမှုနဲ့ကြုံတွေ့နေရပါတယ်ဆိုတဲ့ သက်ဆိုင်ရာဌာနများ၊ ကျွန်မတို့ ဝန်ကြီးဌာနဖြစ်တဲ့ အတိုင်ပင်ခံဝန်ကြီးဌာနရုံးကို ရေးလို့ရပါတယ်။ ဒီလိုရေးလို့ တိုင်လို့ရအောင်လို့လည်း အားလုံးကို ဘယ်လိုဆက်သွယ်ရမလဲဆိုတာကို သတင်းဖြန့်ချိပေးမှာ ဖြစ်ပါတယ်။ အားလုံးမှာ တာဝန်ရှိပါတယ်။

- ပညာရေးစနစ်ဟာ နှစ်ပေါင်းများစွာ၊ ဆယ်စုနှစ်ပေါင်းများစွာ နောက်ကျကျန်ခဲ့ပါတယ်။ ပညာရေးစနစ်ကို မြှင့်တင်ဖို့ ပြည်သူပြည်သားတွေရဲ့ အရည်အချင်းကို မြှင့်တင်ဖို့ဟာ အစိုးရရဲ့တာဝန်ဖြစ်ပါတယ်။ ဒီလိုမြှင့်တင်တဲ့အခါမှာ အနာဂတ်ကိုကြည့်ပြီးတော့ ဆက်သွားချင်ပါတယ်။ အသက်မွေးဝမ်းကျောင်းပညာကို အထူးအလေးထားပြီး၊ တန်ဖိုးထားပြီး ပိုပြီးတော့ တိုးတက်အောင် လုပ်ဖို့ ဆန္ဒရှိပါတယ်။
- တက္ကသိုလ်ဘွဲ့တွေ ဘယ်လောက်ပဲ ရထား၊ ရထား။ အခြေအနေတစ်ခုကို မှန်မှန်ကန်ကန်ဆုံးဖြတ်ပြီး လုပ်သင့်လုပ်ထိုက်တာကို လုပ်နိုင်တဲ့ အရည်အချင်းမရှိဘူးဆိုရင် ပညာမရှိဘူးလို့ပဲ သတ်မှတ်ရမှာပါ။ အသက်မွေးဝမ်းကျောင်းပညာ ကောင်းကောင်းမွန်မွန်တတ်ထားတဲ့ ပုဂ္ဂိုလ်တစ်ယောက်ဟာ သူ့ဘဝမှာ ရင်ဆိုင်ရမယ့် စိန်ခေါ်မှုတွေကို သေသေချာချာ သုံးသပ်ပြီး ကျော်လွှားနိုင်တဲ့ အရည်အချင်းရှိပြီဆိုရင် သူဟာ ပညာတတ်ပဲ။ တက္ကသိုလ်က ဘွဲ့တွေအများကြီး ရထားပြီးတော့ အိမ်ကနံရံပေါ်မှာ၊ ဘွဲ့နှင်းသဘင်တွေမှာ တက်ရောက်ထားတဲ့ ဓာတ်ပုံတွေ အများကြီး ချိတ်ထားပြီးတော့ တကယ့်ပြဿနာရှိတဲ့အခါမှာ မရင်ဆိုင်နိုင်ဘူး။ တကယ် ကိုယ့်အသက်မွေးဝမ်းကျောင်းအတွက် ထိထိရောက်ရောက် မလုပ်နိုင်ဘူးဆိုရင် ကျွန်မတို့ ပညာတတ်လို့ သတ်မှတ်နိုင်ပါ့မလား။
- ရင်းနှီးမြှုပ်နှံမှု ဥပဒေမှာဆိုရင် တချို့တွေ ကြိုက်တာလည်းပါမယ်။ မကြိုက်တာလည်း ပါမယ်။ ဘာပဲလုပ်လုပ် ၁၀၀ ရာခိုင်နှုန်း အားလုံးကြိုက်တယ်၊ အားလုံးလက်ခံတယ်ဆိုတာ မဖြစ်နိုင်ပါဘူး။ တတ်နိုင်သမျှ ကျွန်မတို့နိုင်ငံမှာ မှန်ကန်တဲ့ ရင်းနှီးမြှုပ်နှံမှုတွေ ပြည်တွင်းကရော ပြည်ပကပါ ဝင်လာအောင်လို့ ဒီဥပဒေကို ပြဋ္ဌာန်းထားတာ ဖြစ်ပါတယ်။ တချို့က စိတ်ပူတယ်။ ပြည်ပက ရင်းနှီးမြှုပ်နှံမယ့် လုပ်ငန်းတွေအတွက် အခွင့်အရေးတွေ သိပ်ပေးရင် ပြည်တွင်းက လုပ်ငန်းရှင်များက ပြိုင်နိုင်ပါ့မလား။ ဒီလိုစိတ်ပူပန်မှုတွေ မရှိပါနဲ့။ ကိုယ့်ကိုယ်ကိုယ် ယုံကြည်မှုရှိပါ။ အခက်အခဲရှိရင် အသိပေးပါ။ နိုင်ငံတစ်နိုင်ငံရဲ့ အစိုးရတာဝန်တစ်ခုဟာ ပြည်သူပြည်သားများရဲ့ အခက်အခဲကို ဖြေရှင်းပေးဖို့ပါ။ ပြည်သူပြည်သားတွေထဲမှာ စီးပွားရေးလုပ်ငန်းရှင်ကြီးတွေပါပါတယ်။ ပြည်သူပြည်သားတွေထဲက ချမ်းသာကြွယ်ဝလာတာကို သဘောကျပါတယ်။ ဒါပေမယ့် ချမ်းသာကြွယ်ဝလာတာ မှန်ဖို့တော့ လိုပါတယ်။ အရင်တုန်းက မှန်တာ မမှန်တာ အတိတ်ကိုတော့ ပြန်ပြင်လို့ မရတော့ပါဘူး။ ပစ္စုပ္ပန်မှာတော့ မှန်မှန်ကန်ကန် လုပ်သွားပါလို့ မေတ္တာရပ်ခံချင်ပါတယ်။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည်
## Helen Keller International Humanitarian Award 2016
## ဆုပေးအပ်သည့် အခမ်းအနားတွင် ပြောကြားသည့်မိန့်ခွန်းကောက်နုတ်ချက်
## (၂၈-၁၀-၂၀၁၆)

- ❒ ဟယ်လင်ကဲလား၏ ပြောင်မြောက်သည့် စွမ်းဆောင်ချက်များက သူ့ကို အမြဲသတိရစေပြီး သူသည် ဒုက္ခိတတစ်ယောက်အနေဖြင့် မယုံနိုင်လောက်အောင် စွမ်းအားများကို အသုံးချခဲ့ပါကြောင်း၊ အင်အားနည်းသူများကို စုပေါင်းလိုက်လျှင် ကြီးမားသည့် စွမ်းအားတစ်ရပ်ဖြစ်လာပါကြောင်း၊ ယင်းရည်မှန်းချက်ရောက်ရန်အတွက် အများကြီး ကြိုးစားရမည်ဖြစ်သကဲ့သို့ အခက်အခဲပေါင်းများစွာကိုလည်း ကျော်လွှားရမည်ဖြစ်ပါကြောင်း၊ မိမိတို့ပြည်သူများသည် နိုင်ငံတကာအကူအညီနှင့်အတူ ယင်းအခက်အခဲများကို ကျော်လွှားနိုင်မည်ဟု ယုံကြည်ပါကြောင်း။
- ❒ မျက်စိကွယ်ရာမှာ အလင်းရလာခြင်းသည် မိမိတို့အတွက် ရှားပါးလှသည့် အခွင့်အရေးတစ်ရပ်ဖြစ်ပါကြောင်း၊ အာဟာရချို့တဲ့သူများကို အာဟာရပေးခြင်းသည် မိမိတို့၏ ရင်သွေးများအတွက် ကောင်းမွန်သောအနာဂတ်တစ်ရပ်ကို ဖော်ဆောင်ပေးခြင်းဖြစ်ပါကြောင်း၊ မိမိတို့ကလေးများထဲမှ အများစုသည် အာဟာရချို့တဲ့မှုကြောင့် ကြီးထွားနှုန်းကို ရပ်တန့်စေပြီး အကယ်၍ အာဟာရပြည့်ဝပါက စိတ်ပိုင်းအရရော ရုပ်ပိုင်းအရပါ ဖွံ့ဖြိုးတိုးတက်လာမည်ဖြစ်ပါကြောင်း၊ ထိုမှတစ်ဆင့် နိုင်ငံ၏ အနာဂတ်ကို ကောင်းမွန်စွာ ဖော်ဆောင်ပေးနိုင်မည်ဖြစ်ပါကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ပထမအကြိမ် မြန်မာနိုင်ငံ ဉာဏ်ရည်မသန်စွမ်းသူများဆိုင်ရာ ညီလာခံဖွင့်ပွဲအခမ်းအနားတွင် ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက် (၂၃-၁၁-၂၀၁၆)

- ယနေ့ခေတ်တွင် နည်းပညာအမျိုးမျိုး တိုးတက်နေပြီဖြစ်ပါကြောင်း၊ တိုးတက်နေသည့်နည်းပညာများကို အခြေခံပြီး မသန်စွမ်းသည့် လူငယ်များကို သန်စွမ်းလာစေရန်၊ ၎င်းတို့ဘဝ ပြည့်စုံလာစေရန် လုပ်ပေးနိုင်သည့် အခွင့်အလမ်းများစွာရှိပါကြောင်း၊ ထို့ကြောင့် အားလုံးက ဝိုင်းဝန်းကူညီမှ အခွင့်အလမ်းများကို ဖော်ထုတ်နိုင်မည်ဖြစ်ပါကြောင်း။
- အရေးကြီးဆုံးမှာ လေးစားမှုပင်ဖြစ်ပါကြောင်း၊ လူတစ်ဦးသည် လူဖြစ်လာပြီဆိုပါက လေးစားမှုကို ရပိုင်ခွင့်ရှိပါကြောင်း၊ နိုင်ငံတကာ လူ့အခွင့်အရေးအမြင်နှင့် ပြောရမည်ဆိုပါက လူသားတိုင်းသည် ကိုယ့်ဂုဏ်သိက္ခာနှင့်ကိုယ် မွေးဖွားလာခြင်းဖြစ်ပါကြောင်း၊ မွေးရာပါ ဂုဏ်သိက္ခာကို ဘယ်သူကမှ ယူ၍မရပါကြောင်း၊ ဥပဒေဖြင့်လည်း ဖျက်၍မရပါကြောင်း၊ ဝိုင်းဝန်းကဲ့ရဲ့ ရှုတ်ချခြင်းအားဖြင့်လည်း ဖျက်၍မရပါကြောင်း၊ လူသားတစ်ယောက်ဖြစ်လာပြီဆိုကတည်းက လူသားတစ်ယောက်၏ ဂုဏ်သိက္ခာသည်ပါလာပါကြောင်း၊ အခြားလူတစ်ဦး၏ ဂုဏ်သိက္ခာကို မလေးစားခြင်းသည် မိမိ၏ဂုဏ်သိက္ခာကိုလည်း မလေးစားရာရောက်ပါကြောင်း ပြောကြားသည်။
- မိမိတို့ လူ့အသိုင်းအဝိုင်းထဲက လူတိုင်းလူတိုင်းအား သူ့တန်ဖိုးနှင့်သူရပ်တည်နိုင်သည့် အခြေအနေတွင် ထားပေးရန်လိုပါကြောင်း၊ ပညာရေးဝန်ကြီးဌာန၊ လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထားရေး ဝန်ကြီးဌာနတို့ ပူးပေါင်းပြီး ကြိုးပမ်းဆောင်ရွက်နေသော်လည်း ဌာနတစ်ခုတည်းဖြင့် ဆောင်ရွက်၍မရပါကြောင်း၊ အဘက်ဘက်မှ ဝိုင်းဝန်းပူးပေါင်းပြီး ကူညီရမည်ဖြစ်ပါကြောင်း။
- ပြဿနာသည် လူတိုင်းတွင်ရှိပြီး ယင်းပြဿနာများကို ကျော်လွှားရန် အားလုံးဝိုင်းပြီးကူညီပေးရန် လိုအပ်ပါကြောင်း၊ ကူညီရန်နည်းလမ်းများကို သက်ဆိုင်ရာဌာနများက ခေတ်၏တိုးတက်မှုနှင့်အညီ သတ်မှတ်ပေးရန်ဖြစ်ပါကြောင်း၊ သက်ဆိုင်ရာဌာနများက စေတနာဖြင့် နိုင်ငံတိုးတက်ရေးအတွက် အားလုံးတစ်ဦးချင်း တစ်ဦးချင်း၊ နိုင်ငံသူ၊ နိုင်ငံသားများ တိုးတက်ရန်၊ ပြည့်ဝရန်၊ ဘဝအဓိပ္ပာယ်ရှိရန်၊ ဘဝတန်ဖိုးရှိရန် ဆောင်ရွက်နေခြင်းဖြစ်သည်ဟု ယုံကြည်ပါကြောင်း။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် နယ်စပ်ဒေသနှင့်တိုင်းရင်းသားလူမျိုးများ၏ ဖွံ့ဖြိုးတိုးတက်မှု အကောင်အထည်ဖော်ရေး ဗဟိုညှိနှိုင်းအစည်းအဝေးတွင် ပြောကြားသည့်မိန့်ခွန်းကောက်နုတ်ချက် (၂၈-၁၁-၂၀၁၆)

- နယ်စပ်ဒေသနှင့်တိုင်းရင်းသားလူမျိုးများ၏ ဖွံ့ဖြိုးတိုးတက်မှုသည် တစ်နိုင်ငံလုံးနှင့်ဆိုင်သည်ဟု ဆိုရမည်ဖြစ်ကြောင်း၊ နယ်စပ်ဒေသနှင့် တိုင်းရင်းသားလူမျိုးများ၏ ဖွံ့ဖြိုးတိုးတက်မှုသည် တစ်တိုင်းပြည်လုံး၏ ဖွံ့ဖြိုးတိုးတက်မှုဟုလည်း ပြော၍ရပါကြောင်း၊ မိမိတို့ဦးတည်ချက်သည် ဖက်ဒရယ်ပြည်ထောင်စုနိုင်ငံဖြစ်သည့် တိုင်းရင်းသားများအားလုံးပါဝင်သည့် ညီညွတ်သည့် နိုင်ငံတော်တစ်ခုဖြစ်မြောက်ရေးနှင့် ခိုင်မြဲရေးပင်ဖြစ်ပါကြောင်း။
- နယ်စပ်ဒေသနှင့်တိုင်းရင်းသားလူမျိုးများ၏ ဖွံ့ဖြိုးရေးကို ကြည့်မည်ဆိုပါက အဘက်ဘက်က ကြည့်ရမည်ဖြစ်ပါကြောင်း၊ ပထမအရေးကြီးဆုံးသည် စည်းလုံးညီညွတ်မှုဖြစ်ပါကြောင်း၊ စည်းလုံးညီညွတ်မှုနှင့် တည်ငြိမ်မှုမရှိဘဲ ဖွံ့ဖြိုးတိုးတက်မှုသည် မည်သို့မျှရရှိနိုင်မည် မဟုတ်ပါကြောင်း။
- ဒုတိယအရေးကြီးဆုံးသည် ဖွံ့ဖြိုးတိုးတက်မှုဖြစ်ပါကြောင်း၊ ဖွံ့ဖြိုးတိုးတက်မှုမရှိဘဲ တည်ငြိမ်မှုနှင့် ငြိမ်းချမ်းမှုကို ထိန်းသိမ်းသွားရန် ခက်ခဲပါကြောင်း၊ ထို့ကြောင့် ယင်းအချက်နှစ်ချက်ကို ဟန်ချက်ညီညီ အကောင်အထည်ဖော်ရန်သည် ဗဟိုကော်မတီ၏ တာဝန်ဟု ပြော၍ရပါကြောင်း၊ ပြည်ထောင်စုဝန်ကြီးဌာနအသီးသီးတွင် သူ့တာဝန်နှင့်သူရှိသကဲ့သို့ တိုင်းဒေသကြီးနှင့် ပြည်နယ်များတွင်လည်း သူ့တာဝန်နှင့်သူ ရှိပါကြောင်း၊ လုပ်ငန်းများအားလုံးကို ပူးပေါင်းပြီးဆောင်ရွက်နိုင်ရန် မိမိတို့ ဗဟိုကော်မတီက ဝိုင်းဝန်းပြီး ကူညီပေးရန် လိုအပ်သည်ဟု မြင်ပါကြောင်း။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် စင်ကာပူ-မြန်မာ သက်မွေးပညာသင်တန်းကျောင်းမှ ကျောင်းသား/ကျောင်းသူများအား ပြောကြားသော အမှာစကားမှ ကောက်နုတ်ချက် (၃-၁၂-၂၀၁၆)

- ❒ သက်မွေးပညာရပ်သည် မိမိတို့နိုင်ငံတွင် အင်မတန်လိုအပ်ပါကြောင်း၊ သက်မွေးပညာရပ်သည် တစ်ကမ္ဘာလုံးတွင် အရေးကြီးလာသော်လည်း အချို့က မသိရှိသေးကြောင်း၊ တက္ကသိုလ်ဘွဲ့ရမှ ပညာရှိသည်ဟု သတ်မှတ်၍ မရကြောင်း။
- ❒ ပညာဟူသည်မှာ ဘဝ၏ စိတ်ခေါ်မှုများကို ရင်ဆိုင်ရန်ဖြစ်ကြောင်း၊ ဘဝ၏ စိန်ခေါ်မှုများကို ရင်ဆိုင်ကျော်လွှားနိုင်ပါက ပညာရှိသည်ဟု သတ်မှတ်၍ ရကြောင်း၊ ဘဝ၏ စိန်ခေါ်မှုများကို ရင်ဆိုင်ကျော်လွှားနိုင်ခြင်းမရှိပါက ပြောရန်ခက်ခဲကြောင်း။
- ❒ လူတိုင်းသည် မိမိခြေထောက်ပေါ်တွင် မိမိရပ်တည်နိုင်မှ လူ့ဂုဏ်သိက္ခာနှင့် ပြည့်စုံကြောင်း၊ မည်သည့်အလုပ်မဆို ဂုဏ်သိမ်ငယ်သည်ဟူ၍ မရှိကြောင်း၊ မိမိအလုပ်ကို တန်ဖိုးထားကာ သိက္ခာရှိရှိနှင့်လုပ်ပါက ထိုအလုပ်သည် တန်ဖိုးရှိကြောင်း။
- ❒ ယနေ့ခေတ်တွင် အမျိုးသမီးရော အမျိုးသားပါ အလုပ်လုပ်မှ အဆင်ပြေကြောင်း၊ မိန်းကလေးများသည်လည်း မိမိအသက်မွေးဝမ်းကျောင်းအတွက် ရပ်တည်နိုင်ကြမည်ဖြစ်ကြောင်း။
- ❒ မိမိတို့နိုင်ငံတွင် သက်မွေးပညာကို တန်ဖိုးထားသော ယဉ်ကျေးမှုတစ်ခု ခိုင်မြဲသွားစေလိုကြောင်း၊ ကမ္ဘာတွင် အတိုးတက်ဆုံးနိုင်ငံများဖြစ်သည့် ဆွီဒင်၊ ဂျာမနီ၊ ဆွစ်ဇာလန်နိုင်ငံတို့တွင် သက်မွေးပညာသင်သော ကျောင်းသား၊ ကျောင်းသူများသည် တက္ကသိုလ်ပညာသင်သော ကျောင်းသား၊ ကျောင်းသူများနှင့်ယှဉ်လျှင် လုံးဝနိမ့်ကျမှုမရှိကြောင်း။
- ❒ အချို့နေရာများတွင် ဝင်ငွေပိုပြီးကောင်းကြကြောင်း၊ မိဘများကလည်း မိမိတို့သားသမီးများ ဘဝအာမခံချက်ရှိသည်ဆိုကာ ကျေနပ်ကြကြောင်း၊ ထိုစနစ်တစ်ခု အောင်မြင်ရန်ဆိုသည်မှာ အားလုံးက ဝိုင်းပြီးကြိုးစားကြရမည်ဖြစ်ကြောင်း၊ စင်ကာပူ-မြန်မာ သက်မွေးပညာသင်တန်းကျောင်းမှ ကျောင်းသားကျောင်းသူများသည် ပညာရေးအတွက် စံပြဖြစ်ရန်လိုကြောင်း။
- ❒ ထို့အတူ မိမိနိုင်ငံ၏ လိုအပ်ချက်ဖြစ်သော သက်မွေးပညာကို အဆင့်မြင့်ရေး၊ အားပေးနိုင်ရေးအတွက် ဝိုင်းဝန်းကူညီရန် မေတ္တာရပ်ခံလိုကြောင်း။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ဖွံ့ဖြိုးမှုအကူအညီများ ညှိနှိုင်းရေးအဖွဲ့(DACU)နှင့် ပူးပေါင်းဆောင်ရွက်ရေးမိတ်ဖက်များအဖွဲ့(CPG) ပထမအကြိမ် အစည်းအဝေးတွင် ပြောကြားသော မိန့်ခွန်းကောက်နုတ်ချက် (၁၂-၁၂-၂၀၁၆)

- ယနေ့အချိန်တွင် အခြားဖွံ့ဖြိုးဆဲနိုင်ငံ အများအပြား၌ ဖွံ့ဖြိုးမှုအကူအညီများကို ယုံကြည်မှုကင်းမဲ့သော သံသယဖြင့် ရှုမြင်ကြကြောင်း၊ သို့သော်လည်း တိုးတက်လာသော ညှိနှိုင်းဆောင်ရွက်မှုနှင့် ဖွံ့ဖြိုးမှုမိတ်ဖက်နိုင်ငံများနှင့် DACU ၏ နီးကပ်သော လက်တွဲဆောင်ရွက်မှုမှတစ်ဆင့် မြန်မာနိုင်ငံ၌ အလားတူ အခြေအနေတစ်ရပ်ဖြစ်ပေါ်မှုကို ရှောင်ရှားနိုင်မည်ဟု မိမိယုံကြည်ကြောင်း။
- ဖွံ့ဖြိုးမှုအကူအညီများအတွက် ဦးစားပေးလုပ်ငန်းများ သတ်မှတ်ရာ၌ အမျိုးသားဖွံ့ဖြိုးမှု ဦးစားပေးလုပ်ငန်းများကို ပထမအဆင့်အဖြစ် သတ်မှတ်ရန် လိုအပ်ကြောင်း၊ လာမည့်လများအတွင်း အစိုးရ၏ စီးပွားရေးမူဝါဒ ၁၂ ချက် အပေါ် အခြေခံ၍ ဝန်ကြီးဌာနများအတွင်း ညှိနှိုင်းဆောင်ရွက်မှု လုပ်ငန်းစဉ်တစ်ရပ်မှတစ်ဆင့် အမျိုးသားဖွံ့ဖြိုးတိုးတက်ရေးအတွက် ဦးစားပေးစီမံကိန်းများနှင့် အစီအစဉ်များ သတ်မှတ်မည်ဖြစ်ကြောင်း။
- မိမိတို့အစိုးရအနေဖြင့် ဖွံ့ဖြိုးမှုအကူအညီ အမှန်တကယ်လိုအပ်သော စီမံကိန်းအချို့ကို သတ်မှတ်ပြီးဖြစ်ကာ ယင်းစီမံကိန်းများတွင် အခြေခံအဆောက်အအုံ၊ အလုပ်အကိုင်ဖန်တီးရေး၊ လယ်ယာစိုက်ပျိုးရေးနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးတို့ပါဝင်ကြောင်း။
- တိုင်းပြည်ဖွံ့ဖြိုးတိုးတက်ရေးအတွက် ပုဂ္ဂလိကကဏ္ဍမှာ အရေးပါသော အခန်းကဏ္ဍမှ ပါဝင်မည်ဖြစ်ကြောင်း၊ မိမိတို့၏ ကြီးမားသော အခြေခံအဆောက်အအုံ လိုအပ်ချက်များကို ထောက်ပံ့ကြေးများ၊ ချေးငွေများဖြင့် ဖြေရှင်းပေးနိုင်မည်မဟုတ်ကြောင်း၊ သို့မဟုတ် စဉ်ဆက်မပြတ်သော ရေရှည်အလုပ်အကိုင်ဖန်တီးမှုကို မြှင့်တင်နိုင်မည်မဟုတ်ကြောင်း၊ အစိုးရ၊ ပုဂ္ဂလိကကဏ္ဍနှင့် ဖွံ့ဖြိုးမှုမိတ်ဖက်နိုင်ငံများအကြား ညှိနှိုင်းဆောင်ရွက်မှုမှာ မိမိတို့လိုအပ်နေသော ရင်းနှီးမြှုပ်နှံမှုရရှိရေးအတွက် အဓိကကျကြောင်း၊ အရပ်ဘက်အဖွဲ့

အစည်းများ၊ အစိုးရမဟုတ်သော အဖွဲ့အစည်းများနှင့် အရေးပါသော ပြည်တွင်းနှင့် နိုင်ငံတကာ အလှူရှင်များနှင့် မိမိတို့အစိုးရ၏ ထိတွေ့ ဆက်စပ်မှုကို ထပ်မံခိုင်မာအားကောင်းအောင် လုပ်ဆောင်ရန် DACU အနေဖြင့် ရည်ရွယ်ကြောင်း၊ DACU အနေဖြင့် ဆန်းသစ်သော ဖန်တီးနိုင်မှု များကို ရှာဖွေပြီး အကျိုးသက်ရောက်မှုရှိစေမည့် အတွေးအခေါ်များကို ကြိုဆို လက်ခံကြောင်း၊ DACU ၏ တစ်ခုတည်းသော ရည်ရွယ်ချက်မှာ စေတနာ ကြီးစွာဖြင့် အဖွဲ့ဝင်နိုင်ငံအချင်းချင်း ကူညီထောက်ပံ့ရန်ဖြစ်ကြောင်း။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ငြိမ်းချမ်းရေးလုပ်ငန်းစဉ် ရန်ပုံငွေဆိုင်ရာ ပေါင်းစပ်ညှိနှိုင်းရေးအဖွဲ့ ဖွဲ့စည်းရေးဆိုင်ရာ အစည်းအဝေးတွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက်
## (၂၀-၁၂-၂၀၁၆)

- ❒ နိုင်ငံတကာအလှူရှင်များက ကူညီထောက်ပံ့လျက်ရှိသော ငြိမ်းချမ်းရေး လုပ်ငန်းစဉ်ဆိုင်ရာ ရန်ပုံငွေများနှင့်ပတ်သက်၍ ကန့်သတ်ထိန်းချုပ်ခြင်း မဟုတ်ကြောင်း၊ များပြားလှသော အဖွဲ့အစည်းများအကြား ထောက်ပံ့ကူညီမှုရရှိနိုင်သည့် အခြေအနေကွာခြားချက်ကြောင့် မညီမျှမှုများစွာ ရှိနေကြောင်း။
- ❒ JCB အနေဖြင့် စီမံကိန်းများကို မျှမျှတတနှင့် ထိထိရောက်ရောက်ဖြစ်စေရန် ဦးတည်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ စီမံကိန်းများ ရေးဆွဲရာတွင်လည်း အလှူရှင်ဘက်က ထောက်ပံ့ကူညီလိုသည့် စီမံကိန်းများမဖြစ်စေဘဲ လက်တွေ့ အခြေအနေ ပကတိလိုအပ်ချက်များကို အခြေခံစဉ်းစားသုံးသပ်ပြီး အလှူရှင် များဘက်က လိုအပ်သည့် အလှူငွေများ ဖြည့်ဆည်းထောက်ပံ့ပေးနိုင်ရေး ညှိနှိုင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း။
- ❒ ငြိမ်းချမ်းရေးလုပ်ငန်းစဉ်ကို အထောက်အကူပြုသော စီမံကိန်းများကို အလေး ထားဆောင်ရွက်နိုင်ရေး ဤအဖွဲ့က တာဝန်ယူညှိနှိုင်းပေးရန်ဖြစ်ကြောင်း။
- ❒ ပထမဆုံးအနေဖြင့် လိုအပ်ချက်များအလိုက် ဦးစားပေးကဏ္ဍများ သတ်မှတ် နိုင်ရေးဖြစ်ကြောင်း၊ ဒုတိယအချက်အနေဖြင့် လိုအပ်သော ကူညီထောက်ပံ့ မှုများ ရရှိရေးရှာဖွေရန်ဖြစ်ကြောင်း။
- ❒ ထိုသို့ ရှာဖွေရာတွင် နိုင်ငံတကာ ကူညီထောက်ပံ့မှုသာမက ပြည်တွင်းမှ အလှူရှင်များ ပါဝင်လာနိုင်ရေးကိုပါ ထည့်သွင်းစဉ်းစားဆောင်ရွက်ရန် ဖြစ်ကြောင်း။
- ❒ တတိယအချက်အနေဖြင့် နိုင်ငံတကာထောက်ပံ့ကူညီမှုများကို ပွင့်လင်းမြင် သာမှုရှိရှိ၊ အလေအလွင့် အနည်းဆုံးဖြစ်စေရေး၊ မလိုအပ်သော အပိုကုန်ကျမှု၊ အပိုသုံးစွဲမှုများ မရှိစေရေး တာဝန်ယူမှု အပြည့်အဝဖြင့် ဆောင်ရွက်ရန် ဖြစ်ကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ကင်းထောက်ရာပြည့်အခမ်းအနားတွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက်

## (၂၃-၁၂-၂၀၁၆)

- ကင်းထောက်လူငယ်များ၏ လှုပ်ရှားမှုဆိုသည်မှာ လူငယ်များ စိတ်ဓာတ်ဖွံ့ဖြိုးရေးအတွက် ပြုစုပျိုးထောင်ရေးနည်းတစ်မျိုးပင်ဖြစ်ပါကြောင်း၊ ကောင်းသည့်ကိစ္စများကို အားလုံးအတူတူ ဝိုင်းဝန်းဆောင်ရွက်ခြင်းသည် တစ်ဘဝအတွက် ခိုင်မြဲသည့် မိတ်ဆွေများ၊ ရဲဘော်ရဲဘက်များ ရှာဖွေခြင်းပင်ဖြစ်ပါကြောင်း၊ ကောင်းသည့်ကိစ္စများကို အတူတူလုပ်ဆောင်ခြင်းထက် ပို၍ ခိုင်မြဲနိုင်သည့် အဆက်အသွယ်မရှိပါကြောင်း၊ ထို့ကြောင့် မိမိတို့ ကင်းထောက်လူငယ်မောင်မယ်များ ယခုကဲ့သို့ စုစည်းနိုင်သည့် အခြေအနေ ပြန်လည်ရောက်ရှိလာသည်ကို ဝမ်းမြောက်မိပါကြောင်း။
- ကင်းထောက်တစ်ယောက်အနေဖြင့် ငယ်ငယ်ကတည်းက သင်ပေးလိုက်သည့် စံနှုန်း၊ စံထားများသည် တစ်ဘဝစွဲလမ်းသွားနိုင်ပါကြောင်း၊ ထိုစံနှုန်းစံထားများဖြင့် မိမိကိုယ်တိုင်အတွက်သာမက မိမိတို့ အသိုက်အဝန်းအတွက်၊ နိုင်ငံအတွက်၊ ကမ္ဘာအတွက် များစွာအကျိုးပြုနိုင်မည်ဖြစ်ပါကြောင်း။
- ကင်းထောက်လှုပ်ရှားမှုဆိုသည်မှာ တစ်ကမ္ဘာလုံးနှင့် သက်ဆိုင်သည့် လှုပ်ရှားမှုဖြစ်ပါကြောင်း၊ နိုင်ငံတစ်နိုင်ငံတည်းနှင့် သက်ဆိုင်သည့် လှုပ်ရှားမှုမဟုတ်ပါကြောင်း၊ သို့သော် နိုင်ငံတစ်ခုချင်း၏ ကောင်းကျိုးပြုမှုသည် တစ်ကမ္ဘာလုံးကို အကျိုးပြုနိုင်သကဲ့သို့ တစ်ကမ္ဘာလုံးတွင် ဖြစ်ပေါ်နေသည့် ကိစ္စအရပ်ရပ်သည်လည်း နိုင်ငံတစ်ခုချင်းစီကို ထိရောက်မှုရှိပါကြောင်း။
- မှန်ကန်သည့်နည်းဖြင့် ရင်ဆိုင်နိုင်ပါက မိမိတို့အကျိုးတွက်သာမက မိမိတို့ ပတ်ဝန်းကျင် အကျိုးအတွက်လည်း ဖြစ်ပါကြောင်း၊ အစုအဖွဲ့ဖြင့် ဆောင်ရွက်ခြင်းသည် တစ်နည်းအားဖြင့် အတ္တစိတ်ကို တော်လှန်ခြင်းပင်ဖြစ်ပါကြောင်း၊
- လူသားဖြစ်ပါက အတ္တနှင့် မကင်းနိုင်ပါကြောင်း၊ သို့သော် အတိုင်းအတာတစ်ခုထိ ထိန်းထားနိုင်ရန် လိုပါကြောင်း၊ အတ္တသည် မိမိတစ်ယောက်တည်းအတွက် တွေးခြင်းဖြစ်ကာ မေတ္တာသည် အများအတွက်တွေးခြင်းဖြစ်ပြီး ကိုယ်လုပ်သည့်ကောင်းကျိုးကို မျှဝေလိုသည့် စိတ်ပင်ဖြစ်ပါကြောင်း။

- စုပေါင်းဖွဲ့စည်းဆောင်ရွက်ခြင်းသည် အောင်မြင်မှုအတွက် အကြီးဆုံးအင်အားပင်ဖြစ်ပါကြောင်း၊ ယုံကြည်မှုကိုလည်း ခိုင်မာအောင် လေ့ကျင့်စေလိုပါကြောင်း၊ သူများကို အောင်နိုင်ခြင်းထက် မိမိတို့အားနည်းချက်များကို အောင်နိုင်ရန် စိတ်ဓာတ်များကို မွေးမြူကြစေလိုကြောင်း။
- ကင်းထောက်မောင်မယ်များအားလုံးသည် ယနေ့ ရာပြည့်အခမ်းအနားမှစ၍ တစ်နေ့ထက်တစ်နေ့ အားသစ်များမွေးမြူကာ တစ်နှစ်ထက်တစ်နှစ် မှန်ကန်သည့် စိတ်ထားများဖြင့် မိမိတို့နိုင်ငံသာမက တစ်ကမ္ဘာလုံးကို အကျိုးပြုနိုင်ကြစေလိုကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ရန်ကုန်မြို့ပြဖွံ့ဖြိုးရေးစီမံကိန်း အပိုင်း(၁) ရတနာနှင်းဆီ အဆင့်မြင့်အိမ်ရာ ၁၀ ထပ်အဆောက်အအုံ မိတ်ဆက်ဖွင့်ပွဲအခမ်းအနားတွင် ပြောကြားသော မိန့်ခွန်းမှ ကောက်နုတ်ချက် (၂၄-၁၂-၂၀၁၆)

❒ အိမ်ရာများကို တန်ဖိုးနည်း၊ တန်ဖိုးသင့်၊ တန်ဖိုးမြင့်ဆိုပြီး ခွဲထားကြပါကြောင်း၊ အများအထင်တွင် တန်ဖိုးဆိုသည်မှာ ငွေရေးကြေးရေးအရ ခွဲထားသည်ဟု ထင်မှတ်စရာဖြစ်ပါကြောင်း၊ **တန်ဖိုးဆိုသည်မှာ အရေးအကြီးဆုံး မိမိတို့ပြည်သူများ ကိုယ်နေသည့် အိမ်ရာလုံခြုံခြင်းဆိုသည်မှာ စိတ်ချမှုကို ဆိုလိုပါကြောင်း၊** လုံခြုံမှုဆိုရာတွင် ပတ်ဝန်းကျင်လုံခြုံရေးအပြင် အဆောက်အအုံ လုံခြုံရေးသည် ရှိသင့်ရှိထိုက်သော အဆောက်အအုံလုံခြုံရေးဆိုင်ရာ စံချိန်စံညွှန်းနှင့် ကိုက်ညီမှုကို ဆိုလိုပါကြောင်း။

❒ ဒုတိယတန်ဖိုးမှာ ထိုအဆောက်အအုံများ၌ နေထိုင်သည့်ပုဂ္ဂိုလ်များ၊ အဆောက်အအုံများကို အသုံးပြုမည့် ပုဂ္ဂိုလ်များဖြစ်ပါကြောင်း၊ နောင်လာမည့် အဆောက်အအုံများ၌ ရုံးခန်းများ၊ အခြားလိုအပ်သည်များ ပါရှိလာမည်ဖြစ်ပါကြောင်း၊ အားလုံး၏ လိုအပ်ချက်နှင့်ကိုက်ညီသည့် တန်ဖိုးကို ပြောခြင်းဖြစ်ပါကြောင်း၊

❒ တတိယတန်ဖိုးမှာ ပတ်ဝန်းကျင်နှင့် ဆီလျော်သည့် တန်ဖိုးဖြစ်ပါကြောင်း၊ မိမိတို့နိုင်ငံမှာ အင်မတန်မှ လှပသည်ဟု လူတိုင်းလူတိုင်းက ချီးမွမ်းကြပါကြောင်း၊ ရန်ကုန်မြို့သည် တစ်ချိန်တစ်ခါတုန်းက အရှေ့တိုင်း၌ အလှပဆုံး မြို့ဆိုပြီး ထင်ရှားခဲ့ပါကြောင်း။

❒ ယခုအချိန်တွင် ထိုပုံစံအတိုင်း မဟုတ်တော့သည်ကို မိမိတို့ဝန်ခံရမည်ဖြစ်ပါကြောင်း၊ ရန်ကုန်ကို ပြန်ပြီး လှပတင့်တယ်ရန်ဆိုလျှင် အားလုံးဝိုင်းပြီး ရုန်းကန်ရမည့်ကိစ္စဖြစ်ပါကြောင်း။

❒ ရန်ကုန်အစိုးရတစ်ခုတည်းလုပ်၍ မပြီးပါကြောင်း၊ ရန်ကုန်အစိုးရတွင် အဓိကတာဝန်ရှိသည် ဟုဆိုသော်လည်း ဗဟိုပြည်ထောင်စုအစိုးရကလည်း ဝိုင်းဝန်းကူညီသွားမည် ဖြစ်ပါကြောင်း။

❒ ယခု ရန်ကုန်၌ ပြဿနာကြီးတစ်ခုမှာ လမ်းများတွင် ကားများပိတ်ဆို့နေမှု၊ ယာဉ်ကြောပိတ်ဆို့နေမှုဖြစ်ပါကြောင်း၊ ယာဉ်ကြောပိတ်ဆို့နေသည့်အတွက်

အချိန်ကို အင်မတန်မှ ကုန်စေပါကြောင်း၊ အချိန်ဆိုသည်မှာ တန်ဖိုးထား သင့်သည့်အရာ ဖြစ်ပါကြောင်း၊ အလုပ်သွားရန် လမ်းမှာ နှစ်နာရီကြာနေလျှင် အချိန်နှစ်နာရီ အလကားဖြစ်သွားသည်ဟု မိမိယူဆပါကြောင်း။

- ❒ အဆင့်ရှိသည်ဆိုသည်မှာ ပိုက်ဆံကုန်မှ အဆင့်ရှိခြင်းမဟုတ်ပါကြောင်း၊ လုံခြုံမှုလည်းရှိမည်၊ နေထိုင်သည့် ပြည်သူပြည်သားများ၊ သုံးသည့်ပြည်သူပြည်သားများ၏ လိုအပ်ချက်များကိုလည်း ဖြည့်ဆည်းပေးရန်လည်း လုံလောက်မည့် ပတ်ဝန်းကျင်နှင့်လည်း ဆီလျော်သည့် တန်ဖိုးများရှိမည်ဆိုလျှင် ဤအိမ်ရာများသည် တန်ဖိုးကြီးသည်ဖြစ်စေ၊ မကြီးသည်ဖြစ်စေ နေပျော်ပြီး မိမိတို့နိုင်ငံအတွက် ဂုဏ်သိက္ခာရှိသော အိမ်ရာများဖြစ်လာမည်ဟု ယုံကြည်ပါကြောင်း၊
- ❒ ထိုသို့ဖြစ်လာရန် အားလုံးက ဝိုင်းဝန်းကူညီရမည်ဖြစ်ကြောင်း၊ ပုဂ္ဂလိကလုပ်ငန်းရှင်များကလည်း စီမံကိန်းများ အောင်မြင်အောင် ဝိုင်းဝန်းပြီး အကူအညီပေးကြစေလိုကြောင်း၊ အစိုးရတစ်ခုတည်းသာ တာဝန်ရှိသည်၊ အစိုးရသာ လုပ်ရမည်ဆိုသည့် စိတ်ဓာတ်များ မမွေးမြူစေလိုကြောင်း၊ ယင်းမှာ ဒီမိုကရေစီစိတ်ဓာတ် မဟုတ်ပါကြောင်း။
- ❒ ဒီမိုကရေစီစိတ်ဓာတ်ဆိုသည်မှာ ပြည်သူလူထုတွင် အခွင့်အရေးများရှိသကဲ့သို့ တာဝန်လည်းရှိပါကြောင်း၊ အားလုံးဝိုင်းဝန်းပြီး ကြိုးစားမည်၊ အားလုံးတွင် တာဝန်ရှိသည်၊ မိမိတို့နိုင်ငံ၏ တိုးတက်ရေးသည် အားလုံး၏ တိုးတက်ရေးဆိုသည့် စိတ်ဓာတ်ဖြင့် ကြိုးပမ်းသွားရမည်ဖြစ်ကြောင်း၊ အစိုးရလုပ်ပေးမှုကိုသာ ထိုင်ပြီး ကြည့်မနေစေလိုပါကြောင်း။
- ❒ ပုဂ္ဂလိက စီးပွားရေးလုပ်ငန်းရှင်များကလည်း ဝိုင်းဝန်းပြီး ကူညီပေးစေချင်ပါကြောင်း၊ ယခုခေတ်တွင် အားလုံးပါဝင်ရမည်ဖြစ်ပါကြောင်း၊ Public Private Partnership ပုံစံဖြစ်ပါကြောင်း၊ ပုဂ္ဂလိကကဏ္ဍနှင့် အစိုးရပိုင်းဆိုင်ရာ ကဏ္ဍအားလုံးပူးပေါင်းပြီး ဆောင်ရွက်မှ အောင်မြင်နိုင်မည်၊ မြန်မြန်ဆန်ဆန်တိုးတက်နိုင်မည်ဖြစ်ပါကြောင်း၊ ရန်ကုန်မြို့သူမြို့သားများကလည်း မိမိတို့၏ မြို့တော်ကြီး တိုးတက်စေရန် ဝိုင်းဝန်းကူညီကြပါ၊ ယခု စီမံကိန်းများ၊ ဆောက်လုပ်ရေးစီမံကိန်းများကို ဝိုင်းဝန်းပြီး ကူညီပံ့ပိုးပေးကြပါဟု မေတ္တာရပ်ခံပါကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ငြိမ်းချမ်းရေးလုပ်ငန်းစဉ် ရန်ပုံငွေဆိုင်ရာ ပေါင်းစပ်ညှိနှိုင်းရေး အဖွဲ့အစည်းတွင် ပြောကြားချက်မှ ကောက်နုတ်ချက် (၂၈-၁၂-၂၀၁၆)

- ❒ ငြိမ်းချမ်းရေးလုပ်ငန်းစဉ်ရန်ပုံငွေကို နိုင်ငံတော်အစိုးရတစ်ခုတည်းက ပိုင်ဆိုင်ခြင်း၊ အမျိုးသားပြန်လည်သင့်မြတ်ရေးနှင့် ငြိမ်းချမ်းရေးဗဟိုဌာန(NRPC)က ပိုင်ဆိုင်ခြင်းမဟုတ်ကြောင်း၊ နိုင်ငံသူ နိုင်ငံသားအားလုံးက ပိုင်ဆိုင်ခြင်းဖြစ်ကြောင်း၊ အလှူရှင်များက လှူဒါန်းပြီးသည့်နောက်တွင် ပြည်သူပိုင်ဖြစ်သွားပြီဖြစ်ကြောင်း။
- ❒ ထိုရန်ပုံငွေများကို စိစစ်ရာတွင်လည်း မည်သည့်အတွက်ကြောင့် သုံးစွဲရသည်၊ မည်သည့်နေရာများတွင် သုံးစွဲရသည်ကို ယခုပေါင်းစပ်ညှိနှိုင်းရေးအဖွဲ့က သဘောတူညီရန် လိုအပ်သကဲ့သို့ ပွင့်လင်းမြင်သာမှုနှင့် တာဝန်ခံ မှုရှိရန် လိုအပ်ပါကြောင်း။
- ❒ ငြိမ်းချမ်းရေးလုပ်ငန်းစဉ် ရန်ပုံငွေပေါင်းစပ်ညှိနှိုင်းရေးလုပ်ငန်းစဉ်သည် အထူးအရေးကြီးကြောင်း၊ နိုင်ငံတကာက ထောက်ပံ့သည်ဖြစ်စေ၊ ပြည်တွင်းအလှူရှင်များက ထည့်ဝင်လှူဒါန်းသည်ဖြစ်စေ နိုင်ငံသူနိုင်ငံသားများကို လှူဒါန်းခြင်းဖြစ်ကြောင်း။
- ❒ ငြိမ်းချမ်းရေးလုပ်ငန်းစဉ် ရန်ပုံငွေဆိုင်ရာ ပေါင်းစပ်ညှိနှိုင်းရေးအဖွဲ့က သဘောတူချမှတ်ထားသော ဦးစားပေးကဏ္ဍကြီးများနှင့် ညီညွတ် မှုရှိရမည်ဖြစ်ကြောင်း၊ အဖွဲ့အစည်းတစ်ဖွဲ့ချင်း၏ ရန်ပုံငွေကိစ္စမှာ ယင်းတို့ အဖွဲ့အစည်းများနှင့်သာ သက်ဆိုင်ပြီး မိမိတို့ JCB အဖွဲ့မှာ ငြိမ်းချမ်းရေးလုပ်ငန်းစဉ်နှင့် ဆက်စပ်ပတ်သက်သည့် ရန်ပုံငွေကိစ္စရပ်များကိုသာ ဆွေးနွေးညှိနှိုင်းမည်ဖြစ်ကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ကရင်နှစ်သစ်ကူးနေ့အတွက် ပေးပို့သော သဝဏ်လွှာမှ ကောက်နုတ်ချက်
## (၂၉-၁၂-၂၀၁၆)

❒ တိုင်းရင်းသားပေါင်းများစွာနဲ့ ဆောက်တည်ထားတဲ့ ကျွန်မတို့ပြည်ထောင်စုရဲ့ ဂုဏ်ယူတန်ဖိုးထားရဆုံး အရာတစ်ရပ်ကတော့ ချစ်စဖွယ်ကောင်းလှတဲ့ အမျိုးမျိုးအဖုံဖုံသော ရိုးရာယဉ်ကျေးမှု အစဉ်အလာကောင်းလေးတွေ ဖြစ်ပါတယ်။ အစဉ်အလာအလေ့အကျင့်ကောင်းတွေကို လေ့လာ၊ သတိရခြင်းဟာ ကျွန်မတို့တွေရဲ့ ပြည်ထောင်စုစိတ်ဓာတ်ကို မြှင့်တင်ပေးပြီး ကျွန်မတို့နိုင်ငံရဲ့ အင်အားတွေ ကြီးထွားစေပါတယ်။

❒ ရှေးယခင်ကစပြီး ကောက်သစ်ပေါ်ချိန်မှာ မိသားစုတွေ အတူတကွ ကောက်သစ်စားပွဲများ ကျင်းပလာရာမှ ကရင်နှစ်သစ်ကူးပွဲတော် ဆင်းသက်လာတယ်လို့ ပြောလို့ရပါတယ်။ ဒါကြောင့် နှစ်သစ်ကူးချိန်ဟာ နှစ်ဟောင်းက အားစိုက်ကြိုးပမ်းမှုတွေရဲ့ အသီးအပွင့်တွေကို ရယူပွေ့ပိုက်နိုင်ခြင်းအတွက် ကျေနပ်ကြည်နူးရတဲ့ အချိန်အခါပါ။ ဖွဲ၊ လုံ့လ၊ ဝီရိယနဲ့ လုပ်ခဲ့ရသမျှရဲ့ အကျိုးကျေးဇူးတွေကို တစ်နေ့တော့ ခံစား၊ စံစားရမှာပဲဆိုတဲ့ မျှော်လင့်ချက်ကို ရှင်သန်စေတဲ့ပွဲတော်ပါ။

❒ နှစ်ပေါင်း (၆၀)ကျော် လွတ်လပ်ရေးရစဉ်ကစပြီး လောင်ခဲ့တဲ့ ပြည်တွင်းစစ်မီး မကြာမီကာလမှာ ငြိမ်းစေရမယ်ဆိုတဲ့ မျှော်လင့်ချက် ရှင်သန်ရုံသာမက အကောင်အထည်ပေါ်လာဖို့အတွက် ဖွဲ၊ လုံ့လ၊ ဝီရိယတို့နဲ့ ကျွန်မတို့ တိုင်းရင်းသားများအားလုံးအကြား အပြန်အလှန် နားလည်မှု၊ ယုံကြည်လေးစားမှုတွေ ပြုစုပျိုးထောင်ကြပါစို့။ ယခုနှစ် စိုက်လိုက်တဲ့ ငြိမ်းချမ်းရေးပျိုးပင်လေးတွေဟာ **နောက်နှစ်မှာ ငြိမ်းချမ်းရေးကောက်သစ်စားပွဲကြီးကို ပြည်ထောင်စုတစ်ဝန်း ဆင်နွှဲနိုင်ကြပါစေ။**

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ကရင်နှစ်သစ်ကူးနေ့ အခမ်းအနားတွင် ပြောကြားသော နှစ်သစ်ကူးမိန့်ခွန်းမှ ကောက်နုတ်ချက် (၂၉-၁၂-၂၀၁၆)

- ကရင်နှစ်သစ်ကူးနေ့သည် ကောက်သစ်စားသည့် နေ့လည်းဖြစ်ပါကြောင်း၊ မိမိတို့ပျိုးထောင်ခဲ့သော ပျိုးပင်များမှ အသီးအပွင့်များ၏ အကျိုးကျေးဇူးကို ခံစားရသည်ဟုလည်း ဆိုနိုင်ပါကြောင်း၊ မိမိတို့ ဗုဒ္ဓဘာသာ အယူအဆတွင် ကံ၊ ကံ၏ အကျိုးဟု ပြောရမည်ဖြစ်ပါကြောင်း၊ အလားတူ ခရစ်ယာန်သမ္မာကျမ်းစာတွင်လည်း ကြဲသည့်မျိုးစေ့အတိုင်း ပျိုးပင်ကို ပြန်ရမည်ဟု ပြောထားခြင်းရှိပါကြောင်း၊ ယင်းတို့သည် မိမိတို့နိုင်ငံနှင့် ပြည်ထောင်စုအတွက် အလေးအနက်ထားရမည့် သင်ခန်းစာတစ်ခုဖြစ်ပါကြောင်း။
- ကောင်းတာလုပ်ပါက ကောင်းကျိုးခံစားရမည်ဖြစ်၍ ပြည်ထောင်စုကောင်းကျိုးအတွက် အားလုံးက ဝိုင်းဝန်းလုပ်ဆောင်ရန် လိုအပ်သည်ကိုလည်း မိမိတို့နှလုံးသား၌ သိရှိရန်လိုအပ်ပါကြောင်း၊ နှစ်သစ်တွင် မိမိတို့၏ မျှော်လင့်ချက်များ ပြန်လည်ရှင်သန်၊ သစ်ဆန်းအောင် လုပ်ဆောင်နိုင်မည့် အခွင့်အရေးများ ရရှိနိုင်ပါကြောင်း။
- ယခင်က မကောင်းသည်များ ဖြစ်ခဲ့ပါကလည်း နောင်ဆက်မဖြစ်ရန်နှင့် ကောင်းခဲ့သည်များကို ပိုမိုခိုင်မာအားကောင်းရန်အတွက် နောက်တစ်ဖန် လုပ်ပိုင်ခွင့်ရရှိသည့် အချိန်ဟုလည်း ပြော၍ရပါကြောင်း၊ လုပ်ပိုင်ခွင့်ဆိုသည်မှာ ကိုယ်တိုင်အသုံးချတတ်မှလည်း အကျိုးအမြတ်ရရှိမည် ဖြစ်ပါကြောင်း။
- အချို့ယဉ်ကျေးမှုများတွင် နှစ်ဆန်း၌ မည်သည်ကို လုပ်ဆောင်မည်၊ မလုပ်ဆောင်မည်ကို သန္နိဋ္ဌာန်ချတတ်ကြသည်ကို တွေ့ရပါကြောင်း၊ သို့ရာတွင် အဆိုပါ သန္နိဋ္ဌာန်များသည် တစ်ပတ်၊ နှစ်ပတ်၊ သုံးပတ်၊ တစ်လအတွင်း မမြဲကြသည်ကိုလည်း မိမိတွေ့မြင်ခဲ့ရပါကြောင်း။
- နှစ်တစ်နှစ်စ၍ မိမိတို့ချခဲ့သော ကောင်းမွန်သည့် သန္နိဋ္ဌာန်များကို ခိုင်မြဲအောင် ကြိုးစားအားထုတ်ရမည်ဖြစ်ပါကြောင်း၊ ထိုသို့ ဆောင်ရွက်ရာတွင် တစိုက်မတ်မတ် တစ်ဆင့်ပြီးတစ်ဆင့် လုပ်သင့်လုပ်ထိုက်သည်များကို အားကြိုးမာန်တက် ဇွဲ လုံ့လ၊ ဝီရိယတို့ဖြင့် လုပ်ကိုင်ဆောင်ရွက်သွားရမည်ဖြစ်ပါကြောင်း။

- မိမိကြဲလိုက်သည့် မျိုးစေ့များမှတစ်ဆင့် ပျိုးပင်များ ပေါက်လာမည်ဖြစ်ပြီး ယင်းမှတစ်ဆင့် အသီးအပွင့်များ ရရှိမည်ဖြစ်ပါကြောင်း၊ ရရှိလာသည့် အသီးအပွင့်များကို ရိတ်သိမ်း၍ အာဟာရဖြစ်သည်အထိ လုပ်ဆောင်ရမည်ဖြစ်ပါကြောင်း၊ နောက်ဆုံးတွင် မိမိတို့ပျိုးခဲ့သော မျိုးစေ့များ၏ အကျိုးကျေးဇူးကို အပြည့်အဝ ရရှိခံစားနိုင်မည်ဖြစ်ပါကြောင်း။
- ထို့အတူ ပြည်ထောင်စုကြီးတစ်ခု ထူထောင်ပါက ပထမဦးဆုံး မျိုးစေ့များကို ကြဲရမည်ဖြစ်ပြီး အားလုံးက ဝိုင်းဝန်း ပြုစုပျိုးထောင်ရမည်ဖြစ်ပါကြောင်း၊ ဤနေရာတွင် ပျိုးပင်စိုက်ခြင်း၊ ပြုစုပျိုး ထောင်ခြင်းနှင့် ရိတ်သိမ်းခြင်းတို့တွင် ပါဝင်ဆောင်ရွက်မှုမရှိဘဲ အကျိုးကျေးဇူး ခံစားချိန်၌သာ ပါဝင်မည်ဆိုပါက ယင်းသည် ပြည်ထောင်စုစိတ်ဓာတ်မဟုတ်သည်ကို မိမိပြောကြားလိုပါကြောင်း။
- မည်သည့်အလုပ်ကို လုပ်ဆောင်သည်ဖြစ်စေ ရှေ့အနာဂတ်ကို ကြည့်ရမည်ဖြစ်ပါကြောင်း၊ အနာဂတ်ဆိုသည်မှာ တစ်နှစ်၊ နှစ်နှစ်၊ သုံးနှစ်၊ လေးနှစ်ကို မဆိုလိုပါကြောင်း၊ နိုင်ငံရေးပညာရှင်တစ်ဦး ပြောကြားခဲ့သကဲ့သို့ နိုင်ငံရေးလုပ်စားသူများအနေဖြင့် နောင်လာမည့် ရွေးကောက်ပွဲတစ်ခေါက်အတွက် မစဉ်းစားဘဲ နိုင်ငံ၏ နောင်မျိုးဆက်သစ်များအတွက် စဉ်းစားရမည်ဖြစ်ပါကြောင်း။
- ထို့ကြောင့် မိမိတို့အားလုံးသည် နောင်မျိုးဆက်သစ်များအတွက် စဉ်းစားပြီး ကရင်အမျိုးသားများ၏ နှစ်သက်ဖွယ်ကောင်းသော နှစ်သစ်ကူးမှပေးသည့် သင်ခန်းစာများကို ဆင်ခြင်နှလုံးသွင်းပြီး အတူတကွ လက်တွဲ၍ ပြည်ထောင်စုကြီး ခိုင်မာသာယာဝပြောအောင် လုပ်ဆောင်ကြရမည်ဖြစ်ပါကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် အမျိုးသားပြန်လည်သင့်မြတ်ရေးနှင့် ငြိမ်းချမ်းရေးဗဟိုဌာန ဖွင့်ပွဲအခမ်းအနားတွင် ပြောကြားချက်မှ ကောက်နုတ်ချက် (၁-၁-၂၀၁၇)

- အမျိုးသားပြန်လည်သင့်မြတ်ရေးနှင့် ငြိမ်းချမ်းရေးဖြစ်စဉ်များ အောင်မြင်မည်ဆိုသည်ကို မိမိယုံကြည်ပြီးသားဖြစ်ကြောင်း၊ ဘယ်လောက်အချိန်ရယူရမလဲဆိုသည်ကိုသာ မသိခြင်းဖြစ်ကြောင်း၊ မိမိအနေဖြင့် အချိန်မဆွဲသင့်တော့ဘူးဟုထင်ကြောင်း၊ မိမိတို့ ယခင်နှစ်ပင်လုံညီလာခံကို စလုပ်တုန်းကလည်း တချို့က စောသေးသည်၊ အချိန်နည်းနည်းပေးပါဟု ပြောကြကြောင်း၊ မစောဘူး၊ နောက်ကျနေပြီဟု မိမိပြောခဲ့ကြောင်း၊ ဒီလိုညီလာခံကြီးဖြစ်မြောက်သင့်သည်မှာ ကြာပြီဖြစ်၍ တစ်ရက်နောက်ကျလျှင်တောင် နောက်ကျလွန်းနေပြီဟု ပြောပြီး ဖြစ်မြောက်အောင် လုပ်ခဲ့ကြောင်း။

- အလားတူ ယခုလုပ်ရမည့်ကိစ္စများကိုလည်း မလိုအပ်တဲ့ အဆောတလျင်လုပ်ခြင်းမဟုတ်ဘဲ အမြန်ဆုံးလုပ်နိုင်ရန်လိုကြောင်း၊ မိမိတို့ ငြိမ်းချမ်းရေးလိုအပ်ခဲ့သည်မှာ လွတ်လပ်ရေးရကတည်းကပင်ဖြစ်ကြောင်း၊ နှစ်ပေါင်း ၇၀ ခန့်ရှိနေပြီဖြစ်ကြောင်း၊ ယခုအချိန်ထိ ငြိမ်းချမ်းရေးလည်း မရသေးသည်မှာ အချိန်လွန်လာပြီဟုထင်ကြောင်း။

- အမျိုးသားပြန်လည်သင့်မြတ်ရေးဆိုသည့် အသုံးအနှုန်းကို သုံးထားပါကြောင်း၊ တချို့က အမျိုးသားပြန်လည်ရင်ကြားစေ့ရေးဟု သုံးကြပါကြောင်း၊ ပြန်လည်ရင်ကြားစေ့ရေးဟုသုံးသုံး၊ ပြန်လည်သင့်မြတ်ရေးဟုသုံးသုံး ယခင်က သင့်မြတ်ဖူးသည်၊ ယခင်က ရင်ကြားစေ့ရေးရှိဖူးသည်၊ နောက် ပျောက်ကွယ်သွားသဖြင့် ပြန်ပြီး ပြန်လည်ရောက်ရှိအောင် လုပ်သည်၊ ကြိုးပမ်းသည်ဟု အဓိပ္ပာယ်ဆောင်သလားဟု မိမိစဉ်းစားပါကြောင်း။

- လူတိုင်းလူတိုင်းက မိမိ၏ဒေါသ လောဘ ပျောက်အောင်လုပ်မည်ဆိုလျှင် အမျိုးသားပြန်လည်သင့်မြတ်ရေး၊ ငြိမ်းချမ်းရေးဖြစ်စဉ်ကြီးကို မြန်မြန်ဆန်ဆန် အောင်မြင်မည်ဖြစ်ပါကြောင်း၊ ငြိမ်းချမ်းရေးအတွက် လုပ်ဆောင်သည့်အခါ ကိုယ်က ဘာပေးနိုင်သလဲ၊ ကိုယ်က ဘယ်လိုပံ့ပိုးနိုင်သလဲ၊ ကိုယ်က ဘယ်လောက်

အနစ်နာခံနိုင်သလဲ၊ ကိုယ်က ဘယ်လောက်စွန့်လွှတ်နိုင်သလဲဆိုသည်ကို စဉ်းစားရန်လိုပါကြောင်း၊ ဟိုဘက်က ဘယ်လောက်ပေးမှာလဲ၊ ဟိုဘက်က ဘယ်လောက်ရနိုင်မှာလဲ၊ ဟိုဘက်က ငါတို့အတွက် ဘာတွေလုပ်ပေးနိုင်မလဲဆိုသည့်ပုံစံဖြင့် သွားမည်ဆိုလျှင် အောင်မြင်မှုမရနိုင်ပါကြောင်း။

- ယခု ငြိမ်းချမ်းရေးဖြစ်စဉ်နှင့်ပတ်သက်ပြီး အရေးကြီးဆုံးမှာ ယုံကြည်မှု တည်ဆောက်ရန်နှင့် ယင်း၏အခြေခံမှာ ဖြောင့်မတ်ခြင်းဖြစ်ပါကြောင်း၊ ငြိမ်းချမ်းရေးသံလွင်ပင်လေးကို ရှင်သန်စေချင်လျှင် အရေးကြီးသည်မှာ မိမိတို့ အချင်းချင်းအကြား မှန်မှန်ကန်ကန်၊ ဖြောင့်ဖြောင့်မတ်မတ်၊ ပွင့်ပွင့်လင်းလင်း၊ ဖြူဖြူစင်စင် ဆက်ဆံနိုင်ရန်လိုပါကြောင်း၊ ကိုယ်လိုချင်တာရှိလျှင်လည်း လိုချင်သည်ဟု ပြော၍ရပါကြောင်း၊ လူဖြစ်သည့်အတွက် လိုချင်တာရှိပါကြောင်း၊ မိမိတို့ဆန္ဒချင်းမတူ၍ ငြိမ်းချမ်းရေးမှာ ပျက်ပြားခဲ့ရခြင်းဖြစ်ပါကြောင်း၊ ကိုယ် လိုချင်တာနှင့် သူလိုချင်တာ မတူသဖြင့် သို့မဟုတ် သူလိုချင်တာကို ကိုယ် ကလည်း လိုချင်ပြီး လုသဖြင့် သင့်မြတ်ရေး၊ ငြိမ်းချမ်းရေး ပျက်ပြားခဲ့ခြင်းဖြစ် ပါကြောင်း။

- မိမိတို့၏ ဒေါသကိုလည်း မေတ္တာထားခြင်းဖြင့် အနိုင်ယူရမည်၊ လောဘနှင့် ဒေါသကို အောင်နိုင်မည်ဆိုလျှင် မိမိတို့နိုင်ငံတွင် အမျိုးသားပြန်လည်သင့်မြတ် ရေး မရှိစရာအကြောင်း ဘာမျှမရှိပါကြောင်း၊ ယင်းစိတ်နှစ်ခုသာ ပျောက်ကွယ် သွားမည်ဆိုလျှင် လုံးဝပျောက်ကွယ်သွားခြင်းမဟုတ်ဘဲ အများကြီး လျော့ကျ သွားမည်ဆိုလျှင် မိမိတို့၏ အမျိုးသားပြန်လည်သင့်မြတ်ရေးနှင့် ငြိမ်းချမ်း ရေးဖြစ်စဉ်များ အောင်မြင်မည်ဟု လုံးဝယုံကြည်ပါကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ငြိမ်းချမ်းရေးလုပ်ငန်းစဉ် ဦးဆောင်အဖွဲ့ခေါင်းဆောင်များအား ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၂၃-၁-၂၀၁၇)

- ❒ မကြာသေးမီက ကရင်ပြည်နယ်တွင်ကျင်းပခဲ့သော အမျိုးသားအဆင့် နိုင်ငံရေး ဆွေးနွေးပွဲမှာ အောင်မြင်ပါကြောင်း၊ ပြည်သူများ၏ ပါဝင်မှုမှာလည်း အားရ ကျေနပ်ဖွယ်ရာကောင်းမွန်ကြောင်း၊ ဆက်လက်ပြီး အခြားသောနေရာဒေသ များတွင် အမျိုးသားအဆင့် နိုင်ငံရေးဆွေးနွေးပွဲများ ဆက်လက်ကျင်းပနိုင်ရေး စီစဉ်ဆောင်ရွက်လျက်ရှိကြောင်း၊ NCA လက်မှတ်ရေးထိုးခြင်းမရှိသေးသည့် အဖွဲ့အစည်းများနှင့်လည်း ဆွေးနွေးညှိနှိုင်းခြင်းဖြင့် အဖြေထွက်လာမည်ဟု ယုံကြည်ထားပါကြောင်း၊ လူအများပြောကြားနေသည့် ယုံကြည်မှုတည်ဆောက် ရေးတွင် ပထမဆုံးအနေဖြင့် မိမိကိုယ်ကိုယ် ယုံကြည်မှုရှိရန် အထူးအရေးကြီး ကြောင်း၊ မြန်မာနိုင်ငံ၏ ငြိမ်းချမ်းရေးလုပ်ငန်းစဉ်အတွင်း ဝင်ရောက်ရန် အတွက် မိမိကိုယ်ကိုယ် ယုံကြည်မှုရှိရန်လိုအပ်ကြောင်း၊ မည်သည့်အရာတွင် မဆို အောင်မြင်မည်ဟု တထစ်ချရာနှုန်းပြည့် သေချာမှုရှိရန် မလွယ်ကူသော် လည်း အောင်မြင်အောင် ကြိုးပမ်းလုပ်ဆောင်မည်ဟု မိမိကိုယ်ကိုယ် အပြည့် အဝယုံကြည်မှုထားရှိရန် လိုအပ်ကြောင်း။
- ❒ ငြိမ်းချမ်းရေးလုပ်ငန်းစဉ် ဦးဆောင်အဖွဲ့ခေါင်းဆောင်များနှင့် တွေ့ဆုံပြီး ပွင့်ပွင့်လင်းလင်း ရင်းရင်းနှီးနှီးဆွေးနွေးခွင့်ရရှိသည့်အတွက် အင်အားများ ဖြစ်ပေါ်စေကြောင်း၊ စိတ်အားထက်သန်မှုများလည်းရရှိပါကြောင်း၊ ငြိမ်းချမ်း ရေးရရှိအောင် ဆောင်ရွက်နိုင်မည်ဟု ယုံကြည်ပါကြောင်း၊ ငြိမ်းချမ်းရေး၏ အသီးအပွင့်ကို တိုင်းရင်းသားပြည်သူများ ရရှိခံစားနိုင်ကာ ငြိမ်းချမ်းရေး လုပ်ငန်းစဉ်အပေါ် ယုံကြည်မှုတိုးမြှင့်ရရှိလာနိုင်မည်ဖြစ်ကြောင်း။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ပခုက္ကူမြို့နယ် စံပြကြီးကျေးရွာနှင့် ပတ်ဝန်းကျင်ကျေးရွာများမှ ဒေသခံများအား တွေ့ဆုံပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက် (၂၅-၁-၂၀၁၇)

- ❐ ကလေးများ၏ အာဟာရပြည့်ဝရေးဆိုသည်မှာ ကလေးများ၏ တစ်သက်တာအတွက်ဖြစ်ကြောင်း၊ အသက် နှစ်နှစ်အောက်ကလေးများသည် အာဟာရပြည့်ဝပါက ပိုမိုဦးနှောက်ဖွံ့ဖြိုးမှုရှိသည်ကို သုတေသနမှတ်တမ်းများအရ သိရကြောင်း၊ သားသမီးများ ပြုစုပျိုးထောင်ရေးကို မိခင်များ၏အလုပ်ဟု သတ်မှတ်နေကြပါကြောင်း၊ မိသားစုတစ်စု၏ ကျန်းမာရေး၊ ဖွံ့ဖြိုးတိုးတက်ရေးသည် မိသားစုဝင်တိုင်းတွင် တာဝန်ရှိပါကြောင်း၊ မိသားစုတစ်စု၏ ကျန်းမာရေး၊ ဖွံ့ဖြိုးတိုးတက်ရေးသည် မိသားစုဝင်တိုင်းတွင် တာဝန်ရှိပါကြောင်း၊ မိဘများက တာဝန်သိသည့် စိတ်ရှိမှ သားသမီးများသည် တာဝန်သိသည့်စိတ်နှင့် ကြီးပြင်းလာမည်ဖြစ်ပါကြောင်း။
- ❐ မိဘများအနေဖြင့် မိမိတို့၏ သားသမီးများ ဖွံ့ဖြိုးတိုးတက်ရေးအတွက် အတတ်နိုင်ဆုံး ကြိုးစားလုပ်ဆောင်နေသကဲ့သို့ အစိုးရအနေဖြင့်လည်း ပံ့ပိုးပေးရမည့် တာဝန်ရှိပါကြောင်း၊ ယင်းပံ့ပိုးမှုများကို အကောင်းဆုံးဖြစ်အောင် အသုံးချနိုင်ရေးသည် ပြည်သူလူထု၏ တာဝန်ဖြစ်ပါကြောင်း၊ မိမိတို့သည် ရေရှည်အမြင်ဖြင့် အရာအားလုံးကိုကြည့်ရန် လိုအပ်ပါကြောင်း၊ ယခုအခါ ကလေးတစ်ယောက် ပိုမိုဖွံ့ဖြိုးရန် အာဟာရပြည့်ဝရေး အစီအစဉ်ကို လုပ်ဆောင်နေပါကြောင်း၊ မိခင်ဝမ်းထဲ၌ သန္ဓေတည်သည့်အချိန်မှစ၍ အသက်နှစ်နှစ်အရွယ်အထိ အချိန်ကာလသည် ကလေး၏ ဦးနှောက်နှင့် ရုပ်ပိုင်းဆိုင်ရာ ဖွံ့ဖြိုးရေးအတွက် အင်မတန်မှ အရေးကြီးသည့် ကာလဖြစ်ပါကြောင်း။
- ❐ မိသားစုတစ်စု ဖွံ့ဖြိုးတိုးတက်ရန် မိသားစုဝင်တိုင်း ပါဝင်ရမည်ဖြစ်သကဲ့သို့ နိုင်ငံတစ်နိုင်ငံဖွံ့ဖြိုးတိုးတက်ရန် ပြည်သူလူထု ပူးပေါင်းပါဝင်မှုသည် အရေးကြီးဆုံးဖြစ်ပါကြောင်း၊ ပြည်သူလူထုပါဝင်မှ လုပ်သမျှကိစ္စများ အောင်မြင်မည်ဟု ထပ်တလဲလဲပြောကြားခဲ့ပါကြောင်း၊ အားလုံးအတူတူ လုပ်ဆောင်ပါက မိမိတို့ လိုချင်သည့် ပန်းတိုင်သို့ ရောက်ရှိနိုင်မည်ဖြစ်ကြောင်း၊ မျှော်လင့်ချက်ကို အမြဲရှင်သန်အောင် ထားရန်လိုပြီး ယင်းမျှော်လင့်ချက်ပြည့်ဝရန် အလုပ်ဖြင့်သာ အကောင်အထည်ဖော်နိုင်မည် ဖြစ်ကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် မြန်မာ-ဂျပန်ချစ်ကြည်ရေး ချယ်ရီပင်စိုက်ပျိုးပွဲတော်တွင် ပြောကြားသည့်မိန့်ခွန်းကောက်နုတ်ချက် (၂၅-၁-၂၀၁၇)

- ❒ ချယ်ရီပန်းကဲ့သို့ အင်မတန်လှပပြီး မတူညီသော ယဉ်ကျေးမှုများကြားတွင် အဆက်အသွယ်လုပ်ပေးနိုင်သည့် ပန်းလေးတစ်ခုသည်လည်း ငြိမ်းချမ်းရေး၏ သင်္ကေတပင်ဖြစ်ပါကြောင်း၊ မတူကွဲပြားသည့် စိတ်ထားများကို ညီညွတ်စေသည့် အလှတရားအား မိမိတို့ကိုသင်ပေးသည်ဟု ယူဆပါကြောင်း၊ ထို့ကြောင့် ချယ်ရီပန်းပင်များကို စိုက်ပျိုးသည့်အခါ ပန်းပင်စိုက်သည်ဟု မစဉ်းစားဘဲ နိုင်ငံနှစ်ခုကြားတွင်ရှိသည့် ချစ်ကြည်မှု၊ ရင်းနှီးမှုကို ပိုမိုခိုင်မြဲစေရန် စိုက်ထူသည်၊ ပြုစုပျိုးထောင်သည်ဟု သဘောထားပြီး မိမိနိုင်ငံအတွက် အလှတရားများ တိုးပွားစေမည့် ငြိမ်းချမ်းရေးလမ်းစဉ်ကိုလည်း အထောက်အကူဖြစ်စေမည့် သင်္ကေတဟု စိတ်ထဲတွင်ထားရန် တိုက်တွန်းမှာကြားလိုကြောင်း။
- ❒ ချယ်ရီပန်းမှ သင်ခန်းစာယူရမည်ဆိုလျှင် မိမိတို့သည် လူ့ဘဝတွင်ရှိနေသရွေ့တော့ တင့်တယ်အောင်နေရမည်၊ မိမိပတ်ဝန်းကျင်ကို လှပအောင်ကြိုးစားရမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်လှပရေးဆိုသည်မှာ ရုပ်ပိုင်းဆိုင်ရာတင်မက စိတ်ဓာတ်ပိုင်းဆိုင်ရာ လှပတင့်တယ် ရန်လိုအပ်ပါကြောင်း၊ မိမိတို့လူ့ဘဝသည် မည်မျှတိုတောင်းသည်ဖြစ်စေ မိမိတို့ပတ်ဝန်းကျင်၊ မိမိတို့နေထိုင်သည့်နိုင်ငံ၊ မိမိတို့နေထိုင်သည့် ကမ္ဘာကြီးအတွက် အကျိုးဖြစ်အောင် အသုံးပြုရမည်ဟုဆိုလိုခြင်းသဘောဖြစ်ပါကြောင်း၊ ချယ်ရီပန်းများကို တန်ဖိုးထားခြင်းသည် အဆိုပါအတွေးအခေါ်များကို တန်ဖိုးထားခြင်းဖြစ်ကြောင်း၊ မည်သည့်ယဉ်ကျေးမှုတွင်မဆို ကောင်းမွန်သည့်အရာများ၊ မျှဝေပေးနိုင်သည့်အရာများ များစွာရှိပါကြောင်း။
- ❒ မိမိတို့နိုင်ငံသည် ယခုအခါ ငြိမ်းချမ်းရေးလမ်းပေါ်တွင် စတင်လျှောက်လှမ်းနေသည့်အချိန်ဖြစ်ပါကြောင်း၊ မိမိတို့ငြိမ်းချမ်းရေးလမ်းသည်လည်း လှပခြင်း၊ တင့်တယ်ခြင်း၊ မှန်ကန်ခြင်း၊ သဟဇာတဖြစ်ခြင်းဆိုသည့် တန်ဖိုးများကို အလေးထားပြီး ဆောက်တည်သွားရမည်ဖြစ်ကြောင်း၊ ထိုသို့ ဆောက်တည်သည့် လမ်းမှသာ မိမိတို့လိုချင်သည့်ပန်းတိုင်ကို ဖြောင့်ဖြောင့်ဖြူးဖြူးဖြင့် ခေါ်သွားနိုင်မည်ဖြစ်ကြောင်း။

❒ ကမ္ဘာကြီးတွင် လူသားများအားလုံးသည် ငြိမ်းချမ်းရေးကို လိုချင်၊ လိုလား၊ တမ်းတ တန်ဖိုးထားကြသည်ကို ယုံကြည်ပါကြောင်း၊ ငြိမ်းချမ်းရေး၏ အဓိပ္ပာယ်နှင့်ငြိမ်းချမ်းရေး၏ တန်ဖိုးကို နားမလည်ကြသူများသာ ငြိမ်းချမ်းရေးကို အလေးမထား၊ မလိုလားခြင်းဖြစ်ပါကြောင်း၊ မိမိတို့၏ နိုင်ငံသူ နိုင်ငံသားများ ငြိမ်းချမ်းရေး၏ အလှအပကို နားလည်စေရန် သင်္ကေတအမျိုးမျိုးဖြင့် ကြိုးစားသွားရမည်ဖြစ်ကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် နိုင်ငံခြားသံတမန်များအဖွဲ့၏ နှစ်သစ်ကူးဂုဏ်ပြု နေ့လယ်စာစားပွဲတွင် ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက် (၂၈-၁-၂၀၁၇)

- မိမိတို့နိုင်ငံအတွက် ကြီးမားသည့်စိန်ခေါ်မှုများရှိပါကြောင်း၊ မိမိတို့နိုင်ငံအနေဖြင့် တည်ငြိမ်မှု၊ အမျိုးသားပြန်လည်သင့်မြတ်ရေးနှင့် ငြိမ်းချမ်းရေးရရှိရန် လိုအပ်ပါကြောင်း၊ လွတ်လပ်သည့် နိုင်ငံတစ်ခုအနေဖြင့် ယခုအချိန်အထိ ငြိမ်းချမ်းရေးမရရှိသေးပါကြောင်း၊ ငြိမ်းချမ်းရေးရရှိရန်မှာ မိမိတို့နိုင်ငံအတွက် အရေးကြီးဆုံးရည်မှန်းချက်ပန်းတိုင်ဖြစ်ပါကြောင်း၊ ငြိမ်းချမ်းရေးမရရှိလျှင် တိုင်းပြည်ချမ်းသာကြွယ်ဝမှု မရရှိနိုင်ပါကြောင်း၊ မိတ်ဆွေနိုင်ငံများမှ ပေးအပ်သည့် အကူအညီများကို မိမိတို့ အသိအမှတ်ပြုပါကြောင်း။
- မိမိနိုင်ငံအခြေအနေကို နားလည်မှုပေးနိုင်ခြင်းမှာ မှန်ကန်သည့်ဖြေရှင်းမှု နည်းလမ်းရှာဖွေရန် မိမိတို့ကို ကူညီပေးခြင်းပင်ဖြစ်ပါကြောင်း၊ မတူညီသည့် အမြင်ရှုထောင့်အမျိုးမျိုးမှ အကောင်းဆုံးသော နည်းလမ်းများရှာဖွေရာတွင် အထောက်အကူပြုနိုင်သည်ဆိုတာ မိမိတို့အားလုံး နားလည်သဘောပေါက်ကြပါကြောင်း၊ မိမိတို့တတွေသည် ဆွေးနွေးပွဲများတွင် မတူညီသည့်အမြင်များ အပေါ် ငြင်းခုံကြသော်လည်း ဒါတွေသည် မိတ်ဆွေဖြစ်မှုကို ဘယ်လိုမှ မရပ်တန့်နိုင်ပါကြောင်း၊ ရွေးချယ်မှုကလည်း အရေးကြီးပါကြောင်း၊ ရွေးချယ်စရာများစွာကို ရင်ဆိုင်ကြုံတွေ့ရသည်ဆိုတာ မိမိတို့အားလုံး နားလည်သဘောပေါက်ကြပါကြောင်း၊ ယင်းမှာ မိမိတို့၏ တာဝန်ဖြစ်သည့်အပြင် ထိုရွေးချယ်စရာများကို တိုင်းပြည်အတွက် ဖန်တီးယူရမည်ဖြစ်ပါကြောင်း၊ တစ်ခါတစ်ရံ မှန်ကန်သည့်နည်းလမ်းက ဘာဆိုသည်ကို ပြောပြရန်ခက်ခဲပါကြောင်း။
- အတိတ်က ဆုံးဖြတ်ချက်တစ်ခုကို ဘယ်လိုပဲချခဲ့ပါစေ အမှန်ကန်ဆုံးနည်းလမ်းဖြင့် အကောင်းဆုံးဖြစ်အောင် ဆောင်ရွက်ရန်သာ လိုပါကြောင်း၊ ရည်မှန်းချက်မှားပြီး ချီတက်မည်ဆိုလျှင် ဆုံးရှုံးခြင်းကို ဦးတည်သွားမည်ဖြစ်ကြောင်း၊ နိုင်ငံရေးပါတီတစ်ခု သို့မဟုတ် သီးသန့်အဖွဲ့အစည်းတစ်ခု၏ အကျိုးအတွက် မဟုတ်ဘဲ ပြည်သူများအတွက် ရေရှည်အကျိုးဖြစ်ထွန်းမည့်အရာများကို မိမိတို့ သေချာအောင် ဆောင်ရွက်လျက်ရှိပါကြောင်း၊ တိုင်းပြည်အတွက် မိမိတို့ အကောင်းဆုံးကြိုးပမ်းလုပ်ဆောင်နေပါကြောင်း၊ မိမိတို့ နိုင်ငံတွင် ပြဿနာများစွာ ရှိနေပါကြောင်း၊ ခက်ခဲရှုပ်ထွေးသည့် အခြေအနေများကို အစိုးရက အကောင်းဆုံးကိုင်တွယ်ဖြေရှင်းနေပါကြောင်း။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် တိုင်းရင်းသားလူမျိုးများ၏ အခွင့်အရေးကာကွယ်စောင့်ရှောက်သည့် နည်းဥပဒေဆိုင်ရာ အလုပ်ရုံဆွေးနွေးပွဲတွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၃၁-၁-၂၀၁၇)

- အရေအတွက်များသော တိုင်းရင်းသားများက လူနည်းစုနှင့် လူမျိုးစုငယ်များ၏ ဘာသာစကားနှင့် ယဉ်ကျေးမှုထုံးတမ်းအစဉ်အလာများအား မပျောက်ကွယ်အောင် စောင့်ရှောက်ရမည့် ကြီးလေးသည့် တာဝန်ရှိပါကြောင်း၊ မိမိတို့အနေဖြင့် တိုင်းရင်းသားများ၏ အခွင့်အရေးများကို ချဉ်းကပ်ဆောင်ရွက်မည်ဆိုပါက လူမျိုးစုငယ်များ၏ လိုအပ်ချက်များကိုလည်း မမေ့ရန်လိုအပ်ပါကြောင်း၊ အရေအတွက်များ၍ အင်အားကြီးသော တိုင်းရင်းသားများက အင်အားငယ်သည့် တိုင်းရင်းသားများအား ညှာတာ၍ ၎င်းတို့၏ အခွင့်အရေးကိုလည်း ကာကွယ်ရမည့် တာဝန်ရှိသည်ကို နှလုံးသွင်းဆောင်ရွက်သွားကြရန် မိမိအနေဖြင့် မေတ္တာရပ်ခံလိုပါကြောင်း။
- ယခုကဲ့သို့ တိုင်းရင်းသားစုစည်း၍ တိုင်းရင်းသားများ၏အခွင့်အရေး ကာကွယ်စောင့်ရှောက်ရာ၌ တာဝန်ကိုလည်း သိရမည်ဖြစ်ပါကြောင်း၊ အခွင့်အရေးနှင့်တာဝန်ကိုဒွန်တွဲပြီး တူညီသောတန်ဖိုးထားမှ မိမိတို့၏လူ့အသိုက်အဝန်းသည် တိုးတက်နိုင်မည်ဖြစ်ပါကြောင်း၊ အခွင့်အရေးကိုသာ ဦးစားပေး၍ မရပါကြောင်း၊ အခွင့်အရေးတစ်ခုလျှင် တာဝန်တစ်ခုရှိပါကြောင်း၊ အခွင့်အရေးအတွက် ပြောဆိုမှုများရှိသော်လည်း အဆိုပါအခွင့်အရေးကို မည်သို့ဖော်ဆောင်၍ မည်သူက တာဝန်ယူမည်ကို မစဉ်းစားကြသည်ကိုလည်း တွေ့ရပါကြောင်း၊ ထို့ကြောင့် မည်သည့်ပုံစံနှင့် အကောင်အထည်ဖော်၍ မည်သူက တာဝန်ယူမည်ကိုလည်း ထည့်သွင်းစဉ်းစားရန် လိုအပ်ပါကြောင်း။
- တရားဥပဒေစိုးမိုးမှုရှိရန် အင်မတန်အရေးကြီးပါကြောင်း၊ မိမိတို့တွင် ခေါင်းမလုံ၍ မိုးယိုဆိုသည့် ဆိုရိုးစကားအတိုင်း နိုင်ငံ၏ ခေါင်သည် တရားဥပဒေသာ ဖြစ်ပါကြောင်း၊ တရားဥပဒေများဖြစ်ရန်လည်း လိုပါကြောင်း၊ တရားမျှတသည့် ဥပဒေများရှိမှသာ မိမိတို့နိုင်ငံကို အကျိုးပြုနိုင်မည်ဖြစ်ပါကြောင်း၊ တရားဥပဒေစိုးမိုးရေးသည် အမိုးဖြစ်သကဲ့သို့ အခြေခံအုတ်မြစ်လည်းဖြစ်ပါ

ကြောင်း။ မှန်ကန်သည့်ဥပဒေများအပေါ်တွင် ခိုင်ခိုင်မာမာရပ်တည်ရမည် ဖြစ်ပါကြောင်း၊ ခိုင်ခိုင်မာမာရပ်တည်မှုလည်း ဥပဒေများက မိမိတို့ကို အပေါ် မှနေ၍ ကာကွယ်စောင့်ရှောက်နိုင်မည်ဖြစ်ပါကြောင်း၊ သို့မှသာ ဥပဒေများ က ပြည်ထောင်စုဆိုသည့် အဆောက်အအုံကို ခိုင်မာလုံခြုံ၍ မိမိတို့အားလုံး ကို အကျိုးပြုနိုင်မည်ဖြစ်ပါကြောင်း၊ ထို့အတူ နည်းဥပဒေများကလည်း အဆောက်အအုံ၏ နံရံများအဖြစ် ပံ့ပိုးကူညီကာကွယ်ပေးနိုင်မည် ဖြစ်ပါ ကြောင်း။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ကချင်ပြည်နယ်အတွင်းရှိ နယ်မြေလုံခြုံရေးအခြေအနေအရ ကယ်ဆယ်ရေးစခန်းများတွင် ခေတ္တပြောင်းရွှေ့နေထိုင်သူများအား ထောက်ပံ့ငွေပေးအပ်လှူဒါန်းပွဲတွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၂-၂-၂၀၁၇)

- နယ်မြေတည်ငြိမ်သွားပြီ၊ လုံခြုံသွားပြီဆိုလျှင် မိမိတို့ပြည်သူများက နောင်ယခုလိုစခန်းများတွင် နေရန်မလိုတော့ဘူးဟု မျှော်လင့်ပါကြောင်း၊ ထို့အတွက်လည်း ငြိမ်းချမ်းရေးဖြစ်စဉ်ကို ဦးတည်ဆောင်ရွက်နေခြင်းဖြစ်ပါကြောင်း၊ မိမိတို့နိုင်ငံ ငြိမ်းချမ်းမှ ယခုလိုစခန်းများလည်း ပပျောက်သွားမည်ဖြစ်ပါကြောင်း၊ မပျောက်မချင်း ယခုလိုစခန်းများတွင် နေနေရသည့် ပြည်သူပြည်သားများ၏ အကျိုးကို ဆောင်ရွက်သွားရမည်ဖြစ်ပါကြောင်း၊ လှူဒါန်းငွေများကို အသုံးပြုသည့်အခါ အမျိုးသားပြန်လည်သင့်မြတ်ရေးနှင့် ငြိမ်းချမ်းရေးစိတ်ဓာတ်များ ပွားများအောင်လည်း လုပ်ပေးစေချင်ပါကြောင်း။
- ကယ်ဆယ်ရေးစခန်းများတွင် တိုင်းရင်းသားလူမျိုးစုအမျိုးမျိုး ရှိနေပါကြောင်း၊ မိမိတို့အားလုံး ပြည်ထောင်စုသားများဖြစ်သည့်အတွက် ယခုလိုဒုက္ခခံရလျှင်လည်း အတူတူခံမည်၊ အကျိုးအမြတ်ရှိလျှင်လည်း မျှဝေပြီး ခံစားမည်ဆိုသည့် စိတ်ဓာတ်များ ဖြစ်စေချင်ပါကြောင်း၊ လူများစုဖြစ်သည့်ဗမာများကသာ အခွင့်အရေးရနေသည်ဆိုသည့်စိတ်ဓာတ် မိမိတို့တိုင်းရင်းသားများ နှလုံးသားထဲတွင် ရှိသွားပြီဆိုလျှင် ပြည်ထောင်စုစိတ်ဓာတ်ကို ဖွံ့ဖြိုးတိုးတက်အောင်လုပ်ရန် လွယ်ကူမည်မဟုတ်ပါကြောင်း၊ မိမိတို့အားလုံးမျှဝေပြီး ဤပြည်ထောင်စုကြီးတွင် အေးအတူပူအမျှ နေထိုင်လိုပါကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် အကြိမ်(၇၀)မြောက် မွန်အမျိုးသားနေ့ အကြိုညစာစားပွဲတွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၅-၂-၂၀၁၇)

❒ သမိုင်းဆိုသည်မှာ အင်မတန်မှ အရေးကြီးပါကြောင်း၊ ယခုခေတ်ကြီးတွင် နည်းပညာအရ ကမ္ဘာ့နိုင်ငံအသီးသီးအကြား ဆက်သွယ်မှုအလွန်လွယ်ကူပါကြောင်း၊ အလွန်များပြားပါကြောင်း၊ ယခုလိုလွယ်ကူမှုများပြားလာသည်နှင့်အမျှ မိမိတို့သည် တခြားနိုင်ငံ၊ တခြားလူမျိုး၊ တခြားယဉ်ကျေးမှုအကြောင်းကို အများကြီးသိလာရပါကြောင်း။

❒ မွန်ယဉ်ကျေးမှုအရ ဟင်္သာဖိုက ဟင်္သာမကို ကျောပေါ်မှာ တင်ထားသည်ဆိုသည်မှာ ဖေးမထားခြင်းဆိုသည့် အဓိပ္ပာယ်ရောက်သည်ဟု မိမိမှတ်ယူပါကြောင်း၊ ယင်းမှာ မွန်ယဉ်ကျေးမှု၏ အခြေခံသဘောတရားတစ်ခု ဖြစ်သည်ဆိုလျှင် မွန်တိုင်းရင်းသားများအတွက် အင်မတန်မှ ဂုဏ်ယူစရာကိစ္စဖြစ်ပါကြောင်း၊ မိမိတို့နိုင်ငံသည် ပြည်ထောင်စုကြီးဖြစ်သည်ဆိုသည်ကို ဘယ်တိုင်းရင်းသားနှင့် တွေ့တွေ့ ကတိပေးရန် မိမိအနေဖြင့် ဘယ်တော့မှ မမေ့ပါကြောင်း၊ မိမိတို့နိုင်ငံသည် ပြည်ထောင်စုနိုင်ငံဖြစ်ပါကြောင်း၊ သို့ဖြစ်၍ မိမိတို့အားလုံး စည်းစည်းလုံးလုံးနေရမည်၊ တစ်ဦးနှင့်တစ်ဦး ယဉ်ကျေးမှုကို လေးစားရမည်၊ တန်ဖိုးထားရမည်၊ ကိုယ့်ယဉ်ကျေးမှုကို ကိုယ်ထိန်းသိမ်း၊ ကိုယ်ဂုဏ်ယူသလို တခြားပုဂ္ဂိုလ်များ၏ ယဉ်ကျေးမှု၊ တခြားသူများ၏ လုပ်ထုံးလုပ်နည်းများကို အထင်သေးရန် မရှိပါကြောင်း။

❒ မိမိတို့နိုင်ငံ၊ မိမိတို့ပြည်ထောင်စု၏ ဂုဏ်သိက္ခာဆိုသည်မှာ မိမိတို့နိုင်ငံသူနိုင်ငံသားများအားလုံး၏ ဂုဏ်သိက္ခာကို လေးစားရသည့်စနစ်ဖြစ်ပါကြောင်း၊ ထို့ကြောင့် ဒီမိုကရေစီနှင့် လူ့အခွင့်အရေးသည် ခွဲခြား၍ မရခြင်းဖြစ်ပါကြောင်း၊ လူသားများ၏ ဂုဏ်သိက္ခာကို တန်ဖိုးမထားလျှင် စစ်မှန်သည့် ဒီမိုကရေစီစနစ်ဟု ပြော၍ မရပါကြောင်း၊ ထို့ကြောင့် မိမိတို့ယခုလို တိုင်းရင်းသားများနှင့် စုစည်းပြီး တိုင်းရင်းသားများ၏ ရိုးရာယဉ်ကျေးမှုအရ၊ သမိုင်းအရပွဲများကို ဆင်နွှဲရသည်ဆိုလျှင် မိမိတို့၏ ပြည်ထောင်စုကြီးသည် မတူကွဲပြားမှုမှ ထူထောင်ထားသည့် အင်မတန်မှ ပျော်ရွှင်ဖွယ်ရာ၊ တန်ဖိုးထားဖွယ်ရာ အစုအစည်းကြီးပါလားဟု မိမိတို့ နှလုံးသွင်းမိပါကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ပြည်ထောင်စုငြိမ်းချမ်းရေးဆွေးနွေးမှု ပူးတွဲကော်မတီ (UPDJC)အစည်းအဝေးတွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၆-၂-၂၀၁၇)

- မတူကွဲပြားသည့်သဘောထားဆိုသည်မှာ လက်နက်ကိုင်အဖွဲ့အစည်းများနှင့် အစိုးရကြားမှာသာ ပြဿနာရှိခြင်းမဟုတ်ပါကြောင်း၊ မတူကွဲပြားသည့် သဘောထားများဆိုသည်မှာ မိမိတို့နိုင်ငံတစ်ဝန်းတွင် ပုံစံအမျိုးမျိုးနှင့်ရှိပါကြောင်း၊ နိုင်ငံရေးအရ မတူကွဲပြားသည့် သဘောထားများ၊ ဘာသာရေးအရ မတူကွဲပြားသည့်သဘောထားများ၊ လူမှုရေးအရ မတူကွဲပြားသည့် သဘောထားများဆိုသည့် မတူကွဲပြားသည့်သဘောထား အမျိုးမျိုးရှိပါကြောင်း။
- အမှန်တကယ် မိမိတို့ ဒီမိုကရေစီကိုလိုလားလျှင် မတူကွဲပြားသည့်သဘောထားများကို ငြိမ်းချမ်းသည့်နည်းဖြင့် ဖြေရှင်းနိုင်သည်ကို ယုံကြည်ရန်လိုပါကြောင်း၊ မိမိတို့အနေဖြင့် ယခုလို ပြောရခြင်းမှာ စကားသက်သက်အရ ပြောခြင်းမဟုတ်ပါကြောင်း၊ အလုပ်နှင့် သက်သေထူခဲ့ပြီးပြီဖြစ်ပါကြောင်း၊ နှစ် ၃၀ နီးပါး ဒီမိုကရေစီအတွက် လှုပ်ရှားခဲ့သည့်အချိန်တွင် မိမိတို့ဆွေးနွေးတိုင်ပင်ပြီး အချင်းချင်းအကြား **မတူကွဲပြားသည့် ပြဿနာများကို သဘောထားများမှ ထွက်ပေါ်လာသည့် ပြဿနာများကို ဖြေရှင်းနိုင်မည်ဆိုသည့်** ယုံကြည်ချက်ဖြင့် မိမိတို့ရပ်တည်ခဲ့ခြင်းဖြစ်ပါကြောင်း၊ ယင်းယုံကြည်ချက်မှ လုံးဝမသွေဖည်ခဲ့ပါကြောင်း၊ တစိုက်မတ်မတ်ဆွေးနွေးပွဲကိုသာ တောင်းဆိုခဲ့ပါကြောင်း။
- မိမိတို့ ဆွေးနွေးသည့်အခါ အားလုံးသည် အပြုသဘောဆောင်သည့် စိတ်ဓာတ်ဖြင့် ဆွေးနွေးပေးကြပါဟု တိုက်တွန်းလိုပါကြောင်း၊ အခု အစည်းအဝေးစသည့်အချိန်နှင့် အစည်းအဝေးပြီးသွားသည့်အချိန် ကြားထဲတွင် မိမိတို့သည် ငြိမ်းချမ်းရေးအတွက် တိုးတက်မှုဖြစ်စေမည့် ခြေလှမ်းတချို့ကို တိတိကျကျ ပြတ်ပြတ်သားသားလှမ်းရန် ဆုံးဖြတ်ချက်များချပြီးပြီဆိုသည့် အဖြစ်မျိုးကို ဖြစ်စေချင်ပါကြောင်း၊ အားလုံးကိုလည်း ဒီအတိုင်းပဲ၊ ဒီလိုစိတ်ဓာတ်ဖြင့် ဒီအစည်းအဝေးကိုဝိုင်းပြီး ပံ့ပိုးပေးကြမည်ဟု မျှော်လင့်ပါကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် တိုင်းရင်းသားများ၏ ပင်လုံငြိမ်းချမ်းရေးစကားဝိုင်း ဆွေးနွေးချက်မှ ကောက်နုတ်ချက် (၁၂-၂-၂၀၁၇)

- ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီ ၁ ရက်တွင် ငြိမ်းချမ်းရေးစကားဝိုင်း (Peace Talk) ကို လူငယ်များနှင့် ပြုလုပ်ခဲ့ကြောင်း၊ ယခုဒုတိယအကြိမ်တွင် တိုင်းရင်းသားများနှင့် ဆွေးနွေးခြင်းဖြစ်ပါကြောင်း၊ ငြိမ်းချမ်းရေးဖြစ်စဉ်တွင် အရွယ်မရွေး အားလုံးပါဝင်ရန် လိုပါကြောင်း၊ လူငယ်များနှင့် စတင်ဆွေးနွေးခဲ့ရခြင်း အကြောင်းအရင်းမှာ လူငယ်များသည် ငြိမ်းချမ်းရေးရခြင်း၊ မရခြင်း၏ အကျိုးဆက်ကို အများဆုံးခံစားရမည့်သူများဖြစ်သဖြင့် ၎င်းတို့နှင့် ဆွေးနွေးခြင်းဖြစ်ပါကြောင်း၊ တခြားလူအားလုံးနှင့်လည်း သက်ဆိုင်ပါကြောင်း၊ ပြည်ထောင်စုသားအားလုံးနှင့် သက်ဆိုင်တာဖြစ်သဖြင့် ယခုအကြိမ်တွင် တိုင်းရင်းသူ၊ တိုင်းရင်းသားများနှင့် ဆွေးနွေးမည်ဖြစ်ပါကြောင်း။
- ငြိမ်းချမ်းရေးရအောင် လုပ်ဖို့ဆိုလျှင် ဘာဖြစ်လို့ငြိမ်းချမ်းရေးမရလဲဆိုတာကို ပထမဆုံး ဆန်းစစ်ရမည်ဖြစ်ပါကြောင်း၊ လွတ်လပ်ရေးရသည်မှာ နှစ်(၇၀)ရှိသွားပြီဖြစ်ပါကြောင်း၊ မတူကွဲပြားမှုဟု အကြောင်းပြချက်ပေးလျှင် မတူကွဲပြားမှုတစ်ခုတည်းသည် လုံလောက်သော အကြောင်းပြချက်လား။ တစ်ယောက်နှင့်တစ်ယောက်မတူသည်နှင့် ရန်ဖြစ်ရမှာလား။ မိမိတို့ မိတ်ဆွေထဲတွင် ကိုယ်နှင့် မတူသည့်သူမပါဘူးလား။ ကိုယ်နှင့်လူမျိုးချင်း မတူသည့်သူ၊ ကိုယ်နှင့်ပြောသည့်ဘာသာစကားချင်းမတူသူ၊ ကိုးကွယ်သည့်ဘာသာချင်းမတူသူ၊ စီးပွားရေးအရ မိသားစုအသိုက်အဝန်းမတူသူများနှင့် မိမိတို့တွင် မိတ် ဆွေတစ်ယောက်မှမရှိကြဘူးလား။ ရှိကြပါကြောင်း၊ ထို့ကြောင့် မတူကွဲပြားမှုသည် ကွဲပြားရေး၏ အကြောင်းဆိုတာကို လက်မခံနိုင်ပါကြောင်း။
- စိန်ခေါ်မှု၊ အခွင့်အရေးကိုယူပြီး ကျော်လွှားရမည်ဖြစ်ပါကြောင်း၊ မိမိတို့နိုင်ငံအတွက် အကောင်းဆုံး အထိရောက်ဆုံးဖြစ်အောင် လုပ်ရမည်ဖြစ်ပါကြောင်း၊ သို့သော် အပေါင်းလက္ခဏာဆောင်သည့် စိတ်ဓာတ်ဖြင့် လုပ်ချင်ပါကြောင်း၊ ဥပမာ ကွဲပြားရခြင်းအကြောင်းတစ်ခုမှာ မခံချင်စိတ်၊ ဒေါသတို့ကို ရှေ့တန်းတင်ခြင်းကြောင့် ဖြစ်ပါကြောင်း၊ မိမိတို့သည် မေတ္တာတရားကို ရှေ့တန်းတင်မည်၊ မျှဝေကူညီချင်သည့်စိတ်ကို ရှေ့တန်းတင်မည်ဆိုလျှင် ယခုလိုကွဲပြားစရာအကြောင်း ရှိမည်မထင်ပါကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် နှစ်(၇၀)မြောက် ပြည်ထောင်စုနေ့ အခမ်းအနားတွင် ပြောကြားသည့် မိန့်ခွန်းမှ ကောက်နုတ်ချက် (၁၂-၂-၂၀၁၇)

- ပြည်သူလူထုဟာ မိမိတို့အတွက် ဘယ်သူတွေက အစစ်အမှန် စွန့်စားတယ်။ စွန့်လွှတ်တယ်ဆိုတာကို ကောင်းကောင်းသိပါတယ်။ ဆိုရိုးစကားရှိပါတယ်။ အများကို တစ်ခဏလှည့်ဖျားလို့ရပါလိမ့်မယ်။ အားလုံးကို ထာဝရတော့ ဘယ်တော့မှ လှည့်ဖြားလို့မရပါဘူး။
- သတ္တိရှိရှိနဲ့ပြည်သူ့အကျိုးအတွက် စွန့်စားပါ၊ စွန့်လွှတ်ပါ၊ စွန့်စားခြင်း၊ စွန့်လွှတ်ခြင်းဆိုတာ အမြင့်မားဆုံးသတ္တိဖြစ်ပါတယ်။ ဖေဖေကလည်း ပြောခဲ့ဖူးပါတယ်။ လုပ်ရဲတယ်ဆိုတာ တကယ့်သတ္တိမဟုတ်ဘူး။ ခံရတယ်ဆိုတာ တကယ့်သတ္တိတဲ့။ ခံရတယ်ဆိုတာ အဓိပ္ပာယ်က ဘာလဲဆိုတော့ ကိုယ်လုပ်သင့်လုပ်ထိုက်တဲ့ကိစ္စတွေအတွက် လုပ်ခြင်းအားဖြင့် ဖြစ်လာမယ့် ရလဒ်တွေကို ရင်ဆိုင်ရဲတာ၊ ခံရဲတာကို ဆိုလိုတာဖြစ်ပါတယ်။ ဒီတော့ ကျွန်မတို့ ပင်လုံရယ်လို့ ဖြစ်လာရတာဟာ တိုင်းရင်းသားခေါင်းဆောင်ကြီးများက လွတ်လပ်ရေးရဖို့အတွက် တိုင်းရင်းသားအားလုံး စုပေါင်းညီညာလုပ်မှသာလျှင် မြန်မြန်ဆန်ဆန် ချောချောမွေ့မွေ့ ရရှိနိုင်တယ်ဆိုတာ ယုံကြည်လို့လုပ်ခဲ့ကြတာဖြစ်ပါတယ်။
- ကမ္ဘာကျော်နိုင်ငံရေးသိပ္ပံဆရာကြီးတစ်ဦးက ပြောသွားပါတယ်။ နိုင်ငံရေးမှာ အောင်မြင်မှုရှိဖို့ အချက်(၃)ချက်လိုအပ်ပါတယ်တဲ့။ ပထမဆုံးအချက်ကတော့ ကိုယ်ယုံကြည်တဲ့အရေးအပေါ်မှာ တမြတ်တနိုးနဲ့ သစ္စာတည်ခြင်းပါပဲတဲ့။ ဒုတိယအချက်ကတော့ တာဝန်သိမှုစိတ်ဓာတ်ပါပဲတဲ့။ တတိယကတော့ မှန်ကန်တဲ့၊ သုံးသပ်ဆင်ခြင်နိုင်တဲ့ စိတ်ဓာတ်ရှိရမယ်တဲ့။ အဲဒီတော့ ဘယ်လိုအဓိပ္ပာယ်ဖော်လဲဆိုတော့ ကျွန်မတို့ရဲ့လုပ်ရပ်တွေရဲ့ အကျိုးဆက်တွေကို မှန်မှန်ကန်ကန် သုံးသပ်နိုင်ရမယ်။
- အမျိုးသားရင်ကြားစေ့ရေးဆိုတာ ပြည်ထောင်စုငြိမ်းချမ်းရေးအတွက် အခြေခံအုတ်မြစ်ဖြစ်ပါတယ်။ အမျိုးသားရင်ကြားစေ့ရေးဆိုတာ မတူကွဲလွဲတဲ့ သဘောထားတွေကို ညှိနှိုင်းနိုင်တဲ့ အရည်အချင်းပေါ်မှာ မူတည်ပါတယ်။ မတူကွဲပြား

တဲ့ပုဂ္ဂိုလ်များဟာ မှားတယ်လို့ ဘယ်တော့မှ သတ်မှတ်လို့မရပါဘူး။ အမှားအမှန်ဆိုတာဟာ လူတိုင်းမှာ အတိုင်းအတာတစ်ခု ရှိပါတယ်။ တခြားသူတွေကို လက်ညှိုးထိုးပြီးတော့ တခြားပုဂ္ဂိုလ်များရဲ့ ပယောဂကြောင့် ပြဿနာဖြစ်တာဆိုပြီး ပြောလို့မရပါဘူး။

- ကံ ကံ၏အကျိုးဆိုတဲ့ အဓိပ္ပာယ်ဟာ ကိုယ်လုပ်သလို ဖြစ်မယ်ဆိုတဲ့ အဓိပ္ပာယ်ပါ။ ကံဆိုတာ ပြုလုပ်ခြင်းပါပဲ။ အတိတ်ကကံကို ဆိုလိုချင်တာ မဟုတ်ပါဘူး။ အတိတ်ကကံက ဘာမှလုပ်လို့မရပါဘူး။ ကျွန်မတို့ပြုပြင်ပြောင်းလဲတဲ့ကံဟာ ပစ္စုပ္ပန်ပဲဖြစ်ပါတယ်။ ကံကံ၏အကျိုး၊ ကိုယ်လုပ်သလို ကိုယ်ဖြစ်မယ်ဆိုတာကို ယုံကြည်ချက်နဲ့ ငြိမ်းချမ်းရေးဖြစ်စဉ်မှာ ပါဝင်လိုက်ကြပါ။ ဒီယုံကြည်ချက်ကြောင့်ကို အောင်မြင်စေရမယ်လို့ ယုံကြည်ပါတယ်။ တိုင်းရင်းသားညီအစ်ကိုမောင်နှမများကို ကူညီဖို့၊ ဖေးမဖို့၊ မြှင့်တင်ပေးဖို့ ဆန္ဒသာရှိပါတယ်။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ချင်းအမျိုးသားနေ့ အခမ်းအနားတွင် ပြောကြားသော နှုတ်ခွန်းဆက်အမှာစကားမှ ကောက်နုတ်ချက် (၂၀-၂-၂၀၁၇)

- ယနေ့တွင် ချင်းပြည်နယ်၏ လှပမှု၊ ချင်းအမျိုးသားများ၏ နွေးထွေးမှု၊ သာယာဖွယ်များကို ပြောကြားကြသည်မှာ အများကြီးဖြစ်ပါကြောင်း၊ မိမိအနေဖြင့် ချင်းတိုင်းရင်းသားများနှင့် ပတ်သက်သည့်အကြောင်းအရာနှစ်ခုကို အလေးထားပြောကြားလိုပါကြောင်း၊ ချင်းအမျိုးသားများသည် ပညာရေးကိုအဓိကထားသည့် ကိစ္စပါကြောင်း၊ ဒုတိယတစ်ခုမှာ ပြည်ထောင်စုစိတ်ဓာတ်ဖြစ်ပါကြောင်း၊ ချင်းအမျိုးသားနေ့ကို တက်ရောက်သည့်အခါတိုင်း ထူးချွန်သည့် ချင်းလူငယ်များကို ဂုဏ်ပြုဆုချီးမြှင့်ရာတွင် ဂုဏ်ယူစွာပါဝင်ခွင့်ရပါကြောင်း။
- မိမိတို့၏ ပြည်ထောင်စုတိုးတက်ရန် မိမိတို့က သဘောထားကြီးရန်လိုပါကြောင်း၊ သဘောထားကြီးစေသည့် အင်မတန်အခြေခံကျသည့်အရာမှာ ပညာတတ်ခြင်းဖြစ်ပါကြောင်း၊ ပညာဆိုသည်မှာ မိမိအနေဖြင့် ကျဉ်းကျဉ်းမြောင်းမြောင်းဖြင့် ကျောင်းပညာကို ဆိုလိုရင်းမဟုတ်ပါကြောင်း၊ ကိုယ်နေသည့် လောကကြီးအကြောင်းကို သိချင်သည့်စိတ်ဓာတ်ပေါ်တွင် အခြေခံသည့် ဆင်ခြင်တုံတရားရှိသည့် ပညာကို ဆိုလိုပါကြောင်း၊ ဒီလိုပညာတတ်များ မိမိတို့နိုင်ငံ၌များမှ မိမိတို့နိုင်ငံတွင် တကယ့်ကို စစ်မှန်သည့်၊ ခိုင်မြဲသည့် ပြည်ထောင်စုကြီးဖြစ်လာမည်ဖြစ်ပါကြောင်း၊ ချင်းတိုင်းရင်းသားများအနေဖြင့် ဗမာရယ်၊ ချင်းရယ် မခွဲခြားဘဲ စောစောပိုင်းကတည်းက လွတ်လပ်ရေးအတွက် ရုန်းကန်ခဲ့ပါကြောင်း။
- ၁၉၄၇ ခုနှစ်၊ ပထမပင်လုံညီလာခံတွင် ချင်းတိုင်းရင်းသားများ ပါဝင်ခဲ့ပါကြောင်း၊ ယခုအခါ ဒုတိယပင်လုံဦးတည်နေသည့်အချိန်တွင် ချင်းတိုင်းရင်းသားများသည် တက်တက်ကြွကြွဖြင့် ငြိမ်းချမ်းရေးရရန်အတွက် ဝိုင်းဝန်းကူညီခဲ့သလို ကူညီဆဲလည်းဖြစ်ပါကြောင်း၊ မကြာခင်မှာလည်း ချင်းပြည်နယ်တွင် အမျိုးသားအဆင့် နိုင်ငံရေးဆွေးနွေးပွဲများကို ပြုလုပ်တော့မည်ဖြစ်သည့်အတွက် အင်မတန်မှ ဝမ်းသာပါကြောင်း၊ မိမိတို့တိုင်းရင်းသားများ တကယ့်ကို ပြည်ထောင်စုစိတ်ဓာတ်မွေးမြူခြင်းဖြင့်သာ မိမိတို့နိုင်ငံ၏ အနာဂတ်အတွက် အာမခံ

ချက်ပေးနိုင်မည်ဖြစ်ပါကြောင်း၊ ဥပဒေများပြဋ္ဌာန်းခြင်းဖြင့်လည်း အာမခံချက်ပေးနိုင်မည်မဟုတ်သလို ဘယ်နိုင်ငံရေးစနစ်နှင့်မှုလည်း အာမခံချက်ပေးနိုင်မည်မဟုတ်ပါကြောင်း၊ အခြေခံအားဖြင့် မိမိတို့ တိုင်းရင်းသားညီအစ်ကိုမောင်နှမများ၏ စစ်မှန်သည့် ပြည်ထောင်စုစိတ်ဓာတ်ရှိခြင်းဖြင့်သာ မိမိတို့ပြည်ထောင်စုအတွက် အာမခံချက်ပေးနိုင်မည်ဖြစ်ပါကြောင်း။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ငြိမ်းချမ်းရေးလုပ်ငန်းစဉ်များ ရန်ပုံငွေဆိုင်ရာ ပေါင်းစပ်ညှိနှိုင်းရေးအဖွဲ့ အစည်းအဝေးတွင် တိုက်တွန်းပြောကြားချက်မှကောက်နုတ်ချက် (၂၃-၂-၂၀၁၇)

- ❒ ပြီးခဲ့သည့် JCB အစည်းအဝေးတွင် ငြိမ်းချမ်းရေးလုပ်ငန်းစဉ် ရန်ပုံငွေခွဲဝေသုံးစွဲရန်အတွက် ပစ်ခတ်တိုက်ခိုက်မှုရပ်စဲရေးကဏ္ဍ၊ စေ့စပ်ညှိနှိုင်းရေးနှင့် တွေ့ဆုံဆွေးနွေးရေးကဏ္ဍ၊ ငြိမ်းချမ်းရေးအထောက်အကူပြု ဖွံ့ဖြိုးရေးကဏ္ဍ၊ အမျိုးသားပြန်လည်သင့်မြတ်ရေးနှင့် ငြိမ်းချမ်းရေးဗဟိုဌာန၏ ငြိမ်းချမ်းရေးဖြစ်စဉ်နှင့် ပတ်သက်သည့် လုပ်ငန်းစဉ်များကဏ္ဍတို့ကို ဦးစားပေးကဏ္ဍကြီး (၄)ရပ်အဖြစ် သဘောတူသတ်မှတ်နိုင်ခဲ့ပါကြောင်း။
- ❒ လုပ်ငန်းအဖွဲ့အစည်းအဝေးများခေါ်ယူကျင်းပခဲ့ပြီး JCB မှ သတ်မှတ်သည့် အခြေခံနှုန်းထား (JCB Rate)များကို မူအဖြစ် သတ်မှတ်ပေးနိုင်ခဲ့ပါကြောင်း၊ တစ်ဖွဲ့လျှင် နှုန်းထားတစ်မျိုးစီ အမျိုးမျိုးမဖြစ်စေရန် အခြေခံအဖြစ် သတ်မှတ်ထားခဲ့ခြင်းဖြစ်ပါကြောင်း၊ ၎င်း JCB Rate နှုန်းထားများအတိုင်း အစုအဖွဲ့များက သုံးစွဲကြရန်ဖြစ်ပါကြောင်း။
- ❒ EAOs ဘက်မှ ဦးစားပေးကဏ္ဍကြီး ၄ ရပ်နှင့်အညီ အဆိုပြုတင်ပြကြရန် ဖြစ်ပါကြောင်း၊ တိုင်းရင်းသားလူမျိုးများ၏ ဘာသာစကား၊ စာပေနှင့်ယဉ်ကျေးမှု ထိန်းသိမ်းမြှင့်တင်ရေးဆိုင်ရာကိစ္စရပ်များနှင့်ပတ်သက်၍ တိုင်းရင်းသားလူမျိုးများ၏ အခွင့်အရေး ကာကွယ်စောင့်ရှောက်သည့် ဥပဒေအရ တိုင်းရင်းသားလူမျိုးများရေးရာဝန်ကြီးဌာနကို ဖွဲ့စည်းထားပြီး ဥပဒေပါအတိုင်း အခွင့်အရေးများ မြှင့်တင်ထိန်းသိမ်းနိုင်ရန် ကြိုးပမ်းဆောင်ရွက်လျက်ရှိပါကြောင်း။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် အမျိုးသားပညာရေး မဟာဗျူဟာ စီမံကိန်း(၂၀၁၆-၂၀၂၁) စတင်ဆောင်ရွက်ခြင်း အခမ်းအနားတွင် ပြောကြားချက်မှကောက်နုတ်ချက် (၂၃-၂-၂၀၁၇)

- ပညာရရှိရေးတွင် အရေးကြီးဆုံးမှာ သင်ယူချင်စိတ်ပင်ဖြစ်ပါကြောင်း၊ ဆရာ၊ ဆရာမများ၊ ပညာရေးမူဝါဒများကို ချမှတ်ပြီး အကောင်အထည်ဖော် ဦးဆောင်နေသည့် ပုဂ္ဂိုလ်များအားလုံးက သင်ယူချင်စိတ်များ ပေါ်လာအောင် ဆောင်ရွက်ပေးရမည်ဖြစ်ပါကြောင်း၊ လူငယ်များအကြား သင်ယူချင်စိတ်ထွန်းကားအောင် လုပ်ဆောင်ရန် သင်ပေးသူများကိုယ်တိုင် သင်ယူချင်စိတ်ရှိရန် လိုပါကြောင်း၊ တစ်သက်တာဆက်ပြီး သင်ယူနေရမည်ဖြစ်ပါကြောင်း၊ မိမိတို့ တစ်သက်သာ သင်ယူနိုင်သည့် စိတ်ဓာတ်၊ သင်ယူချင်သည့်စိတ်ဓာတ်ကို သင်ပေးသူများတွင် ရှိရမည်ဖြစ်ပါကြောင်း၊ သို့မှသာ သင်ကြားခံရသူများကိုယ်တိုင်လည်း အလားတူစိတ်ဓာတ်များ ပွားများလာမည်ဖြစ်ပါကြောင်း၊ ထို့ကြောင့် မည်သို့သော စီမံကိန်းများရေးဆွဲ၊ ရေးဆွဲ အောင်မြင်ရန်အတွက် ပါဝင်သူအားလုံးက အောင်မြင်မှုကို ဦးတည်နိုင်ရန် လိုအပ်ပါကြောင်း။
- ပညာရေးစီမံကိန်းများကို ဦးဆောင်ပြီး အကောင်အထည်ဖော်သူအားလုံးသည် မိမိတို့ကိုယ်တိုင် သင်ယူစရာ အများကြီးရှိသေးသည်ဆိုသည့် စိတ်ဓာတ်မွေးမြူရန် အလွန်အရေးကြီးပါကြောင်း၊ အားလုံးတတ်ပြီ၊ အားလုံးသိပြီဟု ထင်သည့်ပုဂ္ဂိုလ်များသည် မည်သို့မျှဆက်ပြီး သင်ယူ၍ ရမည်မဟုတ်ပါကြောင်း၊ ကိုယ်တိုင်တတ်ချင်၊ သင်ချင်သည့် ဆရာ ဆရာမများ၊ ဤစီမံကိန်းများကို ဦးဆောင်သူပုဂ္ဂိုလ်များကသာလျှင် ပညာရှာသည့် နိုင်ငံသူ နိုင်ငံသားများ သင်ယူချင်အောင် လမ်းပြနိုင်မည် ဖြစ်ပါကြောင်း၊ သင်ယူချင်သည့် စိတ်ဓာတ်က ဘယ်ကစသလဲဆိုလျှင် မိမိမှာ သိစရာအများကြီးရှိသေးသည်ဆိုသည့် နှိမ့်ချခြင်းမှ စတင်ပါကြောင်း။
- သိစရာရှိသည့်ကိစ္စများကို သိအောင်လုပ်နိုင်သော အရည်အချင်းရှိသည်ဆိုသည့် ယုံကြည်မှုလည်းရှိအောင် လုပ်ရန်လိုပါကြောင်း၊ ကလေးသူငယ်များသည် သိစရာအကြောင်းများရှိသေးသည်ဆိုသော စိတ်ဓာတ်ရှိပါကြောင်း၊

- သို့သော် ထိုကလေးများ၏ သိချင်၊ တတ်ချင်သည့်စိတ်ဓာတ်ကို လူကြီးများက အားမပေးလျှင်၊ သင်ပေးသူ ဆရာ ဆရာမများက အားမပေးလျှင် သင်ယူချင်သည့် ပြဿနာမှာ သင်ယူချင်စိတ် မရှိတော့ခြင်းပင်ဖြစ်ပါကြောင်း၊ ပြည့်စုံသွားပြီဟု မရှိနိုင်ပါကြောင်း၊ တစ်သက်တာ အသက်ရှင်နေသရွေ့ ပညာဆက်လက်ရှာဖွေရမည်ဆိုသည့် စိတ်ဓာတ်မွေးမြူရန်လိုပါကြောင်း၊ မိမိတို့အားလုံး ပညာသင်ယူရမည်၊ ဆက်ပြီး သင်ယူရမည်၊ ပညာသင်ချင်သည်၊ ဘယ်လိုသင်ယူရမည်ဆိုသည့် အချက်များကို သေချာနားလည်မည်ဆိုလျှင် နိုင်ငံ၏ အမျိုးသားပညာရေး မဟာဗျူဟာစီမံကိန်းသည် ကျောင်းသားများ၊ လူငယ်များနှင့် အရွယ်ရောက်သူများ၏ ဘဝတစ်သက်တာ ပညာသင်ယူမှု၊ ပညာသင်ယူသွားရန်မှာ ခက်ခဲတော့မည်မဟုတ်ပါကြောင်း၊ နိုင်ငံတော်က ဦးဆောင်ပြီးလုပ်ရမည်မှာ မှန်ပါကြောင်း၊ နိုင်ငံတော်က ဦးဆောင်ပြီးလုပ်သည့်အခါ စိတ်ပိုင်း၊ ရုပ်ပိုင်းဆိုင်ရာအရ တတ်နိုင်သမျှ ပံ့ပိုးပေးသွားရန် အရေးကြီးပါကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် အသေးစားနှင့် အလတ်စား စီးပွားရေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေး ဗဟိုကော်မတီ(၁/၂၀၁၇) အစည်းအဝေးပြောကြားချက်မှ ကောက်နုတ်ချက်

(၁-၃-၂၀၁၇)

- ❒ အရေးအကြီးဆုံးက ပညာရေးပါပဲ။ SME ကစပြီး လုပ်နေတဲ့ လုပ်ငန်းလေးတွေ ပိုပြီးအောင်မြင်အောင် ကျွန်မတို့ အစိုးရအနေနဲ့ ဘယ်လိုပံ့ပိုးရမလဲ၊ အစိုးရက အားလုံးလုပ်ပေးလို့ မရပါဘူး။ ကျွန်မတို့ဟာ ဈေးကွက်စီးပွားရေးစနစ်ကို ယုံကြည်တဲ့စနစ်ဖြစ်ပါတယ်။
- ❒ ဈေးကွက်စီးပွားရေးစနစ်အတွင်းမှာ SME လုပ်ငန်းတွေ အောင်မြင်အောင် အစိုးရက ဘယ်လိုပံ့ပိုးမလဲဆိုတာကို ဗဟိုကော်မတီအနေနဲ့ ဦးဆောင်ပြီး လုပ်ရမှာ ဖြစ်ပါတယ်။ အစိုးရရဲ့ ဈေးကွက် စီးပွားရေးစနစ်အတွင်း ပံ့ပိုးပေးဖို့ လက်ဝါးကြီးအုပ်ဖို့ မဟုတ်ပါဘူး။ ကျွန်မတို့ရဲ့ မူဝါဒတွေအရ လုပ်ရမယ်ဆိုပြီး ကန့်ကွက်ဖို့လည်း မဟုတ်ပါဘူး။
- ❒ ဈေးကွက်စီးပွားရေးစနစ်အတွင်း SME လုပ်ငန်းတွေ နိုင်ငံတော်ဖွံ့ဖြိုးတိုးတက်ရေးအတွက် ဘယ်လိုပံ့ပိုးကူညီမလဲ၊ ဖွံ့ဖြိုးတိုးတက်ဖို့လုပ်နေတဲ့ တစ်ချိန်တည်းမှာ ကမ္ဘာကြီးနဲ့ ချိတ်ဆက်ပြီး စီးပွားရေးအရ ဆက်သွယ်မှုတွေသာမက လူမှုရေးအရ ဆက်သွယ်မှုတွေ တိုးတက်ကောင်းမွန်ဖို့ ဘယ်လိုလုပ်သွားမလဲဆိုတာကြည့်ပြီး အကြံဉာဏ်ပေးစေချင်ပါတယ်။
- ❒ ကျွန်မတို့မှာ တီထွင်ဉာဏ်ရှိရပါမယ်။ တီထွင်ဉာဏ်ကို အကောင်အထည်ဖော်နိုင်ရမယ်။ တခြားနိုင်ငံတွေမှာ မသုံးဘူးတဲ့ နည်းပညာတွေ လုပ်ထုံးလုပ်နည်းတွေကို ရှာရမယ်။ ဘာဖြစ်လို့လဲဆိုတော့ ကျွန်မတို့နိုင်ငံဟာ တခြားနိုင်ငံတွေထက် စီးပွားရေးမှာ တော်တော်နောက်ကျနေပါတယ်။ နောက်ကျနေလို့ ကျော်တက်ဖို့ဆိုရင် တခြားသူတွေမတွေးဖူးတဲ့ အတွေးတွေးမှဖြစ်မယ်။ ဈေးကွက်သစ်တွေ ဖန်တီးရမယ်။
- ❒ အသိပညာရှင်တွေ၊ အတတ်ပညာရှင်တွေက ရဲရဲဝံ့ဝံ့ အကြံပြုကြပါ။ မစမ်းသပ်ဖူးတဲ့ နည်းတွေနဲ့ စမ်းသပ်ရဲရမယ်။ မိုက်ရူးရဲဆန်တာကို ပြောတာမဟုတ်ပါဘူး။ သတ္တိရှိရှိ ပညာကိုအသုံးပြုပြီး သူများတွေ မလုပ်ဖူးတဲ့နည်းတွေကို

လုပ်မယ်ဆိုရင် SME တွေ ဖွံ့ဖြိုးတိုးတက်ဖို့ အင်မတန်မှ အထောက်အကူပြုမှာဖြစ်ပါတယ်။

- နိုင်ငံတော်တည်ငြိမ်အေးချမ်းရေး၊ ဖွံ့ဖြိုးတိုးတက်ရေးဆိုတာ စီးပွားရေးနဲ့ အင်မတန်မှ ဆက်နွယ်နေပါတယ်။ ကမ္ဘာကြီးရဲ့ နိုင်ငံရေးကို ကြည့်လိုက်ရင် စီးပွားရေးတောင့်တင်းတဲ့နိုင်ငံတွေကို ကျန်နိုင်ငံတွေက အင်မတန်မှ မျက်နှာချိုသွေးနေရတယ်။ စီးပွားရေးဖွံ့ဖြိုးတိုးတက်တဲ့ နိုင်ငံတွေဟာ ဩဇာလွှမ်းမိုးလာကြတယ်။ ကျွန်မတို့နိုင်ငံကို ကမ္ဘာ့အလယ်မှာ တင့်တင့်တယ်တယ်နဲ့ ရပ်တည်စေချင်လို့ဖြစ်ပါတယ်။

- SME နဲ့ပတ်သက်လို့ လုပ်ငန်းကော်မတီဟာ ကျွန်မတို့ အစိုးရဘက်က သင့်တော်တဲ့ဌာနများရဲ့ ကိုယ်စားလှယ်များသာမက အတတ်ပညာရှင်များ၊ အသိပညာရှင်များ၊ ပြည်သူတွေအတွက် စေတနာနဲ့ စဉ်းစားပေးမယ့် ပုဂ္ဂိုလ်တွေကို ထည့်သွင်းထားတာဟာ နိုင်ငံအနေနဲ့ အရင်တုန်းက ဘယ်လိုပဲနောက်ကျခဲ့သည်ဖြစ်စေ အခုဆိုရင် အင်မတန်မှ အရေးကြီးတဲ့ စီးပွားရေးကဏ္ဍဖြစ်တဲ့ SME တွေကို အခြေခံပြီးတော့ တခြားနိုင်ငံတွေနဲ့ ရင်ပေါင်တန်းရုံသာမက ကျော်တက်သွားနိုင်တဲ့ အခြေအနေတွေကို ကြိုးစားနိုင်မယ်လို့ ယုံကြည်ပါတယ်။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ၂၀၁၇ ခုနှစ် မြန်မာအမျိုးသမီးများ ရက်သတ္တပတ်ဖိုရမ်ဖွင့်ပွဲတွင် ပြောကြားသော အမှာစကားမှ ကောက်နုတ်ချက် (၆-၃-၂၀၁၇)

❒ မိမိတို့နိုင်ငံ၏ ယဉ်ကျေးမှုနှင့် ကမ္ဘာကြီး၏ ယဉ်ကျေးမှုအရ အမျိုးသားများသည် အမျိုးသမီးများထက် သမိုင်းအစဉ်အလာအရ ပိုပြီး အခွင့်အလမ်းများခဲ့ပါကြောင်း၊ သို့ရာတွင် မြန်မာနိုင်ငံ၏ အမျိုးသမီးများအနေဖြင့် တတ်နိုင်သည့်ဘက်မှ အမျိုးသားများနှင့် တန်းတူ ရင်ပေါင်တန်းပြီး လုပ်စရာများရှိပါကြောင်း၊ မြန်မာ့သမိုင်း၌ စီးပွားရေးဘက်တွင် မြန်မာအမျိုးသမီးများ ပါဝင်ခဲ့သည်ကို တွေ့ရှိရပါကြောင်း။

❒ နိုင်ငံတစ်နိုင်ငံမှာ ငြိမ်းချမ်းရေးမရှိဘဲနဲ့ ဘယ်လိုလုပ် စီးပွားရေးဟာ ရေရှည်ဖွံ့ဖြိုးတိုးတက်မလဲ။ စီးပွားရေးကို ကျွန်မတို့ အားပေးတယ်ဆိုတာဟာ လူသားများရဲ့ အကျိုးစီးပွားကို အားပေးတာပါ။ ပုဂ္ဂိုလ်တစ်ဦး၊ အဖွဲ့အစည်းတစ်ခု၊ လုပ်ငန်းတစ်ခုအတွက် အကျိုးစီးပွားကို အားပေးတာမဟုတ်ပါဘူး။ လူသားများအားလုံးရဲ့ အကျိုးစီးပွားကို ဦးတည်ပြီးတော့ စီးပွားရေးကို ကျွန်မတို့က အားပေးတာဖြစ်ပါကြောင်း။

❒ ဥပဒေများနှင့် ကြည့်မည်ဆိုပါက အချို့နိုင်ငံများသည် မိမိတို့နိုင်ငံထက် သာလွန်နေသည်ဆိုခြင်းမှာ ငြင်း၍မရပါကြောင်း၊ သို့သော်လည်း ဥပဒေများကိုသာ ကြည့်၍မရပါကြောင်း၊ ဥပဒေ၏ အကျိုးသက်ရောက်မှုများကိုလည်း ကြည့်ရမည်ဖြစ်ပါကြောင်း။

❒ ထို့ကြောင့် အမျိုးသမီးများ၏ အခွင့်အရေးများကို စဉ်းစားမည်ဆိုလျှင် တရားဥပဒေစိုးမိုးရေးကိုလည်း အဓိကထားပြီး စဉ်းစားရန် အရေးကြီးပါကြောင်း၊ တရားဥပဒေစိုးမိုးရေးမရှိဘဲနှင့် အမျိုးသမီးများ တန်းတူညီတူ အခွင့်အရေးရရန် ဥပဒေများနှင့် ပြဋ္ဌာန်းထားသော်လည်း ယင်းဥပဒေများသည် စက္ကူပေါ်တွင်သာ ရှိနေပါက လူ့အသိုင်းအဝိုင်းတွင် အကျိုးသက်ရောက်မှု မရှိနိုင်ပါကြောင်း။

❒ အမျိုးသမီးများ အခွင့်အရေးရခြင်းဖြင့် နိုင်ငံတစ်နိုင်ငံ၏ စံနှုန်းစံထားများသည် မြင့်မားလာပါကြောင်း၊ အမျိုးသမီးများသည် မိမိတို့၏ အခွင့်အရေးများ

ကို တောင်းရုံသာမက မိမိတို့၏ တာဝန်များကို မိမိတို့နိုင်ငံက အမျိုးသမီး အနေဖြင့် ပြသစေလိုပါကြောင်း၊ အခွင့်အရေးကိုသာ တောင်းခံပြီး တာဝန် ယူမှု၊ တာဝန်ခံမှုကိုမူ အစိုးရကသာ အားလုံးလုပ်ရန်ဆိုသည်မှာ ဒီမိုကရေစီ စံနှုန်းများနှင့် မကိုက်ညီဟု သုံးသပ်ပါကြောင်း။

❒ ယခုကျင်းပသည့် ဖိုရမ်သည် ပြည်သူတစ်ရပ်လုံး ပါဝင်သည့် ဖွံ့ဖြိုးတိုးတက် ရေးဖြစ်ရန် မိမိတို့ တစ်ဦးတစ်ယောက်ချင်းစီအနေဖြင့် မည်သို့ ပါဝင်ကြမည် ဆိုသည်ကို ဆက်လက်ဆွေးနွေးကြပြီး မိမိပတ်ဝန်းကျင်၊ အဖွဲ့အစည်းနှင့် လူ့ ဘောင်တစ်ရပ်လုံးတွင် တန်းတူညီမျှမှုများကို အားလုံးဝိုင်းဝန်း အကောင် အထည်ဖော်ကြရန်ဖြစ်ကြောင်း။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ၂၀၁၇ ခုနှစ် အပြည်ပြည်ဆိုင်ရာ အမျိုးသမီးများနေ့ အခမ်းအနားတွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၈-၃-၂၀၁၇)

- ယခုနှစ်သည် အမျိုးသမီးများနှင့်ပတ်သက်၍ အမျိုးသမီးများ၏ စီးပွားရေးကဏ္ဍကို ဦးစားပေးသည့်နှစ်ဟု နားလည်ပါကြောင်း၊ မည်သည့်အတွက် စီးပွားရေးဦးစားပေးသည်ကို အားလုံးက ပထမ ဆင်ခြင်ရန်လိုပါကြောင်း၊ စီးပွားရေးကောင်းမှ ကျန်သည့်အရာများ ကောင်းသွားမည်ဟု အမြင်ရှိနေခြင်းလား ဆိုသည်ကို စဉ်းစားမိပါကြောင်း။
- ယခုနှစ်သည် နိုင်ငံအတွက် ငြိမ်းချမ်းရေးကို အဓိကထားရမည့်နှစ်ဖြစ်သည့်အတွက် အမျိုးသမီးများအနေဖြင့် စီးပွားရေးအကြောင်းပြောရာတွင် စီးပွားရေးကဏ္ဍမှ ငြိမ်းချမ်းရေးကို မည်သို့အားပေးနိုင်မည်၊ ငြိမ်းချမ်းရေးဖြစ်မြောက်ရေးအတွက် မည်သို့ကူညီနိုင်မည်ဆိုသည်ကို စဉ်းစားကြစေလိုပါကြောင်း။
- အမျိုးသမီးများဟာ မိမိတို့ရဲ့ စီးပွားရေးနဲ့ပတ်သက်တဲ့ ဓနအင်အား၊ လုပ်ငန်းရှင်အင်အားကို တစ်နိုင်ငံလုံးအတွက်သာမက တစ်ကမ္ဘာလုံးအတွက် တည်ငြိမ်အေးချမ်းရေးနဲ့ ငြိမ်းချမ်းရေးအတွက် ဘယ်လိုအသုံးချမလဲဆိုတာကို စဉ်းစားစေချင်ပါတယ်။
- အင်အားဟာ အမှန်တရားလား၊ အမှန်တရားဟာ အင်အားလားဆိုရာမှာ အမှန်တရားဟာ အင်အားဆိုတဲ့ ခေတ်ကြီးကို ဦးတည်ပါတယ်။ ယဉ်ကျေးတဲ့သူတိုင်းဟာ အမှန်တရားကို အင်အားလို့ သတ်မှတ်ပြီးတော့ သတ်မှတ်တဲ့အတိုင်း လုပ်ကိုင်ပြောဆိုကြပါတယ်။
- အင်အားကို အမှန်တရားလို့ ထင်ရင်း ထင်ရင်းနဲ့ အမှန်တရားဆိုတာ ဘာမှန်းတောင် မသိကြတော့ပါဘူး။ အင်အားကိုပဲ အားကိုးလာကြပါတယ်။ ကျွန်မတို့ရဲ့ စီးပွားရေး ကဏ္ဍတွေမှာပါတဲ့ အမျိုးသမီးများဟာ မိမိတို့ရဲ့ ဓနအင်အား၊ စီးပွားရေးကျွမ်း ကျင်မှုအင်အားကို အမှန်တရားဆိုတဲ့ ငြိမ်းချမ်းရေးအတွက် သုံးကြပါလို့ တိုက်တွန်းချင်ပါကြောင်း။
- မိမိအနေဖြင့် အမှန်တရားသည် အင်အားအဖြစ် ခိုင်မြဲအောင်လုပ်ပါ ကျန်သည့်ကိစ္စများသည်လည်း မှန်မှန်ကန်ကန် ဖြစ်သွားမည်ဖြစ်ပါကြောင်း၊ အမျိုး

သမီးစီးပွားရေးလုပ်ငန်းရှင်များအနေဖြင့် စီးပွားရေးကဏ္ဍတွင် ၅၀-၅၀ ရာခိုင်နှုန်းပါသကဲ့သို့ ငြိမ်းချမ်းရေးရရန်အတွက် လုပ်ဆောင်သည့်နေရာတွင် တစ်ဝက်တာဝန်ယူသင့်သည်ဟု ထင်မြင်ပါကြောင်း။

❒ ယခုအချိန်တွင် ငြိမ်းချမ်းရေးဖြစ်စဉ်၌ အမျိုးသမီးများ ၃၀ ရာခိုင်နှုန်းပါဝင်ရေး ဆိုပြီး လှုပ်ရှားနေပါကြောင်း၊ ၃၀ ရာခိုင်နှုန်းသာမက ၅၀ ရာခိုင်နှုန်း ပါဝင်စေလိုပါကြောင်း၊ ပါဝင်သည်ဆိုရာတွင် အစည်းအဝေးထဲ ဝင်ထိုင်မှ ပါဝင်ခြင်း မဟုတ်ကြောင်း။

❒ ငြိမ်းချမ်းရေးဆိုသည်မှာ အစည်းအဝေးထဲမှ စခြင်းမဟုတ်ပါကြောင်း၊ ပြည်သူလူထု၏ နှလုံးသားနှင့် ဦးနှောက်ထဲမှ စတင်ခြင်းဖြစ်ရာ အဆိုပါကဏ္ဍတွင် အမျိုးသမီးများအနေဖြင့် များစွာကူညီနိုင်ပါကြောင်း။

❒ ပြည်သူပြည်သားအားလုံးသည် စီးပွားရေးအောင်မြင်မှုကို အလေးထားရမည် ဖြစ်ကြောင်း၊ စီးပွားရေးအောင်မြင်မှုမှ အကျိုးရလဒ်များကို အများအတွက် မည်သို့သုံးသည်ကို ပြဖို့လိုပါကြောင်း၊ အတ္တဟိတ၊ ပရဟိတနှစ်ခုလုံး တွဲပြီး လုပ်မှ အောင်မြင်မှုရမည်ဖြစ်ကြောင်း။

❒ နှစ်ခုလုံး မှန်မှန်ကန်ကန် ချိန်ခွင်လျှာညီမျှအောင် ပံ့ပိုးပေးခြင်းသည် စစ်မှန်သည့်အင်အားဖြစ်ပါကြောင်း၊ စီးပွားရေးသည် မှန်ကန်သည့် စီးပွားရေးပုံစံဖြစ်ရန် အရေးကြီးပါကြောင်း၊ စီးပွားရေး အောင်မြင်မှုကိုသာ ဦးတည်ရမည်ဆိုသည်ကို လက်မခံပါကြောင်း၊ စီးပွားရေးနှင့် နိုင်ငံရေး၊ နိုင်ငံရေးနှင့် လူမှုရေး၊ လူမှုရေးနှင့် ငြိမ်းချမ်းရေးအားလုံး ဆက်စပ်နေပါကြောင်း၊ မိမိအကျိုးစီးပွားကို အများအတွက် သုံးမည်ဆိုပါက မိမိအကျိုးစီးပွားသည်လည်း ထပ်တလဲလဲ တိုးတက်လာမည်ဖြစ်ကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် (၉)ကြိမ်မြောက် ရန်ကုန်ဓာတ်ပုံညသဆုချီးမြှင့်ပွဲ အခမ်းအနားတွင် ပြောကြားသော အဖွင့်အမှာစကားမှ ကောက်နုတ်ချက် (၁၀-၃-၂၀၁၇)

- ❒ ယခုပြိုင်ပွဲတွင် ဝင်ရောက်ယှဉ်ပြိုင်ရင်းနှင့် ဓာတ်ပုံဆရာ၊ ဓာတ်ပုံဆရာမ အဆင့် ရောက်သွားခဲ့သည်ကို မြင်ခဲ့ရကြောင်း၊ အရေးကြီးသည့်အချက်မှာ ၎င်းတို့၏ ဆန်းသစ်သည့်ဉာဏ်နှင့် အမြင်များကို ယခုပွဲတွင် ဝင်ရောက်ယှဉ်ပြိုင်ခဲ့သည်ကို တွေ့ခဲ့ရကြောင်း။
- ❒ မိမိတို့ လူငယ်များထဲတွင် အလားအလာ ကောင်းသည်ဆိုသည်ကို အားပါးတရနှင့် တွေ့မြင်သိနိုင်ခဲ့ကြောင်း၊ ယခုပွဲဖြစ် မြောက်အောင် စီစဉ်ပေးသည့် ပြင်သစ်သံရုံး ယဉ်ကျေးမှုဌာနကို အထူးကျေးဇူးတင်ကြောင်း။
- ❒ မြန်မာနိုင်ငံသူ နိုင်ငံသားများ၏ အနုပညာစိတ်ဓာတ်ကို ယုံကြည်လေးစားအားပေးခြင်းဖြစ်ကြောင်း၊ အနုပညာကို အားပေးသည်ဆိုသည်မှာ ကမ္ဘာသူ၊ ကမ္ဘာသားအားလုံး စိတ်ဝင်စားသည့် ဘာသာရပ်တစ်ခုကို အားပေးခြင်းပင်ဖြစ်ကြောင်း။
- ❒ တူညီသည့် အခြေခံသဘောထားများရှိသည်ဆိုခြင်းကို ရရှိနိုင်ကြောင်း၊ ယခုပွဲတော်ကို အားပေးသည်ဆိုသည်မှာ အနုပညာစိတ်ဓာတ်သာမက လူမှုရေးစိတ်ဓာတ်ဖြင့် အားပေးခြင်းဖြစ်ကြောင်း၊ အဓိကထားပြီး လုပ်ဆောင်နေကြသည်မှာ ငြိမ်းချမ်းရေးကိစ္စဆိုသည်ကို အများနားလည်မှုရှိကြမည်ဖြစ်ကြောင်း။
- ❒ ငြိမ်းချမ်းရေးရရန်ဆိုသည်မှာ အခြေခံအားဖြင့် တစ်ယောက်နှင့်တစ်ယောက် နားလည်မှုရှိရမည်ဖြစ်ကြောင်း၊ တစ်ယောက်နှင့်တစ်ယောက် နားလည်မှုမရှိပါက ငြိမ်းချမ်းရေးပဋိပက္ခများကို မည်သို့မျှ ဖြေရှင်းနိုင်မည်မဟုတ်ကြောင်း၊ ထို့ကြောင့် လူသားများအကြား၊ မတူညီသည့် ယဉ်ကျေးမှုများအကြား၊ မတူညီသည့် အမြင်များအကြား ငြိမ်းချမ်းမှုနှင့် နားလည်မှုရအောင် လုပ်ပေးသည့် မည်သည့်အခမ်းအနားမျိုးမဆို မိမိတို့အနေဖြင့် ကြိုဆိုပါကြောင်း။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ် ဒေါ်အောင်ဆန်းစုကြည် အမျိုးသားကျန်းမာရေးစီမံကိန်း(၂၀၁၇-၂၀၂၁) စတင်ဆောင်ရွက်မှု အသိပေးခြင်းအခမ်းအနားတွင် ပြောကြားသည့်အမှာစကားမှကောက်နုတ်ချက် (၃၀-၃-၂၀၁၇)

❒ ပြည်သူများ၏ ကျန်းမာရေးကောင်းမွန်ခြင်းသည် နိုင်ငံတစ်ခုအတွက် အကောင်းဆုံးလာဘ်လာဘဖြစ်သည်ဟု ဆိုချင်ပါကြောင်း၊ သို့သော် လာဘ်လာဘဟုပြောသည့်အခါ အများကပေးသည့် လွယ်လွယ်နှင့်ရသော လာဘ်လာဘမျိုးမဟုတ်ဘဲ ဉာဏ်ပညာ၊ ဝီရိယတို့နှင့် ယှဉ်တွဲပြီး စနစ်တကျရယူသည့် ဆုလာဘ်မျိုးဖြစ်ရမည်ဖြစ်ကြောင်း၊ ယခုလိုအတွေးအခေါ်နှင့် မိမိတို့၏ အမျိုးသားစီမံကိန်းကို ရေးဆွဲထားခြင်းဖြစ်ပါကြောင်း၊ စိတ်ကူးယဉ်၍လည်းကောင်း၊ ယေဘုယျအားဖြင့်လည်းကောင်း၊ ရေးဆွဲထားခြင်းမဟုတ်ဘဲ တစ်နှစ်ပြီးတစ်နှစ် ဘယ်လိုဆက်လက်၍ ဆောင်ရွက်သွားမလဲဆိုတာကို ဆုံးဖြတ်ပြီး ရေးဆွဲထားသည့် စီမံကိန်းတစ်ခုဖြစ်ပါကြောင်း၊ မိမိတို့နိုင်ငံအတွက် ပြည်သူပြည်သားများ၏ ကျန်းမာရေး အင်မတန် အရေးကြီးပါကြောင်း။

❒ သူနာပြုဆရာမတစ်ဦးဖြစ်ခဲ့သည့် မိခင်ဖြစ်သူက အမြဲပြောလေ့ရှိပါကြောင်း၊ ကျန်းမာမှဖြစ်မယ်၊ မကျန်းမာလျှင် ဘာမှလုပ်လို့မရဘူးဟု ပြောပါကြောင်း၊ ဉာဏ်ပညာ၊ အလုပ်အကိုင်၊ ခွန်အားများစွာရှိသည့် ပုဂ္ဂိုလ်များသည် ကျန်းမာရေးပျက်စီးယိုယွင်းသွားသည့်အခါ မည်သည့်စွမ်းရည်မှမရှိတော့သည်ကို သူနာပြုဆရာမတစ်ဦးအနေဖြင့် ၎င်းကိုယ်တိုင်မြင်ခဲ့၍ ဖြစ်ပါကြောင်း၊ ကျန်းမာရေးကို အလွန်အလေးထားခဲ့ပါကြောင်း၊ ပြည်သူပြည်သားများ၏ ကျန်းမာရေးသည် မိမိတို့နိုင်ငံ၏ အဖိုးမဖြတ်နိုင်သည့် သယံဇာတတစ်ခုဖြစ်သည်ဟု ပြောလိုပါကြောင်း၊ ထို့ကြောင့် စနစ်တကျကျန်းမာရေးစောင့်ရှောက်မှုအတွက် အားလုံးဝိုင်းပြီး ကြိုးစားရမှာဖြစ်ပါကြောင်း၊ ယခုမိမိတို့၏ အမျိုးသားကျန်းမာရေးစီမံကိန်းသည် ပြည်သူကိုအခြေပြုသည့် စီမံကိန်းမျိုးဖြစ်ပါကြောင်း၊ ပြည်သူကို အခြေပြုသည့် စီမံကိန်းဖြစ်၍ ကျန်းမာရေးသည် အိမ်တွင်းမှစသည်ဟူသည့် အမြင်ဖြင့် မိမိတို့ဆက်သွားရန်လိုပါကြောင်း။

❒ "မိခင်ရဲ့ဝမ်းထဲကနေစပြီးတော့ ကျန်းမာရေးဂရုစိုက်မှုက အထူးပဲအရေးကြီး

ပါတယ်။ ငယ်ငယ်တုန်းက ကျန်းကျန်းမာမာနဲ့ မွေးမြူလာတဲ့ ပြုစုထားတဲ့ ကလေးတွေဟာ ကြီးလာတော့လည်း ပိုပြီးတော့ ကျန်းမာရေးလည်းကောင်းပါတယ်၊ ဉာဏ်ရည်လည်းကောင်းပါတယ်။ အဘက်ဘက်ကနေပြီးတော့ နိုင်ငံအတွက်လည်း အကူအညီအထောက်အပံ့ဖြစ်နိုင်ပါတယ်။ ကျန်းမာရေးနဲ့ပတ်သက်ရင် အားလုံးဝိုင်းပြီး လုပ်ဖို့လိုတဲ့နေရာမှာ ကျွန်မတို့နိုင်ငံအတွင်းသာမဟုတ်ဘဲနဲ့ ပြည်ပက မိတ်ဆွေတွေကလည်း ကူညီထောက်ပံ့မှုတွေ အများကြီးရပါတယ်။ ဒါပေမယ့်လည်း လူ့စွမ်းမှ နတ်မတယ်ဆိုသလို ကိုယ်စွမ်းမှုလည်း ကိုယ့်ကိုယ် ကူညီချင်တဲ့စိတ်တွေဖြစ်မှာ ဖြစ်ပါတယ်။

❒ မိမိတို့ပြည်သူများ၏ စွမ်းရည်များကို မြှင့်တင်ပေးရန် အမြင့်ဆုံးမြှင့်တင်နိုင်အောင် ရေးဆွဲထားပြီးဖြစ်ပါကြောင်း၊ မိမိတို့က ယခုလိုကြိုးစားသည့်အခါ ကျန်းမာရေးဝန်ကြီးဌာနတစ်ခုတည်းနှင့်လည်း မပြီးပါကြောင်း၊ အခြားဝန်ကြီးဌာနတစ်ခုတည်းနှင့်လည်း မပြီးပါကြောင်း၊ အခြားဝန်ကြီးဌာနများကလည်း ဝိုင်းဝန်းပြီး ကူညီပေးရန် လိုအပ်ပါကြောင်း၊ အထူးသဖြင့် ပညာရေးဝန်ကြီးဌာန၊ လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့်ပြန်လည်နေရာချထားရေးဝန်ကြီးဌာန၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနနှင့် အခြားဝန်ကြီးဌာနအသီးသီးကလည်း ဝိုင်းဝန်းပြီး ကူညီရန်လိုအပ်ပါကြောင်း၊ ထို့ပြင် လွှတ်တော်၏ကဏ္ဍကလည်း အလွန်အရေးကြီးပါကြောင်း၊ ကျန်းမာရေးစောင့်ရှောက်မှုနှင့် ဥပဒေကိုပြဋ္ဌာန်းသည့်နေရာတွင် လွှတ်တော်၏ အကူအညီလည်းလိုအပ်ပါကြောင်း၊ မိမိတို့နိုင်ငံသူနိုင်ငံသားများ၏ ကျန်းမာရေးကောင်းရန်ဆိုသည်မှာ အားလုံးဝိုင်းဝန်းပြီး လုပ်ဆောင်ရမည့်ကိစ္စဖြစ်ပါကြောင်း။

❒ ပညာတတ်သည့်၊ ကျန်းမာသည့် ပြည်သူပြည်သားများသည် နိုင်ငံတစ်နိုင်ငံ၏ အနာဂတ်အတွက် အကောင်းဆုံးအာမခံချက်ပင်ဖြစ်ပါကြောင်း၊ ထို့ကြောင့် မိမိတို့နိုင်ငံသည် တိုးတက်မလား၊ မတိုးတက်ဘူးလားဆိုသည်ကို နိုင်ငံ၏ ကျန်းမာရေး၊ ပညာရေးအခြေအနေကိုကြည့်ပြီး ဆုံးဖြတ်၍ရပါကြောင်း၊ တစ်ချိန်က မြန်မာနိုင်ငံကို တစ်ကမ္ဘာလုံးက လေးစားရသည့် အကြောင်းရင်းတစ်ခုမှာ မိမိတို့နိုင်ငံသူ နိုင်ငံသားများ၏ ကျန်းမာရေးနှင့်ပညာရေးကို အလေးထားပြီး အောင်မြင်အောင် လုပ်နိုင်ခဲ့လို့ ဖြစ်ပါကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် နိုင်ငံတော်အစိုးရ တာဝန်ယူမှုတစ်နှစ်ပြည့် အထိမ်းအမှတ် ပြောကြားသည့် မိန့်ခွန်းမှ ကောက်နုတ်ချက် (၃၀-၃-၂၀၁၇)

- အခုအချိန်အခါမှာဆိုလို့ရှိရင် ပြည်သူလူထုကို အကာအကွယ်ပေးနိုင်မယ့် ဥပဒေတွေပြဋ္ဌာန်းတဲ့ တစ်ချိန်တည်းမှာ ပြည်သူလူထုကို ဖိနှိပ်ရာရောက်တဲ့ ဥပဒေတွေကိုလည်း ကျွန်မတို့ ပြောင်းလဲသင့်တာကို ပြောင်းလဲတယ်၊ ဖယ်ရှား သင့်တာကို ဖယ်ရှားခဲ့ပါတယ်။ ဒါဟာ စနစ်ကိုပြောင်းလဲခြင်းရဲ့ ခြေလှမ်း တစ်လှမ်းဖြစ်ပါတယ်။ ပြည်သူတွေကတော့ စိတ်ဓာတ်ကို ပြောင်းလဲသလား မပြောင်းလဲသလားဆိုတာဟာ ပြည်သူတွေကိုယ်တိုင် သိမှာပါပဲ။
- ကျွန်မတို့အစိုးရအဖွဲ့ဝင်တွေအနေနဲ့ စိတ်ဓာတ်ကို ပြောင်းလဲခြင်းဆိုတာဟာ ကျွန်မတို့ အဂတိတရားလေးပါးမှ ကင်းဖို့ပါပဲ။ တချို့က အဂတိတရားဆိုတာ ဟာ ငွေရေးကြေးရေးနဲ့ ပတ်သက်တယ်လို့ပဲ ထင်ပါတယ်။ ဒါကြောင့် ကျွန်မ မကြာခဏ သတိပေးရပါတယ်။
- အဂတိတရားလေးပါးဆိုတာ ဆန္ဒာဂတိ၊ ဒေါသာဂတိ၊ ဘယာဂတိ၊ မောဟ ဂတိတို့ ဖြစ်ပါတယ်။ ဒီတော့ အစိုးရတာဝန်ကို ထမ်းဆောင်တဲ့ပုဂ္ဂိုလ်များဟာ ဆန္ဒာဂတိ၊ ဒေါသာဂတိ ကင်းရမယ်ဆိုတာ မိမိတို့ချစ်ခင်တဲ့ ပုဂ္ဂိုလ်များ၊ မိမိတို့နဲ့ နီးစပ်တဲ့ ပုဂ္ဂိုလ်များရဲ့ အကျိုးအတွက်ကိုကြည့်ပြီးတော့ မလုပ်ရဘူး။ အမှန် တရားကိုပဲ ကြည့်ပြီးတော့လုပ်ရမယ်။ ဒါ ဆန္ဒာဂတိကင်းခြင်းဆိုတာ ဒါပဲဖြစ် ပါတယ်။ ပိုက်ဆံယူမှ အဂတိတရားနဲ့ မကင်းတာမဟုတ်ပါဘူး။ ကိုယ့်ရဲ့ အသိုင်းအဝိုင်းရဲ့ အကျိုးကိုကြည့်ပြီးတော့ လုပ်ဆောင်တဲ့ပုဂ္ဂိုလ်များဟာ နိုင်ငံရဲ့ အကျိုးမကြည့်ဘဲနဲ့ ကိုယ့်ရဲ့အသိုင်းအဝိုင်း၊ ကိုယ့်ရဲ့မိသားစု၊ ကိုယ့်ရဲ့ မိတ်ဆွေ များရဲ့ မျက်နှာကြည့်ပြီး လုပ်တယ်ဆိုတာဟာ ဒါဟာလည်း အဂတိတရား တစ်မျိုးပါပဲ။
- ကျွန်မတို့ အမျိုးသားရင်ကြားစေ့ရေးရရှိဖို့၊ ငြိမ်းချမ်းရေးရရှိဖို့ဆိုလို့ရှိရင် အဂတိ တရားကင်းစင်ရမယ်။ ကျွန်မတို့ဟာ ကျွန်မတို့နိုင်ငံအတွင်းမှာရှိတဲ့ အဖွဲ့ အစည်း၊ အစုအဖွဲ့အသီးသီးနဲ့ ဆက်ဆံတဲ့နေရာမှာဆိုရင် ကိုယ်ကြိုက်သည် ဖြစ်စေ၊ မကြိုက်သည်ဖြစ်စေ အမှန်တရားကို ရှေ့ရှုပြီးတော့ လုပ်ကိုင်ဖို့လိုပါတယ်။

- အမျိုးသားရင်ကြားစေ့ရေးနဲ့ ငြိမ်းချမ်းရေးဆိုတာဟာ ဆက်နွယ်နေတယ်ဆိုတာကတော့ ထူးထူးထွေထွေ ပြောဖို့လိုမယ်လို့ မထင်ပါဘူး။ ငြိမ်းချမ်းရေးဖြစ်စဉ်ဟာ လွယ်တဲ့ဖြစ်စဉ် မဟုတ်ပါဘူး။ ဒါပေမယ့် ကျွန်မတို့အတွက် မျှော်လင့်ချက်တွေ အများကြီးရှိပါတယ်။ အထူးသဖြင့် အခုရက်ပိုင်းအတွင်းမှာဆိုလို့ရှိရင် ကျွန်မတို့ ဒုတိယပင်လုံညီလာခံအတွက် မျှော်လင့်ချက်တွေ အများကြီးတိုးပွားလာပါတယ်။
- ပြည်သူအပေါ်မှာ မေတ္တာထားမယ်ဆိုတာ ပြည်သူရဲ့ဘဝ ဖွံ့ဖြိုးတိုးတက်ရေးအတွက် ကျွန်မတို့ အတတ်နိုင်ဆုံး ကြိုးစားသွားမယ်ဆိုတဲ့ အဓိပ္ပာယ်ရောက်တယ်။
- ဘာဖြစ်လို့လဲဆိုတော့ မေတ္တာထားတယ်ဆိုတာ ပါးစပ်ပြောရုံနဲ့ မပြီးပါဘူး။ တကယ့်ကို မေတ္တာထားတယ်ဆိုလို့ရှိရင် ကိုယ်မေတ္တာထားတဲ့ ပုဂ္ဂိုလ်များရဲ့ ဘဝနေရေး ပိုပြီးတော့ ကောင်းမွန်အောင်လို့၊ စိတ်အေးချမ်းနိုင်အောင်လို့၊ ကိုယ်ကျန်းမာနိုင်အောင်လို့ ဒီလိုဟာတွေကိုလုပ်ပေးမှ တကယ်မေတ္တာရှိရာရောက်ပါတယ်။
- မေတ္တာရှိပါတယ်၊ မေတ္တာရှိပါတယ်လို့ ပါးစပ်ကပြောပြီးတော့ တကယ်တော့ ထိထိရောက်ရောက် ဘာမှမလုပ်ဘူးဆိုလို့ရှိရင် ဒီမေတ္တာဟာ စကားလုံးတစ်ခုပဲ ဖြစ်ပါတယ်။ တကယ်ထိရောက်တဲ့ အင်အားမဟုတ်ပါဘူး။
- အဲဒီတော့ ကျွန်မတို့ ပြည်သူအပေါ်မှာ မေတ္တာထားမယ်လို့ ကျွန်မတို့ ကတိပြုသွားတဲ့ အတိုင်းပဲ တတ်နိုင်သမျှ ပြည်သူရဲ့ ဘဝတိုးတက်ရေးအတွက် လုပ်ခဲ့ပါတယ်။ ဘယ်လောက်ထိ အောင်မြင်တယ်။ မအောင်မြင်တယ်ဆိုတာကတော့ စောစောက ကျွန်မပြောတဲ့အတိုင်းပဲ ကျွန်မတို့ဝန်ကြီးဌာန အသီးသီးက တင်ပြပြီးပါပြီ။
- ပြည်သူအပေါ်မှာ မေတ္တာထားတယ်ဆိုတာ ပြည်သူရဲ့ကျန်းမာရေး၊ ပညာရေးကို ကျွန်မတို့ အထူးဂရုပြုဖို့လိုပါတယ်။ ဒါကြောင့်မို့လို့ အခု ကျွန်မတို့ရဲ့ ဒီနှစ်ဘတ်ဂျက်ထဲမှာဆိုလို့ရှိရင် ပညာရေးနဲ့ ကျန်းမာရေးအတွက်ကို အထူး ကျွန်မတို့ သုံးထားတာ ရှိပါတယ်။ အရင်တုန်းကနဲ့မတူအောင်လို့ ပိုမိုပြီးတော့ သုံးစွဲထားပါတယ်။
- နောက်ပြီးတော့ ဒီသုံးစွဲတဲ့ငွေများဟာ အလဟဿ မဖြစ်စေဘူးဆိုတာလည်း ကျွန်မတို့ အာမခံနိုင်ပါတယ်။ အခု ဒီတစ်နှစ်အတွင်းမှာကို ကျွန်မတို့ရဲ့ ပြည်သူ့စောင့်ရှောက်မှု တိုးတက်တဲ့နှုန်းဟာ အင်မတန်မှ မြန်ပါတယ်။

❒ တိုးတက်တယ်ဆိုတဲ့ ထင်ထင်ရှားရှား ကိစ္စတစ်ခုကတော့ တီဘီ၊ နောက်ပြီးတော့ ငှက်ဖျား၊ HIV နဲ့ AIDS ပတ်သက်တဲ့ ဒီရောဂါကြီး သုံးခု တိုက်ဖျက်ရေးစီမံကိန်းပေ့ါ။

❒ တစ်ကမ္ဘာလုံးကနေ ပါဝင်နေတဲ့ စီမံကိန်းကြီးမှာဆိုလို့ရှိရင် ကျွန်မတို့နိုင်ငံရဲ့ တိုးတက်မှုဟာ အံ့မခန်းပါပဲဆိုပြီးတော့ Global Funds ဆိုတဲ့ ဒီရောဂါကြီးသုံးခုကို တိုက်ဖျက်မှုအတွက် ထူထောင်ထားတဲ့ ကမ္ဘာ့ငွေရေးကြေးရေးအဖွဲ့ကနေပြီးတော့ ကျွန်မတို့ကို ချီးမွမ်းရပါတယ်။

❒ အရင်တုန်းကဆိုလို့ရှိရင် မြန်မာနိုင်ငံဟာ ဒီရောဂါကြီးသုံးခု တိုက်ဖျက်မှုမှာ နောက်ဆုံးနားက ရှိနေပေမယ့် အခုဆိုရင် ကမ္ဘာ့အဆင့်နဲ့က ထိပ်တန်းကို တက်လာပြီဆိုပြီး ချီးမွမ်းရပါ တယ်။ ချီးမွမ်းတယ်ဆိုတာကလည်း စကားနဲ့တင် မဟုတ်ပါဘူး။

❒ ဒါကြောင့်မို့လို့ နောင်သုံးနှစ်မှာဆိုလို့ရှိရင် ကျွန်မတို့ကို အမေရိကန်ဒေါ်လာ သန်း ၅၀၀ နဲ့ ထောက်ပံ့မယ်။ ဒီကိစ္စတွေ ဆက်ပြီးတော့ လုပ်သွားဖို့ ထောက်ပံ့မယ်ဆိုပြီးတော့ ပြောခဲ့ပါတယ်။ ဒါ ကျွန်မအနေနဲ့ ကျေနပ်စရာတွေထဲမှာ တစ်ခုပါ။

❒ ကျွန်မတို့ အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ်ဟာ နိုင်ငံရဲ့တာဝန်ကို စပြီးတော့ ယူစဉ်အခါတုန်းကဆိုလို့ရှိရင် ကျွန်မတို့ ပြောင်းလဲချိန်တန်ပြီဆိုတဲ့ ဆောင်ပုဒ်နဲ့ ယူခဲ့ပါတယ်။ အဲဒီတော့ ကျွန်မတို့ အခုတစ်နှစ်ကြာပြီဆိုတော့ ဆောင်ပုဒ်ကိုလည်း ကျွန်မတို့ နည်းနည်းပြောင်းပြီးတော့သွားရရင် ကောင်းမယ်လို့ ကျွန်မထင်ပါတယ်။

❒ အဲဒီတော့ ကျွန်မစဉ်းစားပါတယ်။ ဘယ်လိုဆောင်ပုဒ်မျိုးနဲ့ ဆက်သွားရင် ကောင်းမလဲဆိုတော့ တိုတိုတုတ်တုတ်နဲ့ အဓိပ္ပာယ်ပေါ်လွင်အောင် "ပြည်သူနဲ့အတူ"လို့ ကျွန်မတို့ဆက်ပြီးတော့ ဒီခရီးလမ်းကို ပြည်သူနဲ့အတူ လျှောက်လှမ်းသွားချင်ပါတယ်။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် တစ်နိုင်ငံလုံးပစ်ခတ်ရပ်စဲရေး သဘောတူစာချုပ် အကောင်အထည်ဖော်မှုဆိုင်ရာ ညှိနှိုင်းအစည်းအဝေးတွင် ပြောကြားသည့်မိန့်ခွန်းကောက်နုတ်ချက် (၂၄-၄-၂၀၁၇)

❒ ဘယ်အပိုင်းကိုပဲ ဆွေးနွေးဆွေးနွေး၊ ဘယ်ရှုထောင့်ကနေပဲကြည့်ကြည့် နောက်ဆုံး မိမိတို့၏ ရည်ရွယ်ချက်မှာ ငြိမ်းချမ်းရေးဖြစ်စဉ်ကို ဘယ်လိုပိုပြီး တော့ အောင်မြင်အောင်လုပ်နိုင်မလဲ၊ ပိုပြီးတော့ ချောမွေ့အောင်လုပ်နိုင်မလဲ၊ ပိုပြီးတော့ ထိရောက်အောင်လုပ်နိုင်မလဲဆိုသည့် အတွေးအခေါ်များနှင့်ရှိကြ မည်ဟု မျှော်လင့်ပါကြောင်း၊ အားလုံးကပါဝင်မှ ငြိမ်းချမ်းရေးဆိုတာ ရနိုင် မှာဖြစ်ပါကြောင်း၊ အားလုံးကလည်း ကိုယ့်ဘက်က ငြိမ်းချမ်းရေးအတွက် အကောင်းဆုံးဟုထင်သည့် အတွေးအခေါ်၊ အမြင်များနှင့် တင်ပြကြမည်ဟု မျှော်လင့်ပါကြောင်း။

❒ မိမိတို့အမြဲသင်ခဲ့ရသည့်အတိုင်း စကားဆိုသည်မှာ သူခံသာသည့်စကားနှင့် သူမခံသာသည့်စကားဆိုတာရှိပါကြောင်း၊ ဒါပေမယ့် ပထမဦးဆုံး ဆုံးဖြတ် ရမည်မှာ စကားတစ်ခုသည် မှန်သလား၊ မမှန်သလားဆိုတာ ဆုံးဖြတ် ရမည်ဖြစ်ပါကြောင်း၊ ဒုတိယက အကျိုးရှိသလား၊ မရှိဘူးလား၊ စကားတစ်ခု ဟာ မှန်သလား၊ မမှန်ဘူးလားဆိုတာ တစ်ယောက်နှင့်တစ်ယောက် သဘော ထားချင်းမတူပါကြောင်း၊ နောက်တစ်ခုမှာ မှန်သည်ဟု ဆုံးဖြတ်ပြီးလျှင်တောင် မှ အကျိုးရှိသလား၊ အကျိုးမရှိဘူးလားဆိုသည်ကို ဆင်ခြင်ရမည်ဖြစ်ပါ ကြောင်း။

❒ ငြိမ်းချမ်းရေးအတွက်ပြောသည့်အခါ မှန်ကန်သည့်စကားများ ဖြစ်ရန်လိုသလို အကျိုးရှိသည့်စကားများ ဖြစ်ရန်လည်းလိုပါကြောင်း၊ တတိယနှင့် စတုတ္ထ အဆင့်မှာ သူခံသာသည့်စကားနှင့် သူမခံသာသည့်စကား ဖြစ်ပါကြောင်း၊ ခံသာသည်၊ မခံသာဘူးဆိုတာ အများအားဖြင့် လက်ခံနိုင်သည်၊ လက်မခံနိုင် ဘူးဆိုသည်မှာ အမြဲတစေ မပြောင်းမလဲ အခြေအနေမဟုတ်ပါကြောင်း၊ တချို့စကားများသည် တစ်ချိန်က လက်မခံနိုင်သော်လည်း နောက်တစ်ချိန် တွင် လက်ခံနိုင်သည်ဟု ဖြစ်လာမည်ဖြစ်ပါကြောင်း၊ ထို့ကြောင့် မိမိတို့ ယခုလို

အစည်းအဝေးများ ကျင်းပနိုင်ခြင်းဖြစ်ပါကြောင်း၊ အရင်တုန်းက တစ်ယောက်နှင့်တစ်ယောက် စကားမပြောခဲ့သည့် အဖွဲ့အစည်းများ၊ ပုဂ္ဂိုလ်များ ယခုလို ထိုင်ပြီး ဆွေးနွေးနိုင်သည်ဆိုတာ တစ်ချိန်တုန်းက လက်မခံနိုင်သည့် ကိစ္စ၊ အတွေးအခေါ် ပြသခြင်းပင်ဖြစ်ပါကြောင်း၊ မိမိတို့အားလုံး၊ ယခုအစည်းအဝေးသို့ တက်ရောက်လာသည့် ပုဂ္ဂိုလ်များသည် ငြိမ်းချမ်းရေးဖြစ်စဉ်ကို ဘယ်လိုပံ့ပိုးမလဲ၊ ဘယ်လိုတိုးတက်အောင် လုပ်ပေးမလဲ၊ ဘယ်လိုအောင်မြင်အောင် လုပ်နိုင်မလဲဆိုသည့် အတွေးအခေါ်များဖြင့် ချဉ်းကပ်မည်ဟု မိမိအနေဖြင့် မျှော်လင့်ပါကြောင်း။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ဖြိတိန်နိုင်ငံရောက် မြန်မာနိုင်ငံသားများနှင့် တွေ့ဆုံစဉ် ပြောကြားသည့်အမှာစကားမှကောက်နုတ်ချက် (၉-၅-၂၀၁၇)

❒ မြန်မာနိုင်ငံသားများအားလုံးနှင့် မြန်မာနိုင်ငံတွင် မွေးဖွားခဲ့ကြသူအားလုံးကို မခွဲခြားဘဲ မိသားစုကဲ့သို့ မှတ်ယူပါကြောင်း၊ မိမိတို့နိုင်ငံတွင် ဒီမိုကရေစီလမ်းစဉ်ကို စတင်လျှောက်လှမ်းစဖြစ်ပါကြောင်း၊ ပြည့်ဝသည့် ဒီမိုကရေစီမဟုတ်သေးသော်လည်း တစ်လှမ်းချင်းလှမ်းနေပါကြောင်း၊ လုံးဝပြည့်ဝသည့် ဒီမိုကရေစီဖြစ်အောင် နိုင်ငံသူ နိုင်ငံသားတိုင်းတွင် တာဝန်ရှိပါကြောင်း၊ နိုင်ငံတော်ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်ရာတွင် တစ်ဦးတစ်ယောက်၊ အစိုးရတစ်ခု၊ အဖွဲ့အစည်းတစ်ခုတည်း ဆောင်ရွက်၍ မရပါကြောင်း၊ ပြည်သူတစ်ရပ်လုံး ပါဝင်ရမည်ဖြစ်ပါကြောင်း၊ နိုင်ငံတော်ကြီးအေးချမ်းအောင်၊ သာယာအောင်၊ တိုးတက်အောင်ကြိုးစားသွားမည်ဖြစ်ပါကြောင်း။

❒ မိမိတို့နိုင်ငံအတွက် အရေးကြီးဆုံးမှာ ငြိမ်းချမ်းရေးနှင့်အမျိုးသားပြန်လည်သင့်မြတ်ရေးပင်ဖြစ်ပါကြောင်း၊ ငြိမ်းချမ်းရေးမရှိဘဲ စစ်မှန်သည့် တိုးတက်မှု ရေရှည်တွင် မရနိုင်ပါကြောင်း၊ အရေအတွက်ရှိပြီးဖြစ်သည့်အတွက် အရည်အချင်းရှိအောင် လုပ်ရမည်ဖြစ်ပါကြောင်း၊ နှလုံးရည်ပြည့်ဝအောင်လုပ်ရမည်ဖြစ်ပါကြောင်း၊ အစိုးရသစ်အနေဖြင့် ပြည်သူအပေါ်တွင် မေတ္တာထားပြီး နိုင်ငံအပေါ်တွင် သစ္စာစောင့်သိပါကြောင်း၊ မြန်မာနိုင်ငံသားများအနေဖြင့် ပြည်ပတွင်နေထိုင်သော်လည်း မိမိတို့သားသမီးများအား မြန်မာ့ယဉ်ကျေးမှုသိရှိအောင်နှင့် မြန်မာစကားကို သင်ကြားပေးထားသင့်ပါကြောင်း၊ မြန်မာနိုင်ငံကိုကူညီချင်လျှင် မြန်မာ့ယဉ်ကျေးမှုကို အခြေခံနားလည်ရမည်ဖြစ်ပါကြောင်း၊ ကိုယ့်ယဉ်ကျေးမှုကိုလေးစားရမည်ဖြစ်ပါကြောင်း ပြောကြားသည်။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ပြည်ထောင်စုငြိမ်းချမ်းရေးဆွေးနွေးမှုကော်မတီ၏ (၁၀)ကြိမ်မြောက် အစည်းအဝေးတွင် ပြောကြားသည့်အမှာစကားမှကောက်နုတ်ချက် (၁၂-၅-၂၀၁၇)

❒ မိမိတို့၏ အောင်မြင်မှုသည် မိမိတို့ နိုင်ငံတစ်ခုတည်း၏ အောင်မြင်မှုမဟုတ်ဘဲ တစ်ကမ္ဘာလုံး၏ ငြိမ်းချမ်းရေးဖြစ်စဉ်များအတွက် အောင်မြင်မှုဟု သတ်မှတ်သည့် ပုဂ္ဂိုလ်များလည်းရှိပါတယ်။ ထို့ကြောင့် မိမိတို့အနေဖြင့် ဒုတိယအကြိမ်ကျင်းပမည့် (၂၁)ရာစု ပင်လုံညီလာခံ၊ ပြည်ထောင်စုငြိမ်းချမ်းရေးညီလာခံကြီးကို အောင်မြင်အောင် လုပ်ဆောင်ရန်အတွက် အားလုံးတွင် တာဝန်ရှိသည်ဟု ယူဆပါတယ်။

❒ "ဒီလိုငြိမ်းချမ်းရေးဖြစ်စဉ်နဲ့ပတ်သက်လို့ အောင်မြင်ခြင်း၊ မအောင်မြင်ခြင်းဟာ နောက်ဆုံးက ဆန္ဒနဲ့ပဲဆိုင်ပါတယ်။ ဆန္ဒကလွဲလို့တခြားမဖြစ်နိုင်စရာအကြောင်းဘာမှမရှိပါဘူး။ အောင်မြင်ခြင်းတရားလေးပါးဆိုတာ ဆန္ဒနဲ့ပဲစတာပါ။ ငြိမ်းချမ်းရေးလိုချင်ရင် ဘယ်လိုနည်းနဲ့မဆို ကျွန်မတို့ရယူလို့ရပါတယ်။ ငြိမ်းချမ်းရေးမလိုချင်ရင်တော့ နည်းအမျိုးမျိုးနဲ့ ငြိမ်းချမ်းရေးကြန့်ကြာအောင် လုပ်တယ်ဆိုတာ ဖြစ်နိုင်ပါတယ်။

❒ ဆန္ဒရှိတာ၊ မရှိတာက နောက်ဆုံးဘယ်သူကဆုံးဖြတ်မလဲဆိုတော့ ပြည်သူလူထုနဲ့ သမိုင်းက ဆုံးဖြတ်မှာဖြစ်ပါတယ်။ ပြည်သူလူထုဆိုတာ ပစ္စုပ္ပန်ကာလပြည်သူမဟုတ်ဘူး။ နောင်လာနောက်သားများ၊ မျိုးဆက်များက ဆုံးဖြတ်မယ်ဆိုတာ သမိုင်းကဆုံးဖြတ်ခြင်းပဲဖြစ်မှာပါ။ ကျွန်မတို့ အားလုံးဟာ အောင်မြင်မှုအတွက်ကို ဝိုင်းဝန်းပြီးတော့ တတ်အားသမျှ စေတနာမှန်မှန်နဲ့ ကြိုးစားသွားကြမယ်။ ပြည်ထောင်စုစိတ်ဓာတ်အပြည့်အဝနဲ့ ကြိုးစားသွားကြမယ်လို့ ကျွန်မအနေနဲ့ မျှော်လင့်ပါတယ်။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ပြည်ထောင်စုငြိမ်းချမ်းရေးညီလာခံ (၂၁)ရာစု ပင်လုံ (ဒုတိယအကြိမ်အစည်းအဝေး) ဖွင့်ပွဲအခမ်းအနားတွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၂၄-၅-၂၀၁၇)

❒ ကျွန်မတို့ရဲ့ ငြိမ်းချမ်းရေးညီလာခံကြီးဟာ အခုဆိုရင် နိုင်ငံအတွက်၊ ပြည်သူအတွက် အရေးကြီးလှတဲ့ ဖက်ဒရယ်ဆိုင်ရာ အခြေခံမူတွေကို ဆွေးနွေးနိုင်တဲ့အဆင့်ကို ရောက်ရှိလာခဲ့ပြီ ဖြစ်ပါတယ်။ အနှစ်နှစ်အလလ မျှော်လင့်ခဲ့ကြတဲ့ သမိုင်းတွင်မယ့်အခါသမယ၊ နိုင်ငံရေးဆွေးနွေးမှုသမိုင်းသစ်ကို ကျွန်မတို့အားလုံးအတူတကွ စတင်ဖွင့်လှစ်ကြတော့မှာ ဖြစ်ပါတယ်။ ဒီကနေ့ ညီလာခံဖွင့်ပွဲအခမ်းအနားမှာ ကျွန်မအနေနဲ့ ပြည်ထောင်စု တစ်ဝန်းက ပြည်သူတွေကို အသိပေးပြောကြားလိုတဲ့ အဓိကရည်မှန်းချက် (၃)ရပ် ရှိပါတယ်။

❒ ပထမဆုံးအချက်ကတော့ ကျွန်မတို့ ဦးတည်လျှောက်လှမ်းနေတဲ့ ပန်းတိုင်ဖြစ်ပါတယ်။ ကျွန်မတို့နိုင်ငံ၊ ကျွန်မတို့သမိုင်းကြောင်းမှာ ရှည်ကြာလှပြီဖြစ်တဲ့ လက်နက်ကိုင်ပဋိပက္ခတွေရဲ့ ဖြေရှင်းချက်ဟာ အားလုံးသဘောတူ လက်ခံနိုင်တဲ့ ဖက်ဒရယ်စနစ်ဖြစ်တယ်ဆိုတာကို အားလုံးနီးပါး လက်ခံထားကြပြီ ဖြစ်ပါတယ်။ နိုင်ငံရေးပြဿနာတွေရဲ့ ဖြေရှင်းချက်ဖြစ်တဲ့ **"ဒီမိုကရေစီနဲ့ ဖက်ဒရယ်စနစ်ကို အခြေခံတဲ့ ဒီမိုကရေစီဖက်ဒရယ် ပြည်ထောင်စုဖြစ်ပေါ်လာရေး"**ဟာ ကျွန်မတို့ရဲ့ ပန်းတိုင်ဖြစ်ပါတယ်။ ဒီပန်းတိုင်ကို အရောက်လှမ်းနိုင်မှာလားဆိုတာကတော့ ဒီကနေ့ ကျွန်မတို့အားလုံးရဲ့ လက်ဝယ်မှာရှိနေပါတယ်။ ဒီတာဝန်ဟာ ကျွန်မတို့အားလုံးရဲ့ ပခုံးထက်မှာ ကျရောက်နေပါပြီ။ ဒါကို ရှောင်လွှဲဖို့၊ ဒါကို ရှောင်ဖယ်ဖို့၊ ဒါကိုနောက်တွန့်ဖို့ ဘယ်သူကမှ ဆန္ဒရှိလိမ့်မယ်လို့ မထင်ပါဘူး။ ငြိမ်းချမ်းရေးအတွက် ကျွန်မတို့ ပေးဆပ်ရတဲ့ စွမ်းအားတွေ၊ ယုံကြည်မှုတွေ၊ အလေးအမြတ်ထားရှိမှုတွေက ဒီနိုင်ငံ၊ ဒီပြည်ထောင်စုနဲ့ ကျွန်မတို့ရဲ့ တိုင်းရင်းသားပြည်သူတွေကို အလင်းရောင်ပေးစွမ်းနိုင်ပါလိမ့်မယ်။ ဒီအလင်းရောင်မှိန်ဖျော့လာမလား။ ဒီအလင်းရောင် ပိုမိုပြီး တောက်ပလာမလားဆိုတာက ကမ္ဘာကြီးမှာ မြန်မာနိုင်ငံရဲ့နေရာကို ပြသလာပါလိမ့်မယ်။

- ဒုတိယအချက်ကတော့ **တစ်နိုင်ငံလုံး ပစ်ခတ်တိုက်ခိုက်မှုရပ်စဲရေးသဘောတူစာချုပ် (Nationwide Ceasefire Agreement-NCA)ကို လက်မှတ်ရေးထိုး**ဖြစ်ပါတယ်။ အခုလို ပြည်ထောင်စုငြိမ်းချမ်းရေးဆွေးနွေးပွဲတွေ ဖြစ်ပေါ်လာအောင်၊ နိုင်ငံရေးဆွေးနွေးပွဲတွေ ပေါ်ပေါက်လာအောင် တစ်နိုင်ငံလုံး ပစ်ခတ်တိုက်ခိုက်မှုရပ်စဲရေးသဘောတူစာချုပ် (Nationwide Ceasefire Agreement-NCA)က တံခါးဖွင့်လှစ်ပေးခဲ့တာ ဖြစ်ပါတယ်။ ဒီတံခါးဖွင့်လှစ်နိုင်စေခဲ့တဲ့ NCA ဟာလည်း တိုင်းရင်းသားတွေနဲ့ ညှိနှိုင်းပြီးထွက်ပေါ်လာခဲ့တာဖြစ်ပါတယ်။ သမိုင်းတစ်လျှောက်ပြန်ကြည့်ရင် အပစ်ရပ်သဘောတူစာချုပ်တွေ အသီးသီးချုပ်ဆိုခဲ့ကြပေမယ့် အပစ်ရပ်လုပ်ငန်းစဉ်ခိုင်မာရေး၊ အပစ်ရပ်ပြီးတဲ့နောက် နိုင်ငံရေးဆွေးနွေးမှုလုပ်ငန်းစဉ် ဖြစ်မြောက်ရေးတို့အတွက် အာမခံချက်တွေ မရှိခဲ့ပါဘူး။ ဒီအာမခံချက်(၂)ရပ်ကို ရရှိစေဖို့ နှစ်ဦးနှစ်ဖက် ကတိကဝတ်ပြုကြမယ့် သဘောတူစာချုပ်တစ်ရပ် ရှိဖို့လိုတယ်ဆိုတဲ့ အယူအဆနဲ့ NCA ဆိုတာ ဖြစ်ပေါ်လာခဲ့တာ ဖြစ်ပါတယ်။ NCA ကို ဆွေးနွေးညှိနှိုင်းခဲ့စဉ်က ကျွန်မတို့ ပါဝင်ခဲ့ခြင်းမရှိခဲ့ပေမယ့် အစိုးရတစ်ရပ်ရဲ့ တာဝန်သိမှု၊ တာဝန်ယူမှုအပြည့်အဝနဲ့ လက်ခံရယူပြီး ငြိမ်းချမ်းရေးဖြစ်စဉ်မှာ ပါဝင်နေတဲ့ ပုဂ္ဂိုလ်၊ အဖွဲ့အစည်းအသီးသီးနဲ့ ဆွေးနွေးညှိနှိုင်းတိုင်ပင်ပြီးတော့ ဒီလမ်းကြောင်းကို လျှောက်လှမ်းခဲ့ရတာဖြစ်ပါတယ်။
- တတိယအချက်ကတော့ ကျွန်မတို့ လက်ခံကျင့်သုံးနေတဲ့ ညှိနှိုင်းဆောင်ရွက်ရေးမှုဖြစ်ပါတယ်။ ကျွန်မတို့ဟာ ၂၀၁၅ အထွေထွေရွေးကောက်ပွဲကနေ လူထုက ရွေးချယ်တင်မြှောက်လိုက်တဲ့ အစိုးရဖြစ်ပါတယ်။ အမျိုးသားရင်ကြားစေ့ရေးကို အခြေခံပြီး ကျွန်မတို့အနေနဲ့ နိုင်ငံတော်ရဲ့ရှေ့ခရီးအတွက် လျှောက်လှမ်းရာမှာ အားလုံးနဲ့ညှိနှိုင်းဆွေးနွေးပြီးမှ ခြေလှမ်းတွေလှမ်းနေတာဖြစ်ပါတယ်။ ပေါ်ပင်အများကြိုက်မယ့်နည်းတွေရှာပြီး ဖိအားပေးတာမျိုး၊ နိုင်ငံရေးအရ အကျပ်ကိုင်တာမျိုး ကျွန်မတို့အနေနဲ့ နိုင်ငံတော်ရဲ့ ရှေ့ခရီးအတွက်ဖြစ်ပါတယ်။ ပေါ်ပင်အများကြိုက်မယ့်နည်းတွေရှာပြီး ဖိအားပေးတာမျိုး၊ နိုင်ငံရေးအရ အကျပ်ကိုင်တာမျိုး ကျွန်မတို့လုပ်မှာမဟုတ်ပါဘူး။ အားလုံးနဲ့ ပွင့်ပွင့်လင်းလင်းဆွေးနွေးညှိနှိုင်းပြီး အားလုံးလက်ခံနိုင်တဲ့ သဘောထားကွဲလွဲမှုတွေမှ ဘုံသဘောတူညီချက်တွေ ထွက်ပေါ်လာအောင် ညှိနှိုင်းဆွေးနွေးကြရာမှာ ယဉ်ကျေးတာဟာ ပျော့ညံ့တာမဟုတ်ပါဘူး။ ညှိနှိုင်းတာဟာ အလျှော့ပေးတာမဟုတ်ပါဘူး။ ရိုးသားတည်ကြည်မှုနဲ့ ယုံကြည်မှုကို အားလုံးကသတိတရား

အသိတရားနဲ့ ဆင်ခြင်ကျင့်သုံးကြဖို့ လိုအပ်ပါတယ်။ ဘယ်သူနဲ့မဆို စေ့စပ်ညှိနှိုင်းဆွေးနွေးဖို့ စိုးရိမ်စရာမလိုအပ်ပါဘူး။ ကွဲပြားမှုတွေပိုပြီး ကြီးမားလာစေနိုင်တဲ့ ပြဿနာတွေကို အာရုံစိုက်မနေကြဘဲ ကျွန်မတို့အချင်းချင်း ပေါင်းစည်းမှုတွေ ပိုပြီးခိုင်မာလာစေနိုင်တဲ့ အဆိုပြုချက်တွေကို ရှာဖွေဖော်ထုတ်ကြရမှာ ဖြစ်ပါတယ်။ ဆွေးနွေးညှိနှိုင်းမှုတွေဟာ နားလည်မှု၊ ရင်းနှီးမှုတွေကို တိုးပွားလာစေပြီး စာနာနားလည်မှု၊ မျှဝေခံစားမှုတွေကို ဖြစ်ပေါ်လာစေနိုင်ပါတယ်။ အဝေးကနေ စကားလုံးတွေ၊ ပြောကြားချက်တွေကို နားထောင်အနက်ကောက်ပြီး သုံးသပ်နေတာထက် မျက်နှာချင်းဆိုင်တွေ့ဆုံပြီး ဆွေးနွေးညှိနှိုင်းကြတာက တူညီတဲ့ သဘောထားတွေကို ဖော်ထုတ်နိုင်စေမှာ ဖြစ်ပါတယ်။ အခုလို ဖက်ဒရယ်ဆိုင်ရာအခြေခံမှုတွေကို ဖော်ထုတ်နိုင်အောင် ကျွန်မတို့အစိုးရ၊ တပ်မတော်၊ တိုင်းရင်းသားလက်နက်ကိုင်အဖွဲ့အစည်းတွေ၊ နိုင်ငံရေးပါတီတွေဟာ အချိန်ပေးပြီး စိတ်ရှည်လက်ရှည် ညှိနှိုင်းခဲ့ရတာ ဖြစ်ပါတယ်။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ပြည်ထောင်စုငြိမ်းချမ်းရေးညီလာခံ (၂၁)ရာစုပင်လုံ (ဒုတိယအစည်းအဝေး) ပြည်ထောင်စုသဘောတူစာချုပ်အစိတ်အပိုင်း (၁) လက်မှတ်ရေးထိုးပွဲ အခမ်းအနားတွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၂၉-၅-၂၀၁၇)

❒ သဘောထားကွဲလွဲမှုတွေ၊ ရှုမြင်ချက်ကွာခြားမှုတွေ အမျိုးမျိုးရှိခဲ့ကြပေမယ့်လည်း ဘုံတူညီတဲ့သဘောထားအမြင်တွေဖြစ်လာအောင် ဆွေးနွေးငြင်းခုန်ညှိနှိုင်းခဲ့ကြတာဟာ အင်မတန်မှ အားတက်ဖွယ်ရာ ကောင်းလှပါတယ်။ တွေ့ဆုံဆွေးနွေးခြင်းမှတစ်ဆင့် အနာဂတ်မျိုးဆက်သစ်တွေအတွက် အရေးကြီးလှတဲ့ ဒီမိုကရေစီဖက်ဒရယ်အခြေခံအုတ်မြစ် တည်ဆောက်တဲ့လုပ်ငန်းစဉ်ကို စတင်နိုင်ခဲ့တာဖြစ်တဲ့အတွက်လည်း ဂုဏ်ယူဖွယ်ရာကောင်းလှပါတယ်။ တိုင်းရင်းသားပြည်သူတွေ နှစ်ပေါင်းများစွာ မျှော်လင့်ခဲ့ရတဲ့ ငြိမ်းချမ်းရေးအိပ်မက်ဟာ ပထမဦးဆုံးအနေနဲ့ ကောက်ကြောင်းတွေ စတင်ရေးဆွဲနိုင်ခဲ့ပါပြီလို့ ပြောနိုင်ပါတယ်။

❒ မတူကွဲပြားမှုတွေကြားကနေ စည်းလုံးညီညွတ်မှု ဘယ်လိုရယူနိုင်မလဲဆိုတာကို စပြီး သင်ယူနိုင်ခဲ့ကြပါတယ်။ တာတိုခရီးတွေမှာ ခွန်အားကြီးသူတွေက သာလွန်တတ်ကြပေမယ့် တာဝေးခရီးတွေမှာ စိတ်ဓာတ်ခိုင်မာသူတွေက အဓိကအောင်ပွဲဆင်လေ့ရှိကြပါတယ်။ ရှေ့ဆက်လျှောက်လှမ်းရဦးမယ့် ငြိမ်းချမ်းရေးခရီးရှည်ကြီးမှာ ကျွန်မတို့အားလုံးအတွက် ဒီစိတ်ဓာတ်ဟာ ခွန်အားဖြစ်လာပါလိမ့်မယ်။ ဒီညီလာခံကြီးမှ ကျွန်မတို့ရခဲ့တဲ့ အတွေ့အကြုံတွေက ငြိမ်းချမ်းရေးဖြစ်စဉ်အပေါ် မှာ ရှိနေကြတဲ့သံသယစိတ်တွေကို ဖယ်ရှားပေးနိုင်မယ့် စုစည်းညီညွတ်မှုရရှိရေးဘက်ကို ပို့ဆောင်ပေးနိုင်လိမ့်မယ်လို့ ယုံကြည်ထားပါတယ်။ ကျွန်မတို့အားလုံးမှာ အတိတ်ရဲ့ ဒဏ်ရာဒဏ်ချက်တွေ ကိုယ်စီကိုယ်စီရှိကြပါတယ်။ ဒါပေမယ့် ဒီကနေ့မှာတော့ ကျွန်မတို့အားလုံးဟာ ဒီဒဏ်ရာဒဏ်ချက်တွေကို နောင်လာမယ့် မျိုးဆက်သစ်တွေဆီ လက်ဆင့်ကမ်းလိုခြင်း မရှိတော့ဘဲ ကုစားနိုင်မယ့် နည်းလမ်းကို ရှာဖွေမှုစတင်ခဲ့ပါပြီ။ ကွဲလွဲမှုတွေအကြားက တူညီမှုတွေရှာဖွေ နိုင်ဖို့ဆိုတာ အမှန်တကယ်မှာတော့ မလွယ်ကူလှပါဘူး။ ကျွန်မတို့ နိုင်ငံလို လက်နက်ကိုင်ပဋိပက္ခတွေ နှစ်ပေါင်း

(၇၀)နီးပါး ကြာရှည်ခဲ့ပြီဖြစ်တဲ့ နိုင်ငံမှာ ပိုမိုပြီး ခက်ခဲနေခဲ့တယ်ဆိုတာ အားလုံးအသိပဲ ဖြစ်ပါတယ်။

❒ ငြိမ်းချမ်းရေးခရီးလမ်းမှာ ရှေ့ကိုမျှော် အနာဂတ်ကို အာရုံပြုလို့ သွက်သွက်လက်လက် ဆက်လက်လျှောက်လှမ်းကြဖို့ တိုက်တွန်းချင်ပါတယ်။ ပြည်ထောင်စုသဘောတူညီချက်ရဲ့ အစိတ်အပိုင်းလို့ ဆိုရမယ့်သဘောတူညီချက်တွေကို ဒီကနေ့ လက်မှတ်ရေးထိုးနိုင်တဲ့ဖြစ်စဉ်ကို စဉ်းစားလိုက်ရင် အတွေးတွေဆက်ပြီးတော့ ပေါ်လာပါတယ်။ ဒီပြည်တွင်းစစ်ကို ကျွန်မတို့ စတင်ခဲ့ကြတာ မဟုတ်ပေမယ့်လည်း အဆုံးသတ်နိုင်အောင် ကြိုးစားနေကြတာ ဘယ်သူတွေအတွက်လဲ။ ပြည်တွင်းစစ်မှာ အတိဒုက္ခရောက်နေကြရတဲ့၊ ကိုယ်ရောစိတ်ပါ လုံခြုံအေးချမ်းစွာနေချင်တဲ့ ပြည်သူတွေအတွက်ပဲဖြစ်ပါတယ်။ ကျွန်မတို့ ပြည်သူပြည်သားများရဲ့ စိတ်ချမ်းသာမှုအတွက် ရှေ့ကိုဆက်ပြီး လျှောက်လှမ်းကြရဦးမှာ ဖြစ်ပါတယ်။ အာဃာတတွေ၊ နာကျည်းချက်တွေ၊ အနာတရတွေကိုပဲ အာရုံထားနေမယ်ဆိုရင် ခြေထောက်မှာသံလုံးဆွဲပြီး လမ်းလျှောက်တဲ့သူလို ဖြစ်နေမှာပါ။ ကျွန်မတို့ရဲ့ ခြေလှမ်းတွေကို နှေးကွေးလေးလံယိုင်နဲ့စေမယ့် အဲဒီအာဃာတတရားတွေကို စွန့်ပစ်နိုင်မှသာ ကျွန်မတို့အနေနဲ့ သွက်သွက်လက်လက် အားမာန်အပြည့်နဲ့ ရှေ့ကိုလျှောက်လှမ်းနိုင်မှာ ဖြစ်ပါတယ်။

❒ နိုင်ငံတည်ဆောက်ခြင်းဟာ အဆုံးမရှိတဲ့ လုပ်ငန်းစဉ်ပါ။ တစ်ဆင့်ပြီးမြောက်တာနဲ့ နောက်တစ်ဆင့်ကို စရပါတယ်။ ဒီပြည်ထောင်စုငြိမ်းချမ်းရေးညီလာခံ (၂၁)ရာစုပင်လုံဒုတိယအကြိမ်အစည်းအဝေးကနေ ကျွန်မတို့ရဲ့ ငြိမ်းချမ်းရေးရှာပုံတော်လမ်းကြောင်းမှာ နောက်တစ်လှမ်း လှမ်းခဲ့ပါပြီ။ ဒီအစည်းအဝေးပြီးဆုံးခြင်းက ငြိမ်းချမ်းတဲ့ ဖက်ဒရယ်ပြည်ထောင်စုဆီသို့ ဦးတည်တဲ့ နောက်ခြေတစ်လှမ်းရဲ့အစကို သတ်မှတ်လိုက်ခြင်းပဲ ဖြစ်ပါတယ်။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ဘင်းမ်စတက်အဖွဲ့တည်ထောင်ခြင်း နှစ် (၂၀)ပြည့် အထိမ်းအမှတ် ပေးပို့သော သဝဏ်လွှာမှ ကောက်နုတ်ချက်

## (၆-၆-၂၀၁၇)

- ဘင်းမ်စတက်အဖွဲ့၏ အမည်နာမတွင်ပင် အဖွဲ့၏ ဦးစားပေးဆောင်ရွက်သည့် ကဏ္ဍများကို ရှင်းလင်းစွာ ဖော်ပြထားပြီးဖြစ်ပါကြောင်း၊ ဘင်းမ်စတက်အဖွဲ့သည် ကနဦးတွင် ပူးပေါင်းဆောင်ရွက်မှု တိုးမြှင့်ရေးအတွက် စတင်ခဲ့ပါကြောင်း၊ လက်ရှိအချိန်တွင် ဘင်းမ်စတက်အဖွဲ့သည် ပေါင်းစည်းနိုင်ရေးအတွက် ကြိုးပမ်းဆောင်ရွက်လျက်ရှိပြီး အရှိန်အဟုန်ကောင်းများလည်း ရရှိလျက်ရှိပါကြောင်း၊ လူဦးရေ ၁ ဒသမ ၅ ဘီလီယံခန့် နေထိုင်သော ဈေးကွက်ကြီးနှင့်အတူ စုစုပေါင်း အသားတင်ကုန်ထုတ်လုပ်မှုတန်ဖိုး(GDP) အမေရိကန်ဒေါ်လာ ၂ ဒသမ ၅ ထရီလီယံအထိရှိသော ဘင်းမ်စတက်အဖွဲ့သည် ဒေသတွင်းစီးပွားရေးနှင့် လူမှုဖွံ့ဖြိုးတိုးတက်မှုအတွက် အလွန်ကြီးမားသည့် အလားအလာကောင်းများရှိပါကြောင်း။
- ဘင်းမ်စတက်အဖွဲ့အား စတင်တည်ထောင်ဖွဲ့စည်းခဲ့သော လွန်ခဲ့သည့် နှစ်ပေါင်း ၂၀ ကတည်းက ရရှိခဲ့သည့် အောင်မြင်တိုးတက်မှုများကြောင့် ဘင်းမ်စတက်အဖွဲ့ကြီးအား ချီးကျူးဂုဏ်ပြုထိုက်ပါကြောင်း၊ မိမိတို့အနေဖြင့် ဘင်းမ်စတက်အဖွဲ့၏ ငြိမ်းချမ်း၍ တိုးတက်ကြွယ်ဝသော ရည်မှန်းချက်ပန်းတိုင်သို့ ရောက်ရှိရန်အတွက် ဘင်းမ်စတက်အဖွဲ့ဝင် ပြည်သူများနှင့် အစိုးရများက ဆောင်ရွက်ရမည့်ကိစ္စများ များစွာကျန်ရှိနေသေးသည်ကိုလည်း သတိပြုမိပါကြောင်း၊ မိမိအနေဖြင့် မိမိတို့ကြုံတွေ့ရမည့် အဆိုပါစိန်ခေါ်မှုများကို အတူတကွ ကျော်လွှားနိုင်မည်ဟု ယုံကြည်ပါကြောင်း။
- အရှေ့တောင်အာရှနှင့် တောင်အာရှအကြား ကုန်းတွင်းသဖွယ် တည်ရှိနေသော ပထဝီအနေအထားကို ပိုင်ဆိုင်ထားသည့် မြန်မာနိုင်ငံအနေဖြင့် ဘင်းမ်စတက်ပြည်သူများ၏ မျှော်လင့်ရည်မှန်းချက်များကို ပြည့်ဝစေရန်နှင့် အဖွဲ့ကြီး၏ ရည်ရွယ်ချက်များကို ဖြည့်ဆည်းနိုင်ရန် ဒေသဆိုင်ရာ ပေါင်းစည်းမှုလုပ်ငန်းစဉ်တွင် ဆက်လက်၍ တက်ကြွစွာ ပါဝင်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ကနေဒါနိုင်ငံ တိုရွန်တိုမြို့တွင် နေထိုင်ကြသည့် မြန်မာအသိုက်အဝန်းနှင့် တွေ့ဆုံစဉ် ပြောကြားသောမိန့်ခွန်းမှ ကောက်နုတ်ချက် (၉-၆-၂၀၁၇)

- ❒ တချို့က ကျွန်မတို့ရဲ့ ငြိမ်းချမ်းရေးဖြစ်စဉ်ဟာ ငြိမ်းချမ်းရေးအတွက် ကြိုးပမ်းမှုတွေဟာ အခုထက်ထိ တိုးတက်မှုမရှိဘူးလို့ ဆိုတယ်။ တိုးတက်မှုရှိတယ်၊ တစ်ခါတလေမှာလည်း ဆုတ်ယုတ်မှုရှိကြောင်း၊ ရှေ့တိုးရင်း၊ နောက်ဆုတ်ရင်းနဲ့ လိုချင်တဲ့ပန်းတိုင်ကိုရောက်အောင် သွားရမှာဖြစ်ကြောင်း၊ တခြားနိုင်ငံတွေရဲ့ ငြိမ်းချမ်းရေးဖြစ်စဉ်တွေကိုကြည့်လိုက်ရင် ဒီလိုပဲဆိုတာ မြင်ရပါကြောင်း၊ တချို့နိုင်ငံတွေမှာ ဆယ်စုနှစ်ပေါင်းများစွာမက ရာစုနှစ်နဲ့ချီပြီးတောင် ငြိမ်းချမ်းရေးအတွက်၊ အမျိုးသားပြန်လည်ရင်ကြားစေ့ရေးအတွက် ကြိုးပမ်းခဲ့ကြရပါကြောင်း၊ ကျွန်မတို့နိုင်ငံဟာလည်း ဒီအတိုင်းပဲ ကြိုးပမ်းသွားရမှာဖြစ်ပါကြောင်း။
- ❒ သံရုံးတွေအနေနဲ့ နိုင်ငံတစ်နိုင်ငံမှာ ကျွန်မတို့နိုင်ငံက လာရောက်ပြီး အခြေချတဲ့ ပြည်သူပြည်သားတွေ ဘယ်လောက်ရှိသလဲ၊ ဘယ်မှာရှိသလဲဆိုတာ သိနိုင် မှာမဟုတ်ပါကြောင်း၊ ကာယကံရှင်တွေက ဆက်သွယ်မှ ဆက်သွယ်မှုရမှာဖြစ်ပါကြောင်း၊ သိတဲ့သူတွေတော့ ရှိကြောင်း၊ မြန်မာနိုင်ငံကူးလက်မှတ်နဲ့ လာတဲ့သူတွေကျတော့ သိကြောင်း၊ သံရုံးကလည်း ဆက်သွယ်လို့ရကြောင်း၊ တချို့တွေက သံရုံးကလည်း ရှိမှန်းလည်းမသိပါကြောင်း၊ ဒါကြောင့် ရဲရဲဝံ့ဝံ့နဲ့ ဆက်သွယ်ကြစေလိုကြောင်း၊ ကျွန်မတို့သံရုံးက နွေးနွေးထွေးထွေးနဲ့ ကြိုဆိုမှာဖြစ်ပါကြောင်း။
- ❒ နောက်တစ်ခုက အမျိုးသားရင်ကြားစေ့ရေးနဲ့ ငြိမ်းချမ်းရေးဖြစ်စဉ်အကြောင်း အနည်းငယ်ပြောချင်ပါကြောင်း၊ ဘာဖြစ်လို့လဲဆိုတော့ ကျွန်မတို့နိုင်ငံအတွက် အကြီးဆုံးစိန်ခေါ်မှုတစ်ခုဖြစ်ပါကြောင်း၊ ကျွန်မတို့နိုင်ငံဟာ လွတ်လပ်ရေးရခဲ့တဲ့ နှစ်ပေါင်း ၇၀ နီးပါးအတွင်းမှာ လုံးဝငြိမ်းချမ်းတယ်ဆိုတဲ့ကာလ တစ်ခါမှ မရှိခဲ့ပါကြောင်း၊ လွတ်လပ်ရေးရတဲ့နေ့ ၁၉၄၈ ခုနှစ်၊ ဇန်နဝါရီလ ၄ ရက်နေ့ မှာပဲ စပြီးတော့ ပြည်တွင်းစစ်က စခဲ့တာဖြစ်ပါကြောင်း၊ ဒီပြည်တွင်းစစ်ဟာ အခုလုံးဝ ရပ်စဲသေးတယ်ဆိုတာ မရှိပါကြောင်း၊ ရပ်စဲအောင်လုပ်ဖို့ဆိုတာ အင်မတန်မှ ရှုန်းကန်ယူရမယ့်ကိစ္စဖြစ်ကြောင်း၊ ငြိမ်းချမ်းရေးဖြစ်စဉ်ဆိုတာ

လမ်းဖြောင့်ဖြောင့်ကြီးကို လျှောက်သွားသလို မဟုတ်ပါကြောင်း၊ အမှန်ပြောမယ်ဆိုရင် လမ်းဖောက်သွားရတာဟာ တောကြီးထဲမှာ လမ်းကြီးကို ဖောက်သွားရသလိုဖြစ်ကြောင်း၊ တောထဲက လမ်းတွေကို ကျွန်မတို့ ဖောက်ရမယ်၊ လမ်းကိုခင်းရမယ်၊ ချက်ချင်းခင်းတဲ့အခါ မြေကြီးလမ်းပဲဖြစ်ပေမယ့် တဖြည်းဖြည်းနဲ့ ရာသီစုံလမ်းဖြစ်အောင် လုပ်ရမည်ဖြစ်ကြောင်း၊ ရာသီစုံလမ်းဆိုတာ ခိုင်မာအောင်လုပ်ခြင်းဖြစ်ကြောင်း။

- အားလုံးမှာ ရွေးချယ်ပိုင်ခွင့်ရှိပါကြောင်း၊ ဒါက ဘာလဲဆိုတော့ နိုင်ငံအတွင်းမှာ ဖြစ်နေတဲ့ ကိစ္စတွေနဲ့ပတ်သက်လို့ တစ်ယောက်နဲ့တစ်ယောက်အကြားမှာ ပိုပြီး သဘောထားကွဲလွဲစေမယ့် အရာတွေကို အားပေးမှာလား၊ အားလုံးပိုစုစည်းနိုင်မယ့်အရာတွေကို ပြုစုပျိုးထောင်သွားမှာလား။ ဒါက လူတိုင်း တစ်ယောက်နဲ့တစ်ယောက် ဆုံးဖြတ်ပိုင်ခွင့်ရှိပါကြောင်း၊ ဒါက မြန်မာနိုင်ငံမှာ နေပြီးတော့ ငြိမ်းချမ်းရေးဖြစ်စဉ်ထဲမှာ ပါဝင်နေတဲ့သူတွေတင်မဟုတ်ပါကြောင်း၊ အခြားနိုင်ငံတွေမှာ ပြန့်ကျဲနေတဲ့ ပြည်သူပြည်သားတွေ၊ နိုင်ငံသားတွေမဟုတ်သော်လည်း နိုင်ငံကနေထွက်လာတဲ့ ပြည်သူပြည်သားတွေကို ပြောတာဖြစ်ပါကြောင်း၊ ကျွန်မတို့ပြည်သူပြည်သားတွေအနေနဲ့ ဆုံးဖြတ်လို့ရပါကြောင်း၊ နိစ္စဓူဝ ငြိမ်းချမ်းရေးဖြစ်စဉ်အတွက် စုစည်းမှုကို အားပေးမလား၊ ဒါမှမဟုတ် ပိုပြီးကွဲပြားစေတဲ့ စိတ်ဓာတ်တွေကို အားပေးမလားဆိုတာ တစ်ဦးချင်းတစ်ဦးချင်းက ဆုံးဖြတ်ပြီးတော့ ကူညီလို့ရပါကြောင်း၊ နိုင်ငံအတွင်းမှာ တိုင်းရင်းသားလူမျိုးများ မျိုးစုံရှိတာတွေ မကသေးဘဲ ကိုးကွယ်တဲ့ ဘာသာတွေလည်း မျိုးစုံရှိပါကြောင်း၊ ကိုးကွယ်တဲ့ဘာသာတွေမျိုးစုံရှိတာကို အားလုံးကြားထဲမှာ သဟဇာတရှိအောင်၊ အေးအေးချမ်းချမ်းရှိအောင်လို့ ဒါက နိုင်ငံတစ်နိုင်ငံမှာ ဒီဟာကို ကြိုးစားရမှာဖြစ်ပါကြောင်း။
- နိုင်ငံတစ်နိုင်ငံအတွင်းမှာ အားလုံးညီညီညွတ်ညွတ်နဲ့နေနိုင်မှ ဒီနိုင်ငံဟာ တကယ်ကို ရေရှည်မှာ တိုးတက်နိုင်မှာဖြစ်ပါကြောင်း၊ အားလုံး တစ်ဦးပေါ်တစ်ဦး သဘောထားကြီးကြီးနဲ့ မြင်နိုင်ရမည်ဖြစ်ပြီး အပြန်အလှန် ယုံကြည်မှုတွေ တည်ဆောက်ရမည်ဖြစ်ပါကြောင်း၊ အပြန်အလှန်ယုံကြည်မှု တည်ဆောက်ဖို့ဆိုတာ လွယ်တဲ့ ကိစ္စမဟုတ်ပါကြောင်း၊ ကျွန်မတို့ရဲ့ အမျိုးသား ဒီမိုကရေစီအဖွဲ့ချုပ်ဆိုရင် နှစ် ၃၀ နီးပါး အတိုက်အခံပါတီအနေနဲ့ ရပ်တည်ခဲ့ပါကြောင်း၊ ပြောရမယ်ဆိုရင် အရင်တုန်းက အစိုးရဖြစ်တဲ့ ပုဂ္ဂိုလ်တွေနဲ့ အတိုက်အခံဖြစ်ကြောင်း၊ အဲဒီထဲမှာဆိုရင် အစိုးရဝန်ထမ်းတွေနဲ့လည်း အတိုက်အခံလို့ ပြောရ

မှာဖြစ်ကြောင်း၊ ဒါပေမယ့် အခုတော့ ဒီဝန်ထမ်းတွေနဲ့ပဲ ကျွန်မတို့ အလုပ်လုပ်နေရပြီး ကျွန်မတို့နိုင်ငံကို ကောင်းစေချင်တာဖြစ်ကြောင်း၊ ဒီလိုစပြီး ကျွန်မတို့က ယုံကြည်ချက်နဲ့ ကျွန်မတို့လုပ်ပါကြောင်း၊ တချို့က ဒီလိုယုံကြည်လို့မရဘူး။ သူတို့စိတ်ဓာတ် ဒီလိုမဟုတ်ဘူးလို့ပြောကြောင်း၊ ဒါက သူတို့စိတ်ဓာတ်နဲ့ပဲဆိုင်ကြောင်း၊ ကျွန်မတို့ရဲ့ ယုံကြည်ချက်ကတော့ အခြေခံအားဖြင့် ကျွန်မတို့ နိုင်ငံသူနိုင်ငံသားအချင်းချင်းမို့ ညီညီညွတ်ညွတ်နဲ့ အေးအေးချမ်းချမ်း နေနိုင်တဲ့အခြေအနေကို ရောက်နိုင်တယ်လို့ ယုံကြည်ချက်နဲ့ ဒီမိုကရေစီလှုပ်ရှားမှုတွေကို ဝင်ခဲ့တာဖြစ်ပါကြောင်း၊ အစကတည်းက ဒီယုံကြည်ချက်မရှိရင် ဝင်ခဲ့စရာအကြောင်း မရှိပါကြောင်း၊ ဒီမိုကရေစီဆိုတာ အခြေခံအားဖြင့် သဘောမတူရင်တောင်မှ မတူတဲ့သဘောထားတွေကို အေးအေးဆေးဆေး၊ တည်တည်ငြိမ်ငြိမ်နဲ့ နိုင်ငံရဲ့အကျိုးကိုကြည့်ပြီး ဖြေရှင်းနိုင်ရမယ်။ ဒါကို ဦးတည်တာဖြစ်ပါကြောင်း။

# နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် ဆွီဒင်နိုင်ငံ စတော့ဟုမ်းမြို့ ဆွီဒင်လွှတ်တော်၌ လွှတ်တော်ကိုယ်စားလှယ်များအား ပြောကြားသောမိန့်ခွန်းမှ ကောက်နုတ်ချက် (၁၄-၆-၂၀၁၇)

- ၂၀၁၆ ခုနှစ်၊ မတ်လမှာ ကျွန်မတို့အစိုးရအနေနဲ့ နိုင်ငံတော်တာဝန်ယူပြီး နောက်ပိုင်း အမျိုးသားပြန်လည်သင့်မြတ်ရေးနဲ့ ငြိမ်းချမ်းရေးကို အကောင်အထည်ဖော်နေရင်းနဲ့ စဉ်ဆက်မပြတ် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကိုပါ ဆောင်ရွက်လျက်ရှိပါကြောင်း၊ ဒီမိုကရေစီ မရင့်ကျက်သေးတဲ့အပြင် လူမျိုးပေါင်းစုံနေထိုင်တဲ့ မြန်မာနိုင်ငံအတွင်း လုပ်ဆောင်ရတဲ့ ငြိမ်းချမ်းရေးလုပ်ငန်းစဉ်ဟာ ရှုပ်ထွေးပြီး စိန်ခေါ်မှုများစွာနဲ့ ပြည့်နှက်နေပါကြောင်း။
- အမြစ်တွယ်ခဲ့ပြီဖြစ်တဲ့ ပဋိပက္ခတွေကိုဖြေရှင်းရာမှာ အပြန်အလှန် ယုံကြည်မှုနဲ့ လေးစားမှုကို မဖြစ်မနေ တည်ဆောက်ရမှာဖြစ်ပါကြောင်း၊ ကျွန်မတို့အစိုးရ ရည်မှန်းချက်က ပြည်သူတွေအားလုံး လုံခြုံမှု၊ လွတ်လပ်မှုနဲ့ ဖွံ့ဖြိုးတိုးတက်မှုကို အာမခံချက်ပေးနိုင်မယ့် တည်ငြိမ်တဲ့ ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စုကို ဖော်ဆောင်ဖို့ပဲဖြစ်ပါကြောင်း။
- ပြည်ထောင်စုငြိမ်းချမ်းရေးညီလာခံ ၂၁ ရာစု ပင်လုံ(ပထမအစည်းအဝေး)ကို ၂၀၁၆ ခုနှစ် ဩဂုတ်လမှာ ကျင်းပခဲ့ပြီး လွန်ခဲ့တဲ့သီတင်းသုံးပတ်အတွင်းက ပြည်ထောင်စုငြိမ်းချမ်းရေးညီလာခံ ၂၁ ရာစုပင်လုံ(ဒုတိယအစည်းအဝေး)ကို အောင်မြင်စွာ ကျင်းပနိုင်ခဲ့ပါကြောင်း။
- ဒီမိုကရေစီဖော်ဆောင်တဲ့နှစ်များအတွင်း မြန်မာနိုင်ငံမှာ "ဒီမိုကရေစီဘယ်တော့ရမှာလဲ"လို့ မကြာခဏ အမေးခံခဲ့ရပါကြောင်း၊ ကျွန်မရဲ့အဖြေကတော့ "ဒီမိုကရေစီရရှိဖို့ ရှင်တို့ဘယ်လောက်ကြိုးစားခဲ့သလဲဆိုတာ ကိုယ့်ကိုယ်ကိုယ်ပြန်မေးပါ။ ရှင်တို့ ပိုကြိုးစားလေ၊ ဒီမိုကရေစီရဖို့ ပိုမြန်လေ"လို့ ကျွန်မပြန်ဖြေခဲ့ပါကြောင်း၊ အခုလည်းပဲ "ငြိမ်းချမ်းရေးဘယ်တော့ရမလဲ"လို့ ကျွန်မကိုမေးလာကြတဲ့အခါ "ငြိမ်းချမ်းရေးရရှိဖို့ ရှင်တို့ဘယ်လောက်ကြိုးပမ်းခဲ့သလဲဆိုတာ ကိုယ့်ကိုယ်ကိုယ်ပြန်မေးကြည့်ဖို့ လိုကြောင်း၊ ကိုယ့်ကိုယ်ကိုယ် အဖြေရလာပါလိမ့်မယ်"လို့ ကျွန်မပြန်ဖြေခဲ့ပါကြောင်း။

❒ အချို့သောသူများ မေးလေ့ရှိတာက "ငြိမ်းချမ်းရေးနဲ့ သဟဇာတဖြစ်ရေးမှာ ကျွန်တော်တို့ ဘာလုပ်ဆောင်ပေးနိုင်မလဲ"ဆိုတဲ့ မေးခွန်းပါ။ အဲဒီမေးခွန်း မေးတဲ့သူတွေကို ကျွန်မ အလွန်ကျေးဇူးတင်ပါကြောင်း၊ ကျွန်မတို့အစိုးရ လက်ထက်မှာ ငြိမ်းချမ်းရေးဖော်ဆောင်နိုင်မယ်လို့ သူတို့ယုံကြည်တာဟာ ကျွန်မတို့အတွက် အားတစ်ရပ်ဖြစ်ပါကြောင်း။ စည်းစည်းလုံးလုံးနဲ့ လက်တွဲ လုပ်ဆောင်မယ်ဆိုရင် ကျွန်မတို့ရဲ့ ရည်မှန်းချက်ကို အမှန်တကယ် အကောင် အထည်ဖော်နိုင်လိမ့်မယ်လို့ ကျွန်မပြောချင်ပါကြောင်း။

# နိုင်ငံတော်၏ စီးပွားရေးမူဝါဒ

## နိုင်ငံတော်၏ စီးပွားရေးမူဝါဒမျှော်မှန်းချက်

နိုင်ငံတော်၏ စီးပွားရေးမူဝါဒသည် ပြည်သူကို ဗဟိုပြု၍ အားလုံးပါဝင်နိုင်သော အစဉ်အဆက်မပြတ် တိုးတက်မှုရရှိစေရန် ရည်ရွယ်ပါသည်။ အမျိုးသားပြန်လည်သင့်မြတ်ရေးကို အထောက်အကူရရှိစေရန် ဦးတည်၍ သဘာဝသယံဇာတအရင်းအမြစ်များကို ရေရှည်ထိန်းသိမ်းလျက် တိုင်းဒေသကြီးနှင့် ပြည်နယ်များအကြား မျှတမှန်ကန်စွာ ခွဲဝေအသုံးချနိုင်မည့် စီးပွားရေးမူဘောင် ချမှတ်ဆောင်ရွက်ရန် မျှော်မှန်းပါသည်။

## နိုင်ငံတော်၏ ရည်မှန်းချက်များ

၁။ အမျိုးသားပြန်လည်သင့်မြတ်ရေးကို ဦးတည်ပြီး စည်းလုံးညီညွတ်သော ဖက်ဒရယ်ဒီမိုကရက်တစ် ပြည်ထောင်စုကြီး ဖြစ်တည်လာစေရေးကို အထောက်အပံ့ဖြစ်စေသည့် မူဝါဒအဖြစ် ကျင့်သုံးရန်၊

၂။ တိုင်းဒေသကြီးနှင့် ပြည်နယ်များအကြား ဘက်ညီမျှတစွာ ဖွံ့ဖြိုးတိုးတက်လာစေသည့် စီးပွားရေးအခြေအနေကောင်းများ ရရှိရေးဆောင်ရွက်ရန်၊

၃။ နိုင်ငံတော်အတွက် အဘက်ဘက်မှ စွမ်းရည်ပြည့်ဝသော လူငယ်မျိုးဆက်သစ်များ ပေါ်ပေါက်လာစေရေးအတွက် အခွင့်အလမ်းများ ဖန်တီးပေးနိုင်သော စီးပွားရေးမူဝါဒအဖြစ် ကျင့်သုံးရန်၊

၄။ နိုင်ငံသားအားလုံး ပူးပေါင်းပါဝင်နိုင်ပြီး တီထွင်ဆန်းသစ်မှုနှင့် ကြိုးပမ်းအားထုတ်မှုများဖြင့် တိုးတက်မှုရလဒ်ကောင်းများကို အစဉ်အဆက်ရယူထိန်းသိမ်းနိုင်မည့် စီးပွားရေးစနစ်တစ်ခုအဖြစ် ထူထောင်ရန်။

## နိုင်ငံတော်၏ စီးပွားရေးမူဝါဒများ

၁။ ပွင့်လင်းမြင်သာပြီး ကောင်းမွန်တောင့်တင်းသည့် ပြည်သူ့ဘဏ္ဍာရေး စီမံခန့်ခွဲမှုစနစ်ဖြင့် ဘဏ္ဍာရေးအရင်းအမြစ်များ တိုးတက်ပွားများလာအောင် ဆောင်ရွက်ရန်။

၂။ နိုင်ငံပိုင်စီးပွားရေးလုပ်ငန်းများ ပိုမိုအောင်မြင်စေရန် ဆောင်ရွက်ခြင်း၊ ပြုပြင်ပြောင်းလဲ လုပ်ကိုင်နိုင်ခြေရှိသောလုပ်ငန်းများကို ပုဂ္ဂလိကပိုင်အဖြစ် ပြောင်းလဲ

လုပ်ဆောင်ခြင်းတို့အပြင် အလုပ်အကိုင်ရရှိရေးနှင့် စီးပွားရေးတိုးတက်မှုကို အထောက်အကူပြုသည့် အသေးစားနှင့် အလတ်စားစီးပွားရေးလုပ်ငန်းများကို ပံ့ပိုးကူညီပေးရန်။

၃။ ခေတ်မီဖွံ့ဖြိုးသော စီးပွားရေးကို ဖြစ်ထွန်းစေနိုင်သည့် လူ့အရင်းအမြစ်များ မွေးထုတ်ပေးနိုင်ရန်နှင့် ပညာရပ်ပိုင်းဆိုင်ရာ အသက်မွေးဝမ်းကျောင်းပညာရပ်များကို ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်ရန်။

၄။ လျှပ်စစ်ဓာတ်အား၊ လမ်းများ၊ ဆိပ်ကမ်းများ စသည့် အခြေခံစီးပွားရေးအဆောက်အအုံများ လျင်မြန်စွာ တိုးတက်လာစေရေးကို ဦးစားပေးဆောင်ရွက်ရန်နှင့် Data ID Card System၊ Digital Government Strategy နှင့် e-Government System တို့ကို ထူထောင်သွားရန်။

၅။ ပြည်တွင်းနေ နိုင်ငံသားများနှင့် နိုင်ငံရပ်ခြားမှ ပြန်လည်ရောက်ရှိလာသော မြန်မာနိုင်ငံသားများ အားလုံးအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ဖော်ထုတ်ပေးရန်နှင့် အလုပ်အကိုင်အခွင့်အလမ်း မြင့်မားသော စီးပွားရေးလုပ်ငန်းများကို ကာလတိုအတွင်း ပိုမိုဦးစားပေးဆောင်ရွက်ရန်။

၆။ ဘက်စုံဖွံ့ဖြိုးတိုးတက်ရေး၊ စားနပ်ရိက္ခာဖူလုံစေရေးနှင့် ပို့ကုန်မြှင့်တင်နိုင်ရေးတို့အတွက် လယ်ယာကဏ္ဍ၊ မွေးမြူရေးကဏ္ဍနှင့် စက်မှုကဏ္ဍများ ဘက်ညီစွာ တိုးတက်လာစေရန်နှင့် လယ်ယာစက်မှုကဏ္ဍ ချိန်ခွင်လျှာညီသည့် စီးပွားရေးပုံစံဖော်ထုတ်ရန်။

၇။ ဈေးကွက်စီးပွားရေးစနစ်နှင့်အညီ ပုဂ္ဂလိကကဏ္ဍ တိုးတက်ရေးအတွက် နိုင်ငံသားတိုင်း မိမိတို့လုပ်ကိုင်လိုသည့် စီးပွားရေးလုပ်ငန်းများကို လွတ်လပ်စွာ လုပ်ကိုင်ခွင့်ရရှိစေရန်နှင့် ပြည်ပရင်းနှီးမြှုပ်နှံမှုများ တိုးမြှင့်ရန်အတွက် မူဝါဒများ သီးခြားရေးဆွဲဆောင်ရွက်ရန်၊ မူပိုင်ခွင့်များနှင့် တရားဥပဒေစိုးမိုးမှုရှိစေရေးအတွက် တိုးမြှင့်ဆောင်ရွက်ရန်။

၈။ အိမ်ထောင်စုများ၊ တောင်သူလယ်သမားများနှင့် စီးပွားရေးလုပ်ငန်းများကို ရေရှည်ဖွံ့ဖြိုးတိုးတက်စေရေး အထောက်အကူပြုနိုင်မည့် ငွေရေးကြေးရေးစနစ်ဖြင့် ဘဏ္ဍာရေးတည်ငြိမ်မှုရရှိလာစေရေး ဆောင်ရွက်ရန်။

၉။ သဘာဝပတ်ဝန်းကျင်များကို ရေရှည်ထိန်းသိမ်းနိုင်ရန်အတွက် လိုက်လျော ညီထွေဖြစ်စေမည့် မြို့ပြများ တည်ထောင်ရန်၊ ပြည်သူ့ဝန်ဆောင်မှုလုပ်ငန်းများ အဆင့်မြှင့်တင်ရန်တို့အပြင် အများပြည်သူနှင့် သက်ဆိုင်သည့်နေရာများ တိုးချဲ့ ဖော်ထုတ်ရန်နှင့် ယဉ်ကျေးမှုအမွေအနှစ်များကို ပိုမိုစောင့်ရှောက်ထိန်းသိမ်း ရေးတို့အတွက် ဆောင်ရွက်ရန်။

၁၀။ နိုင်ငံတော်၏ ဝင်ငွေတိုးတက်ရရှိရန် အကျိုးသက်ရောက်မှုရှိပြီး မျှတသော အခွန်စနစ်ထူထောင်၍ ပြည်သူများ၏ အခွင့်အရေးနှင့် ပစ္စည်းဥစ္စာပိုင်ဆိုင်ခွင့်ကို ဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ပြဋ္ဌာန်းလျက် အကာအကွယ်ပေးရန်။

၁၁။ တီထွင်ဖန်တီးမှုစွမ်းရည်များနှင့် အဆင့်မြင့်နည်းပညာတိုးတက်မှုများကို အားထုတ်ကြိုးပမ်းဖြစ်ပေါ်စေနိုင်သည့် အသိဉာဏ်ပစ္စည်းပိုင်ဆိုင်မှုအတွက် အထောက်အပံ့ဖြစ်စေသောနည်းစနစ်များ၊ လုပ်ထုံးလုပ်နည်းများ ပြဋ္ဌာန်း ဆောင်ရွက်ရန်။

၁၂။ စီးပွားရေးလုပ်ငန်းများကို ဆောင်ရွက်ရာတွင် အာဆီယံဒေသတွင်းသာမက အခြားဒေသများအတွင်း၌လည်း တိုးတက်ပြောင်းလဲလာနိုင်ဖွယ်ရှိသော အခြေ အနေများကို ဖော်ထုတ်၍ မိမိတို့၏ စီးပွားရေးလုပ်ငန်းများကို အမြော်အမြင် ကောင်းများဖြင့် အခြေတည်ထူထောင်ရန်။

## အစိုးရဝန်ကြီးဌာနများ

၁။ နိုင်ငံခြားရေးဝန်ကြီးဌာန
Ministry of Foreign Affairs

၂။ သမ္မတရုံးဝန်ကြီးဌာန
Ministry of President's Office

၃။ ပြည်ထဲရေးဝန်ကြီးဌာန
Ministry of Home Affairs

၄။ ကာကွယ်ရေးဝန်ကြီးဌာန
Ministry of Defence

၅။ နယ်စပ်ရေးရာဝန်ကြီးဌာန
Ministry of Border Affairs

၆။ နိုင်ငံတော်အတိုင်ပင်ခံရုံးဝန်ကြီးဌာန
Ministry of Office of the State Counsellor

၇။ ပြန်ကြားရေးဝန်ကြီးဌာန
Ministry of Information

၈။ ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
Ministry of Office of the Union Government

၉။ သာသနာရေးနှင့် ယဉ်ကျေးမှုဝန်ကြီးဌာန
Ministry of Religious Affairs and Culture

၁၀။ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
Ministry of Agriculture, Livestock Breeding and Irrigation

၁၁။ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
Ministry of Transport and Communications

၁၂။ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
Ministry of Natural Resources and Environmental Conservation

၁၃။ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန
Ministry of Electricity and Energy

၁၄။ အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
Ministry of Labour, Immigration and Population

၁၅။ စက်မှုဝန်ကြီးဌာန
Ministry of Industry

၁၆။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
Ministry of Commerce

၁၇။ ပညာရေးဝန်ကြီးဌာန
Ministry of Education

၁၈။ ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန
Ministry of Health and Sports

၁၉။ စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
Ministry of Planning and Finance

၂၀။ ဆောက်လုပ်ရေးဝန်ကြီးဌာန
Ministry of Construction

၂၁။ လူမှုဝန်ထမ်း ကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထားရေးဝန်ကြီးဌာန
Ministry of Social Welfare, Relief and Resettlement.

၂၂။ ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန
Ministry of Hotels and Tourism

၂၃။ တိုင်းရင်းသားလူမျိုးများရေးရာဝန်ကြီးဌာန
Ministry of Ethnic Affairs

၂၄။ အပြည်ပြည်ဆိုင်ရာပူးပေါင်းဆောင်ရွက်ရေးဝန်ကြီးဌာန
Ministry of International Cooperation

# ပြည်ထောင်စုအစိုးရအဖွဲ့

| | | |
|---|---|---|
| ၁။ | ဦးထင်ကျော် | = နိုင်ငံတော်သမ္မတ |
| ၂။ | ဒေါ်အောင်ဆန်းစုကြည် | = နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ် |
| ၃။ | ဦးမြင့်ဆွေ | = ဒုတိယသမ္မတ |
| ၄။ | ဦးဟင်နရီဗန်ထီးယူ | = ဒုတိယသမ္မတ |
| ၅။ | ဒေါ်အောင်ဆန်းစုကြည် | = ပြည်ထောင်စုဝန်ကြီး နိုင်ငံခြားရေးဝန်ကြီးဌာန |
| ၆။ | ဒေါ်အောင်ဆန်းစုကြည် | = ပြည်ထောင်စုဝန်ကြီး၊ သမ္မတရုံးဝန်ကြီးဌာန |
| ၇။ | ဒုတိယဗိုလ်ချုပ်ကြီးကျော်ဆွေ | = ပြည်ထောင်စုဝန်ကြီး၊ ပြည်ထဲရေးဝန်ကြီးဌာန |
| ၈။ | ဒုတိယဗိုလ်ချုပ်ကြီးစိန်ဝင်း | = ပြည်ထောင်စုဝန်ကြီး၊ ကာကွယ်ရေးဝန်ကြီးဌာန |
| ၉။ | ဒုတိယဗိုလ်ချုပ်ကြီးရဲအောင် | = ပြည်ထောင်စုဝန်ကြီး၊ နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၁၀။ | ဦးကျော်တင့်ဆွေ | = ပြည်ထောင်စုဝန်ကြီး၊ နိုင်ငံတော်အတိုင်ပင်ခံရုံးဝန်ကြီးဌာန |
| ၁၁။ | ဒေါက်တာဖေမြင့် | = ပြည်ထောင်စုဝန်ကြီး၊ ပြန်ကြားရေးဝန်ကြီးဌာန |
| ၁၂။ | ဦးသောင်းထွန်း | = ပြည်ထောင်စုဝန်ကြီး၊ ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန |
| ၁၃။ | သူရဦးအောင်ကို | = ပြည်ထောင်စုဝန်ကြီး၊ သာသနာရေးနှင့်ယဉ်ကျေးမှုဝန်ကြီးဌာန |
| ၁၄။ | ဒေါက်တာအောင်သူ | = ပြည်ထောင်စုဝန်ကြီး၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန |
| ၁၅။ | ဦးသန့်စင်မောင် | = ပြည်ထောင်စုဝန်ကြီး၊ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန |
| ၁၆။ | ဦးအုန်းဝင်း | = ပြည်ထောင်စုဝန်ကြီး၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန |

| | | |
|---|---|---|
| ၁၇။ | ဦးဝင်းခိုင် | = ပြည်ထောင်စုဝန်ကြီး၊ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန |
| ၁၈။ | ဦးသိန်းဆွေ | = ပြည်ထောင်စုဝန်ကြီး၊ အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန |
| ၁၉။ | ဦးခင်မောင်ချို | = ပြည်ထောင်စုဝန်ကြီး၊ စက်မှုဝန်ကြီးဌာန |
| ၂၀။ | ဒေါက်တာသန်းမြင့် | = ပြည်ထောင်စုဝန်ကြီး၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန |
| ၂၁။ | ဒေါက်တာမျိုးသိမ်းကြီး | = ပြည်ထောင်စုဝန်ကြီး၊ ပညာရေးဝန်ကြီးဌာန |
| ၂၂။ | ဒေါက်တာမြင့်ထွေး | = ပြည်ထောင်စုဝန်ကြီး၊ ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန |
| ၂၃။ | ဦးကျော်ဝင်း | = ပြည်ထောင်စုဝန်ကြီး၊ စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန |
| ၂၄။ | ဦးဝင်းခိုင် | = ပြည်ထောင်စုဝန်ကြီး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန |
| ၂၅။ | ဒေါက်တာဝင်းမြတ်အေး | = ပြည်ထောင်စုဝန်ကြီး၊ လူမှုဝန်ထမ်း ကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထား ရေးဝန်ကြီးဌာန |
| ၂၆။ | ဦးအုန်းမောင် | = ပြည်ထောင်စုဝန်ကြီး၊ ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန |
| ၂၇။ | နိုင်သက်လွင် | = ပြည်ထောင်စုဝန်ကြီး၊ တိုင်းရင်းသားလူမျိုးများရေးရာဝန်ကြီးဌာန |
| ၂၈။ | ဦးကျော်တင် | = ပြည်ထောင်စုဝန်ကြီး၊ အပြည်ပြည်ဆိုင်ရာပူးပေါင်းဆောင်ရွက်ရေး ဝန်ကြီးဌာန |
| ၂၉။ | ဦးထွန်းထွန်းဦး | = ပြည်ထောင်စုရှေ့နေချုပ် ပြည်ထောင်စုရှေ့နေချုပ်ရုံး |

## ပြည်ထောင်စုလွှတ်တော်မှ အတည်ပြုခန့်အပ်ခဲ့သော ရာထူးနေရာများနှင့် ပုဂ္ဂိုလ်များ

| | | |
|---|---|---|
| ၁။ | သမ္မတ | - ဦးထင်ကျော် |
| ၂။ | နိုင်ငံတော်၏အတိုင်ပင်ခံပုဂ္ဂိုလ် | - ဒေါ်အောင်ဆန်းစုကြည် |
| ၃။ | ဒုတိယသမ္မတ | - ဦးမြင့်ဆွေ |
| ၄။ | ဒုတိယသမ္မတ | - ဦးဟင်နရီဗန်ထီးယူ |
| ၅။ | ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌ | - ဦးဝင်းမြင့် |
| ၆။ | အမျိုးသားလွှတ်တော်ဥက္ကဋ္ဌ | - ဦးမန်းဝင်းခိုင်သန်း |
| ၇။ | ပြည်ထောင်စုတရားသူကြီးချုပ် | - ဦးထွန်းထွန်းဦး |
| ၈။ | နိုင်ငံတော်ဖွဲ့စည်းပုံ အခြေခံဥပဒေဆိုင်ရာ ခုံရုံးဥက္ကဋ္ဌ | - ဦးမျိုးညွန့် |
| ၉။ | ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်ဥက္ကဋ္ဌ | - ဦးလှသိန်း |
| ၁၀။ | ပြည်သူ့လွှတ်တော်ဒုတိယဥက္ကဋ္ဌ | - ဦးတီခွန်မြတ် |
| ၁၁။ | အမျိုးသားလွှတ်တော်ဒုတိယဥက္ကဋ္ဌ | - ဦးအေးသာအောင် |
| ၁၂။ | ပြည်ထောင်စုရှေ့နေချုပ် | - ဦးထွန်းထွန်းဦး |
| ၁၃။ | ပြည်ထောင်စုစာရင်းစစ်ချုပ် | - ဦးမော်သန်း |
| ၁၄။ | ပြည်ထောင်စုရာထူးဝန်အဖွဲ့ဥက္ကဋ္ဌ | - ဒေါက်တာဝင်းသိန်း |
| ၁၅။ | နေပြည်တော်ကောင်စီ ဥက္ကဋ္ဌ | - ဒေါက်တာမျိုးအောင် |

## တိုင်းဒေသကြီးနှင့် ပြည်နယ်ဝန်ကြီးချုပ်များ

| | | |
|---|---|---|
| ၁။ | ဒေါက်တာခက်အောင် | = ကချင်ပြည်နယ် |
| ၂။ | ဦးအယ်လ်ဖောင်းရှို | = ကယားပြည်နယ် |
| ၃။ | ဒေါ်နန်းခင်ထွေးမြင့် | = ကရင်ပြည်နယ် |
| ၄။ | ဦးဆလိုင်းလျန်လွှယ် | = ချင်းပြည်နယ် |
| ၅။ | ဒေါက်တာအေးဇံ | = မွန်ပြည်နယ် |
| ၆။ | ဦးညီပု | = ရခိုင်ပြည်နယ် |
| ၇။ | ဒေါက်တာလင်းထွဋ် | = ရှမ်းပြည်နယ် |
| ၈။ | ဒေါက်တာမြင့်နိုင် | = စစ်ကိုင်းတိုင်းဒေသကြီး |

| | | | |
|---|---|---|---|
| ၉။ | ဒေါက်တာလဲ့လဲ့မော် | = | တနင်္သာရီတိုင်းဒေသကြီး |
| ၁၀။ | ဦးဝင်းသိန်း | = | ပဲခူးတိုင်းဒေသကြီး |
| ၁၁။ | ဒေါက်တာအောင်မိုးညို | = | မကွေးတိုင်းဒေသကြီး |
| ၁၂။ | ဒေါက်တာဇော်မြင့်မောင် | = | မန္တလေးတိုင်းဒေသကြီး |
| ၁၃။ | ဦးဖြိုးမင်းသိန်း | = | ရန်ကုန်တိုင်းဒေသကြီး |
| ၁၄။ | ဦးမန်းဂျော်နီ | = | ဧရာဝတီတိုင်းဒေသကြီး |

## တိုင်းဒေသကြီးလွှတ်တော်နှင့် ပြည်နယ်လွှတ်တော်အသီးသီး၌ ခန့်အပ်ထားသော လွှတ်တော်ဥက္ကဋ္ဌများ

| | | | |
|---|---|---|---|
| ၁။ | ကချင်ပြည်နယ် | - | ဦးထွန်းတင် |
| ၂။ | ကယားပြည်နယ် | - | ဦးလှထွေး |
| ၃။ | ကရင်ပြည်နယ် | - | ဦးစောချစ်ခင် |
| ၄။ | ချင်းပြည်နယ် | - | ဦးဇိုဘွဲ |
| ၅။ | မွန်ပြည်နယ် | - | ဦးတင်အိ |
| ၆။ | ရခိုင်ပြည်နယ် | - | ဦးစန်းကျော်လှ |
| ၇။ | ရှမ်းပြည်နယ် | - | ဦးစိုင်းလုံးဆိုင် |
| ၈။ | စစ်ကိုင်းတိုင်းဒေသကြီး | - | ဦးသန်း |
| ၉။ | တနင်္သာရီတိုင်းဒေသကြီး | - | ဦးခင်မောင်အေး |
| ၁၀။ | မကွေးတိုင်းဒေသကြီး | - | ဦးတာ |
| ၁၁။ | မန္တလေးတိုင်းဒေသကြီး | - | ဦးအောင်ကျော်ဦး |
| ၁၂။ | ပဲခူးတိုင်းဒေသကြီး | - | ဦးခင်မောင်ရင် |
| ၁၃။ | ရန်ကုန်တိုင်းဒေသကြီး | - | ဦးတင်မောင်သန်း |
| ၁၄။ | ဧရာဝတီတိုင်းဒေသကြီး | - | ဦးအောင်ကျော်ခိုင် |

## ဒုတိယဝန်ကြီးများ

| | | |
|---|---|---|
| ၁။ | ဦးမင်းသူ | = သမ္မတရုံးဝန်ကြီးဌာန |
| ၂။ | ဗိုလ်ချုပ်အောင်စိုး | = ပြည်ထဲရေးဝန်ကြီးဌာန |
| ၃။ | ဗိုလ်ချုပ်မြင့်နွယ် | = ကာကွယ်ရေးဝန်ကြီးဌာန |
| ၄။ | ဗိုလ်ချုပ်သန်းထွဋ် | = နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၅။ | ဦးခင်မောင်တင် | = နိုင်ငံတော်အတိုင်ပင်ခံရုံး ဝန်ကြီးဌာန |
| ၆။ | ဦးလှကျော် | = စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန |
| ၇။ | ဦးကျော်မျိုး | = ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန |
| ၈။ | ဦးမောင်မောင်ဝင်း | = စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန |
| ၉။ | ဦးဆက်အောင် | = စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန |
| ၁၀။ | ဒေါက်တာထွန်းနိုင် | = လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန |
| ၁၁။ | ဦးအောင်ထူး | = စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန |
| ၁၂။ | ဦးဝင်းမော်ထွန်း | = ပညာရေးဝန်ကြီးဌာန |
| ၁၃။ | ဦးကျော်လင်း | = ဆောက်လုပ်ရေးဝန်ကြီးဌာန |
| ၁၄။ | ဦးစိုးအောင် | = လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့် ပြန်လည် နေရာချထားရေးဝန်ကြီးဌာန |

## တိုင်းဒေသကြီးနှင့် ပြည်နယ်အသီးသီး၌ ဖွဲ့စည်းထားသော ဝန်ကြီးဌာနများနှင့် ဝန်ကြီးများ

### ကချင်ပြည်နယ်

| | | |
|---|---|---|
| ၁။ | ဗိုလ်မှူးကြီးသူရမျိုးတင် | လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၂။ | ဦးဝေလင်း | ဘဏ္ဍာအခွန်၊ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီးဌာန |
| ၃။ | ဦးဝင်းညွန့် | လမ်းပန်းဆက်သွယ်ရေး၊ လျှပ်စစ်နှင့် စက်မှု ဝန်ကြီးဌာန |
| ၄။ | ဦးမြသိန်း | စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန |
| ၅။ | ဦးHလအောင် | သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်း ရေး ဝန်ကြီးဌာန |
| ၆။ | ဦးနေဝင်း | စည်ပင်သာယာရေးဝန်ကြီးဌာန |
| ၇။ | ဒေါက်တာသင်းလွင် | လူမှုရေးဝန်ကြီးဌာန |

| | | |
|---|---|---|
| ၈။ | ဦးခင်မောင်မြင့် (ခ) ဦးဒိုတ် | ဗမာတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |
| ၉။ | ဦးစိုင်းစိန်လင်း | ရှမ်းတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |
| ၁၀။ | ဦးအားတီယောဟန် | လီဆူတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |
| ၁၁။ | ဦးရန်နမ်းဖုန် | ရဝမ်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |

**ကယားပြည်နယ်**

| | | |
|---|---|---|
| ၁။ | ဗိုလ်မှူးကြီးမြင့်ဝေ | လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၂။ | ဦးခင်မောင်ဖြူ | လမ်းပန်းဆက်သွယ်ရေးနှင့် လျှပ်စစ်ဝန်ကြီးဌာန |
| ၃။ | ဦးဘော့စ်ကို | စိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန |
| ၄။ | ဒေါက်တာအောင်ကျော်ဌေး | စည်ပင်သာယာရေးနှင့် လူမှုရေးဝန်ကြီးဌာန |
| ၅။ | ဦးတီရယ် | သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန |
| ၆။ | ဦးမော်မော် | စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန |
| ၇။ | ဦးလှမျိုးဆွေ | ဗမာတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |

**ကရင်ပြည်နယ်**

| | | |
|---|---|---|
| ၁။ | ဗိုလ်မှူးကြီးမျိုးမင်းနောင် | လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၂။ | ဦးသန်းနိုင် | စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စည်ပင်သာယာရေးဝန်ကြီးဌာန |
| ၃။ | ဦးစောမြင့်ဦး | စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန |
| ၄။ | ဦးစိုးလှိုင် | လျှပ်စစ်နှင့် စက်မှုဝန်ကြီးဌာန |
| ၅။ | ဦးစောပြည်သာ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး၊ သစ်တော၊ သတ္တုနှင့် လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန |
| ၆။ | ဒေါက်တာတင်ဝင်းကျော် | လူမှုရေးဝန်ကြီးဌာန |
| ၇။ | ဦးတေဇထွန်းလှိုင်ထွေး | ဗမာတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |
| ၈။ | ဦးမင်းတင်ဝင်း | မွန်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |
| ၉။ | ဦးခွန်မျိုးတင့် | ပအိုဝ်းတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |

## ချင်းပြည်နယ်

| | | |
|---|---|---|
| ၁။ | ဗိုလ်မှူးကြီးဟန်ဝင်းအောင် | လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၂။ | ဦးဝီကော | စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန |
| ၃။ | ဦးမန်ဟင်းဒါလ်း | စိုက်ပျိုးရေး၊ မွေးမြူရေး၊ သစ်တောနှင့် သတ္တုတွင်းဝန်ကြီးဌာန |
| ၄။ | ဦးရွှေထီးအိုး | လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန |
| ၅။ | ဆလိုင်းအိုက်ဇက်ခင် | စည်ပင်သာယာရေး၊ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာန |
| ၆။ | ဦးပေါင်လွန်းမင်ထန် | လူမှုရေးဝန်ကြီးဌာန |

## မွန်ပြည်နယ်

| | | |
|---|---|---|
| ၁။ | ဗိုလ်မှူးကြီးဝင်းနိုင်ဦး | လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၂။ | ဦးမင်းကျော်လွင် | စည်ပင်သာယာရေးနှင့်ဆောက်လုပ်ရေးဝန်ကြီးဌာန |
| ၃။ | ဦးမင်းထင်အောင်ဟန် | လျှပ်စစ်၊ စွမ်းအင်နှင့် စက်မှုဝန်ကြီးဌာန |
| ၄။ | ဒေါက်တာထိန်လင်း | လူမှုရေးဝန်ကြီးဌာန |
| ၅။ | ဦးထွန်းငွေ | စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ပို့ဆောင်ဆက်သွယ်ရေးဝန်ကြီးဌာန |
| ၆။ | ဒေါက်တာမင်းကြည်ဝင်း (ခ) နိုင်ကြည်ဝင်း | သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန |
| ၇။ | ဦးဝဏ္ဏကျော် | စီမံကိန်း၊ ဘဏ္ဍာရေး၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန |
| ၈။ | ဦးရွှေမြင့် | ဗမာတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |
| ၉။ | ဒေါ်စံဝင့်ခိုင် | ပအိုဝ်းတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |
| ၁၀။ | ဦးအောင်မြင့်ခိုင် | ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |

## ရခိုင်ပြည်နယ်

| | | |
|---|---|---|
| ၁။ | ဗိုလ်မှူးကြီးဖုန်းတင့် | လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၂။ | ဦးကျော်အေးသိန်း | ဘဏ္ဍာရေး၊ အခွန်၊ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီးဌာန |

| | | |
|---|---|---|
| ၃။ | ဦးကျော်လွင် | စိုက်ပျိုးရေး၊ မွေးမြူရေး၊ သစ်တောနှင့် သတ္တုတွင်းဝန်ကြီးဌာန |
| ၄။ | ဦးအောင်ကျော်ဇံ | လျှပ်စစ်၊ စက်မှုနှင့် လမ်းပန်းဆက်သွယ်ရေး ဝန်ကြီးဌာန |
| ၅။ | ဦးမင်းအောင် | စည်ပင်သာယာရေးဝန်ကြီးဌာန |
| ၆။ | ဒေါက်တာချမ်းသာ | လူမှုရေးဝန်ကြီးဌာန |
| ၇။ | ဦးပုန်ဘွေ | ချင်းတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |

## ရှမ်းပြည်နယ်

| | | |
|---|---|---|
| ၁။ | ဗိုလ်မှူးကြီးနိုင်ဝင်းအောင် | လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၂။ | ဦးစိုင်းလုံကျော် | စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန |
| ၃။ | ဦးခွန်ရဲထွေး | လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန |
| ၄။ | ဒေါက်တာညီညီအောင် | သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန |
| ၅။ | ဦးဆွေသိန်း | လျှပ်စစ်၊ စွမ်းအင်နှင့် စက်မှုဝန်ကြီးဌာန |
| ၆။ | ဦးစိုးညွန့်လွင် | စီမံကိန်းနှင့် စီးပွားရေးဝန်ကြီးဌာန |
| ၇။ | ဒေါက်တာမျိုးထွန်း | လူမှုရေးဝန်ကြီးဌာန |
| ၈။ | ဦးစိုင်းရှုန်တစ်လုံ | ဘဏ္ဍာရေးဝန်ကြီးဌာန |
| ၉။ | ဦးစိုင်းစွံဆိုင်း | စည်ပင်သာယာရေးဝန်ကြီးဌာန |
| ၁၀။ | ဒေါက်တာ အောင်သန်းမောင် | ဗမာတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |
| ၁၁။ | ဦးဇုတ်ဒေါင် | ကချင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |
| ၁၂။ | ဦးဂူဆာ | လီဆူတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |
| ၁၃။ | ဦးယောသပ် | လားဟူတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |
| ၁၄။ | ဦးအာဗေလှ | အာခါတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |
| ၁၅။ | ဒေါက်တာထွန်းလှိုင် | အင်းသားတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး ဌာန |
| ၁၆။ | ဦးခွန်အေးမောင် | ကယန်း (ခ) ပဒေါင်တိုင်းရင်းသားလူမျိုးရေးရာ ဝန်ကြီးဌာန |

## စစ်ကိုင်းတိုင်းဒေသကြီး

| | | |
|---|---|---|
| ၁။ | ဗိုလ်မှူးကြီးကျော်သန့်နိုင် | လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၂။ | ဦးစိုးဦး | ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန |
| ၃။ | ဦးကမ်ဇာမုံ | စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန |
| ၄။ | ဦးသန်းညွန့်ဝင်း | လျှပ်စစ်၊ စက်မှုနှင့် လမ်းပန်းဆက်သွယ်ရေး ဝန်ကြီးဌာန |
| ၅။ | ဦးမြင့်ကြည် | စည်ပင်သာယာရေးဝန်ကြီးဌာန |
| ၆။ | ဒေါက်တာဇော်ဝင်း | လူမှုရေးဝန်ကြီးဌာန |
| ၇။ | ဒေါ်မွှေးမွှေးခင် | ရှမ်းတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |
| ၈။ | ဦးလာလ်ထောင်ထန်း | ချင်းတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |

## တနင်္သာရီတိုင်းဒေသကြီး

| | | |
|---|---|---|
| ၁။ | ဗိုလ်မှူးကြီးကျော်ဇေယျ | လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၂။ | ဦးဖြိုးဝင်းထွန်း | စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန |
| ၃။ | ဦးဟိုပင် | လူမှုရေးနှင့် စည်ပင်သာယာရေးဝန်ကြီးဌာန |
| ၄။ | ဦးမြင့်မောင် | သယံဇာတနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန |
| ၅။ | ဦးကြည်လှိုင် | လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန |
| ၆။ | ဦးမြင့်စန်း | စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန |
| ၇။ | ဦးစောလုကာ | ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |

## ပဲခူးတိုင်းဒေသကြီး

| | | |
|---|---|---|
| ၁။ | ဗိုလ်မှူးကြီးလှမျိုးရွှေ | လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၂။ | ဦးအောင်ဇော်နိုင် | စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန |
| ၃။ | ဦးကျော်မင်းဇံ | သယံဇာတ၊ သစ်တောနှင့် သဘာဝပတ်ဝန်း ကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန |
| ၄။ | ဦးမောင်မောင်လွင် | စည်ပင်သာယာရေးနှင့် လူမှုရေးဝန်ကြီးဌာန |
| ၅။ | ဦးညွန့်ရွှေ | စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန |

| | | |
|---|---|---|
| ၆။ | ဦးသန်းဝင်း | စက်မှု၊ လျှပ်စစ်နှင့် လမ်းပန်းဆက်သွယ်ရေး ဝန်ကြီးဌာန |
| ၇။ | ဒေါ်နော်ပွယ်ဆေး | ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |

## မကွေးတိုင်းဒေသကြီး

| | | |
|---|---|---|
| ၁။ | ဗိုလ်မှူးကြီးမင်းဦး | လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၂။ | ဦးတင်နွယ်ဦး | ဆောက်လုပ်ရေး၊ ပို့ဆောင်ဆက်သွယ်ရေး ဝန်ကြီးဌာန |
| ၃။ | ဦးစိုးမြင့် | စိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန |
| ၄။ | ဒေါက်တာခင်မောင်အေး | သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်၊ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန |
| ၅။ | ဦးဇော်မင်း | စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စည်ပင်သာယာရေး ဝန်ကြီးဌာန |
| ၆။ | ဦးနေမျိုးကျော် | အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန |
| ၇။ | ဦးလှထွန်း | ချင်းတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |
| ၈။ | ဒေါက်တာခင်မောင်အေး | လူမှုရေးဝန်ကြီးဌာန |

## မန္တလေးတိုင်းဒေသကြီး

| | | |
|---|---|---|
| ၁။ | ဗိုလ်မှူးကြီးကျော်ကျော်မင်း | လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၂။ | ဒေါက်တာစိုးသန်း(ခ) ဦးကျော်စိုးသန်း | စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီး ဌာန |
| ၃။ | ဦးဇာနည်အောင် | လျှပ်စစ်၊ စွမ်းအင်နှင့် ဆောက်လုပ်ရေးဝန်ကြီး ဌာန |
| ၄။ | ဦးမျိုးသစ်(ခ)ဦးပါလေး | သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်း ရေးဝန်ကြီးဌာန |
| ၅။ | ဦးမြတ်သူ | စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန |
| ၆။ | ဒေါက်တာရဲလွင် | စည်ပင်သာယာရေးဝန်ကြီးဌာန |
| ၇။ | ဦးစိုင်းကျော်ဇော | ရှမ်းတိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |

## ရန်ကုန်တိုင်းဒေသကြီး

| | | |
|---|---|---|
| ၁။ | ဗိုလ်မှူးကြီးအောင်စိုးမိုး | လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၂။ | ဦးမြင့်သောင်း | စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန |
| ၃။ | ဦးဟံထွန်း | စိုက်ပျိုးရေး၊ မွေးမြူရေး၊ သစ်တောနှင့် စွမ်းအင်ဝန်ကြီးဌာန |
| ၄။ | ဒေါ်နီလာကျော် | လျှပ်စစ်၊ စက်မှုလက်မှုနှင့် လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန |
| ၅။ | ဦးမောင်မောင်စိုး | စည်ပင်သာယာရေးဝန်ကြီးဌာန |
| ၆။ | ဦးနိုင်ငံလင်း | လူမှုရေးဝန်ကြီးဌာန |
| ၇။ | ဒေါ်ပန်းသဥ္ဇာမျိုး | ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |
| ၈။ | ဦးဇော်အေးမောင် | ရခိုင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |

## ဧရာဝတီတိုင်းဒေသကြီး

| | | |
|---|---|---|
| ၁။ | ဗိုလ်မှူးကြီးကျော်စွာလှိုင် | လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၂။ | ဦးငွေးဝင်း | စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန |
| ၃။ | ဦးဘဟိန်း | စိုက်ပျိုးရေး၊ မွေးမြူရေး၊ သယံဇာတနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန |
| ၄။ | ဦးဝင်းငွေ | လျှပ်စစ်၊ စွမ်းအင်၊ စက်မှုလက်မှုနှင့် လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန |
| ၅။ | ဦးကျော်မြင့် | စည်ပင်သာယာရေးဝန်ကြီးဌာန |
| ၆။ | ဒေါက်တာလှမြတ်သွေး | လူမှုရေးဝန်ကြီးဌာန |
| ၇။ | ဂျီမိုးမြတ်မြတ်သူ | ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |
| ၈။ | ဦးတင်စော | ရခိုင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးဌာန |

## ၂၀၀၈ ခုနှစ်အခြေခံဥပဒေအရ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းနှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသများ

| | | |
|---|---|---|
| ၁။ နာဂကိုယ်ပိုင် အုပ်ချုပ်ခွင့်ရဒေသ | - လေရှီး၊ လဟယ်နှင့် နန်းယွန်းမြို့နယ် | စစ်ကိုင်းတိုင်းဒေသကြီး |
| ၂။ ဓနုကိုယ်ပိုင် အုပ်ချုပ်ခွင့်ရဒေသ | - ရွာငံနှင့်ပင်းတယမြို့နယ် | ရှမ်းပြည်နယ် |
| ၃။ ပအိုဝ်းကိုယ်ပိုင် အုပ်ချုပ်ခွင့်ရဒေသ | - ဟိုပုံး၊ ဆီဆိုင်၊ ပင်လောင်း | ရှမ်းပြည်နယ် |
| ၄။ ပလောင်ကိုယ်ပိုင် အုပ်ချုပ်ခွင့်ရဒေသ | - နမ့်ဆန်၊ မန်တုံ | ရှမ်းပြည်နယ် |
| ၅။ ကိုးကန့်ကိုယ်ပိုင် အုပ်ချုပ်ခွင့်ရဒေသ | - ကုန်းကြမ်း၊ လောက်ကိုင် | ရှမ်းပြည်နယ် |
| ၆။ ‘ဝ’ကိုယ်ပိုင် အုပ်ချုပ်ခွင့်ရဒေသ | - ဟိုပန်၊ မိုင်းမော၊ ပန်ဝိုင် နားဖန်း၊ မက်မန်း၊ ပန်ဆန်း | ရှမ်းပြည်နယ် |

# ၂၀၁၄ ခုနှစ် ပြည်လုံးကျွတ်အဆင့် လူဦးရေနှင့် အိမ်အကြောင်းအရာ သန်းခေါင်စာရင်းကောက်ယူမှုရလဒ်များမှ ဖော်ထုတ်ရရှိခဲ့သော သန်းခေါင်စာရင်းမှ ညွှန်းဆိုသည့် မြန်မာ့ပုံရိပ်အကျဉ်းချုပ်

## ❒ လူဦးရေဆိုင်ရာ ဝိသေသလက္ခဏာများ

- သန်းခေါင်စာရင်းမှကောက်ယူရရှိသော မြန်မာနိုင်ငံ၏ စုစုပေါင်း လူဦးရေ ၅၁ ဒသမ ၄၉ သန်း၊
- ၄င်းအနက် အမျိုးသားဦးရေ ၂၄ ဒသမ ၈၂ သန်း၊
- အမျိုးသမီးဦးရေ ၂၆ ဒသမ ၆၇ သန်း၊
- အမျိုးသမီးဦးရေသည် အမျိုးသားဦးရေထက် ၁ ဒသမ ၈၅ သန်းပိုများ၊
- အမျိုးသမီးဦးရေသည် စုစုပေါင်းလူဦးရေ၏ ၅၁ ဒသမ ၈ ရာခိုင်နှုန်း။

အဆိုပါစာရင်းများမှာ လုံခြုံရေးအခြေအနေအရ စာရင်းမကောက်ယူနိုင်ခဲ့သော ကချင်ပြည်နယ်၊ ကရင်ပြည်နယ်နှင့် ရခိုင်ပြည်နယ်တွင်းရှိ ဒေသအချို့အတွက် ခန့်မှန်းလူဦးရေ ၁ ဒသမ ၂၀ သန်း ထည့်သွင်းတွက်ချက်ထားခြင်းဖြစ်သည်။

မြန်မာနိုင်ငံ၏ လူဦးရေ ကျား/မ အချိုးမှာ ၉၃ ဖြစ်ပါသည်။ အမျိုးသမီးဦးရေ ၁၀၀ တွင် အမျိုးသားဦးရေ ၉၃ ယောက်ဖြစ်ပါသည်။ ကချင်ပြည်နယ်တွင် အမျိုးသမီး ၁၀၀ တွင် အမျိုးသား ၁၀၈ ယောက်ရှိပြီး ကယားပြည်နယ်နှင့် ရှမ်းပြည်နယ်တို့တွင် အမျိုးသားဦးရေနှင့် အမျိုးသမီးဦးရေ အချိုးတူညီမှုရှိသည်။

လူဦးရေအများဆုံးမှာ ရန်ကုန်တိုင်းဒေသကြီးဖြစ်ပြီး စုစုပေါင်းလူဦးရေ၏ ၁၄ ရာခိုင်နှုန်းနှင့် လူဦးရေအနည်းဆုံးမှာ ကယားပြည်နယ်ဖြစ်၍ သုည ဒသမ ၆ ရာခိုင်နှုန်းဖြစ်သည်။

မြန်မာနိုင်ငံလူဦးရေသည် အာဆီယံအဖွဲ့ဝင်နိုင်ငံအားလုံး၏ ခန့်မှန်းလူဦးရေ ၆၁၅ သန်းတွင် ၈ ဒသမ ၄ ရာခိုင်နှုန်းပါဝင်ပြီး လူဦးရေအရွယ်အစားသည် အာဆီယံဒေသအတွင်း အဆင့် (၅) နေရာတွင် ရှိသည်။

လူဦးရေသိပ်သည်းဆအနေဖြင့် ၁ စတုရန်းကီလိုမီတာတွင် ၇၆ ဦး နေထိုင်ပြီး ရန်ကုန်တိုင်းဒေသကြီးတွင် ၁ စတုရန်းကီလိုမီတာ၌ ၇၁၆ ဦး နေထိုင်ပြီး ချင်းပြည်နယ်တွင် ၁၃ ဦးသာ နေသည်။

ရန်ကုန်တိုင်းဒေသကြီးတွင် ၇၀ ရာခိုင်နှုန်းသည် မြို့ပြတွင်နေထိုင်ကြပြီး ဧရာဝတီတိုင်းဒေသကြီးတွင် ၈၆ ရာခိုင်နှုန်းမှာ ကျေးလက်ဒေသတွင် နေထိုင်ကြသည်။ လူဦးရေတိုးနှုန်းအနေဖြင့် သုည ဒသမ ၈၉ ရာခိုင်နှုန်းရှိသည်။

မြန်မာနိုင်ငံ၏ လူဦးရေအား လူဦးရေပိရမစ်ရေးဆွဲရာတွင် အိုးပုံပိရမစ်ဖြစ်ပေါ်လျက်ရှိသည်။ လူဦးရေပိရမစ်အရ မြန်မာနိုင်ငံတွင် မွေးဖွားနှုန်းကျဆင်းနေခြင်း၊ အလုပ်လုပ်နိုင်သည့် အသက်အပိုင်းအခြားဖြစ်သော (၁၅) နှစ်မှ (၆၄) နှစ် အကြား လူဦးရေများပြားနေခြင်းကြောင့် လူဦးရေဆုလာဘ် (Population Bonus) ရရှိနေသည်ကို တွေ့ရှိရသည်။

အလုပ်လုပ်နိုင်သော ဦးရေများပြားနေခြင်းသည် နိုင်ငံအတွက် အလားအလာကောင်းများဖြစ်ပေါ်နေသည်ဟု ဆိုရမည်ဖြစ်ပြီး ၎င်းအကျိုးကျေးဇူးမှာ နောင်နှစ်ပေါင်း ၂၀ ခန့်အထိ ဆက်လက်အကျိုးခံစားနေရမည် ဖြစ်ပါသည်။ ၎င်းနောက်ပိုင်းတွင် သက်ကြီးရွယ်အိုများ များပြားလာပြီး သက်ကြီးရွယ်အိုစောင့်ရှောက်မှုလုပ်ငန်းများအား အလေးထားဆောင်ရွက်ရမည် ဖြစ်သည်။

အိမ်ထောင်စုအကြောင်းအရာများတွင် နောက်ဆုံးသန်းခေါင်စာရင်းကောက်ယူခဲ့သော ၁၉၈၃ ခုနှစ်နှင့် နှိုင်းယှဉ်ပါက ၂၀၁၄ ခုနှစ်အတွင်း အိမ်ထောင်စုအရေအတွက် ၆၇ ရာခိုင်နှုန်း တိုးတက်လာကြောင်း တွေ့ရှိရသည်။ ၁၉၈၃ ခုနှစ်တွင် အိမ်ထောင်စု ၆၄၉၅၆၂၀ စု ရှိပြီး ၂၀၁၄ ခုနှစ်တွင် အိမ်ထောင်စု ၁၀၈၇၇၈၃၂ အထိ တိုးတက်လာခဲ့သည်။

## ❐ လူမှုရေးဆိုင်ရာ ဝိသေသလက္ခဏာများ

အိမ်ထောင်ရှိသူအမျိုးသားအချိုးသည် အိမ်ထောင်ရှိသူအမျိုးသမီးအချိုးထက် ပိုမိုများပြားသည်။ အိမ်ထောင်မပြုသည့် အမျိုးသမီးများစွာရှိနေပြီး မုဆိုးမအချိုးမှာ ၁၀ ဒသမ ၄ ရာခိုင်နှုန်းရှိပြီး မုဆိုးဖိုအချိုးသည် ၃ ဒသမ ၁ ရာခိုင်နှုန်းရှိသည်။

အမျိုးသမီးများသည် အမျိုးသားများထက်စော၍ မုဆိုးမဖြစ်ကြပြီး မုဆိုးဖို၊ မုဆိုးမအဖြစ် ရောက်ရှိသည့် အသက်သည် အမျိုးသမီးများအတွက် အသက် (၃၅)နှစ်မှ (၄၀) အတွင်းဖြစ်ပြီး အမျိုးသားများအတွက် အသက် (၅၅) နှစ်ဖြစ်သည်။ အိမ်ထောင်ရှိအမျိုးသမီးအချိုးသည် အသက် (၃၅) နှစ်မှ (၃၉)နှစ်ကြားတွင် အမြင့်ဆုံးဖြစ်ပြီး အိမ်ထောင်ရှိသူ အမျိုးသားအချိုးသည် အသက် (၄၅) နှစ်မှ (၄၉) နှစ်ကြားတွင် အမြင့်ဆုံးဖြစ်သည်။

## ❒ ရွှေ့ပြောင်းသွားလာခြင်းဆိုင်ရာကိစ္စရပ်များ

ပြည်တွင်းရွှေ့ပြောင်းသွားလာခြင်းတွင် အမျိုးသမီးများသည် အမျိုးသားများထက် ပိုမိုရွှေ့ပြောင်းသွားလာကြသည်။ အမျိုးသမီးအများစုမှာ မိသားစုနောက်လိုက်ပါရန် ပြောင်းရွှေ့ကြခြင်းဖြစ်ပြီး အမျိုးသားများကမူ အလုပ်ကြောင့် (သို့) အလုပ်ရှာရန်အတွက် ပြောင်းရွှေ့နေကြခြင်း ဖြစ်သည်။

ပြည်ပရွှေ့ပြောင်းသွားလာခြင်းတွင် နိုင်ငံခြားသို့ရောက်နေသော အိမ်ထောင်စုဝင်များ၏ ၆၁ ရာခိုင်နှုန်းသည် အမျိုးသားများဖြစ်ကြသည်။ နိုင်ငံခြားသို့ရောက်နေသော အိမ်ထောင်စုဝင်အများစုသည် မွန်၊ ကရင်၊ ရှမ်းပြည်နယ်တို့မှ ဖြစ်သည်။

နိုင်ငံခြားသို့ ရောက်ရှိနေသောသူအများစုမှာ အသက် (၁၅) နှစ်မှ (၃၉)နှစ်အတွင်း လူငယ်လူရွယ်များ ဖြစ်ကြသည်။

နိုင်ငံခြားသို့ရောက်ရှိနေသော (၇၀) ရာခိုင်နှုန်းသည် ထိုင်းနိုင်ငံတွင် ရောက်ရှိနေထိုင်လျက်ရှိကြောင်း တွေ့ရှိရသည်။

## ❒ ပညာရေးအခြေအနေ

အသက် (၁၀) နှစ်အထက် စာတတ်မြောက်မှုရာခိုင်နှုန်းမှာ ၉၀ ဒသမ ၂ ဖြစ်၍ အသက် (၁၅) နှစ်နှင့်အထက် စာတတ်မြောက်မှုရာခိုင်နှုန်းသည် ၈၉ ဒသမ ၅ ရာခိုင်နှုန်းရှိသည်။ စာတတ်မြောက်မှုနှုန်းအမြင့်ဆုံးမှာ ရန်ကုန်တိုင်းဒေသကြီးဖြစ်၍ ၉၇ ရာခိုင်နှုန်းဖြစ်သည်။ ရှမ်းပြည်နယ်သည် ၆၅ ရာခိုင်နှုန်းဖြစ်၍ အနိမ့်ဆုံးဖြစ်သည်။

အမျိုးသားစာတတ်မြောက်မှုရာခိုင်နှုန်းမှာ အမျိုးသမီးစာတတ်မြောက်မှုရာခိုင်နှုန်းထက် ပိုမိုမြင့်မားနေကြောင်း တွေ့ရှိရသည်။

မြန်မာနိုင်ငံ၏ စာတတ်မြောက်မှုရာခိုင်နှုန်းသည် အာဆီယံနိုင်ငံများ၏ ပျမ်းမျှစာတတ်မြောက်မှုရာခိုင်နှုန်းနှင့် တူညီမှုရှိသည်။

အသက် (၅) နှစ်မှ (၂၉) နှစ်အတွင်း ကျောင်းတက်နေသူအမျိုးသားနှင့် အမျိုးသမီးအချိုးတူညီပြီး ကျောင်းတက်ရောက် ပညာသင်ကြားမှုတွင် ကျား/မ ခွဲခြားမှုမရှိကြောင်း တွေ့ရှိရသည်။

## ❒ စီးပွားရေးဆိုင်ရာ ဝိသေသလက္ခဏာများ

မြန်မာနိုင်ငံတွင် အလုပ်လုပ်ကိုင်နိုင်သောအသက်အရွယ်ဖြစ်သည့် အသက် (၁၅) နှစ်နှင့် (၆၄) နှစ်ကြား လူဦးရေ၏ ၆၇ ရာခိုင်နှုန်းသည် လုပ်သား အင်အားစုတွင် ပါဝင်သည်။ အလုပ်အကိုင်ရရှိမှုနှင့် လူဦးရေအချိုးမှာ

၆၄ ဒသမ ၄ ရာခိုင်နှုန်းဖြစ်သည်။ အလုပ်လုပ်နိုင်သောလူဦးရေ၏ ၄ ရာခိုင်နှုန်းသည် အလုပ်လက်မဲ့များ ဖြစ်ပြီး အထူးသဖြင့် အသက် (၁၅) နှစ်နှင့် (၂၉) နှစ်ကြား လူငယ်လူရွယ်များ အတွင်း အလုပ်လက်မဲ့ ၇ ဒသမ ၇ ရာခိုင်နှုန်းရှိ၍ နိုင်ငံ၏ ပျမ်းမျှအလုပ်လက်မဲ့နှုန်းထက် ပိုမိုများပြားလျက်ရှိသည်။

## ❐ မွေးဖွားခြင်းဆိုင်ရာကိန်းဂဏန်းများ

အမျိုးသမီးတစ်ဦး၏ စုစုပေါင်းကလေးမွေးနှုန်း (Total Fertility Rate-TFR) သည် ၂ ဒသမ ၃ ဖြစ်၍ အိမ်ထောင်ကျဖူးသူ အမျိုးသမီးတစ်ဦး၏ စုစုပေါင်းကလေးမွေးဖွားနှုန်းမှာ ၄ ဒသမ ၀၃ ဖြစ်သည်။

မြန်မာနိုင်ငံအတွင်းရှိ အမျိုးသမီးတစ်ဦး၏ စုစုပေါင်းကလေးမွေးနှုန်းသည် အရှေ့တောင်အာရှနိုင်ငံများ၏ ကလေးမွေးနှုန်းနှင့် တူညီသည်။ အရှေ့တောင်အာရှနိုင်ငံများ၏ ပျမ်းမျှစုစုပေါင်း ကလေးမွေးနှုန်းသည် ၂ ဒသမ ၅ ဖြစ်ပြီး မြန်မာနိုင်ငံ၏ ပျမ်းမျှစုစုပေါင်း ကလေးမွေးနှုန်းသည် ၂ ဒသမ ၃ ဖြစ်သည်။

မွေးနှုန်းအများဆုံးသည် ချင်းပြည်နယ်ဖြစ်ပြီး ၄ ဒသမ ၃၄ ရှိ၍ မွေးနှုန်းအနည်းဆုံးမှာ ရန်ကုန်တိုင်းဒေသကြီးဖြစ်ပြီး ၁ ဒသမ ၇၁ ဖြစ်သည်။

အသက် (၁၅) နှစ်မှ (၄၉) နှစ်အတွင်းရှိ အမျိုးသမီးများ၏ ကလေးမွေးနှုန်းသည် မြို့ပြထက် ကျေးလက်တွင် ပိုမိုမြင့်မားသည်။

## ❐ သေဆုံးခြင်းအကြောင်းအရာများ

နိုင်ငံ၏ မျှော်မှန်းသက်တမ်းသည် ၆၆ ဒသမ ၈ နှစ် ဖြစ်သည်။ မျှော်မှန်းသက်တမ်းအမြင့်ဆုံးမှာ မွန်ပြည်နယ်ဖြစ်ပြီး ၇၁ ဒသမ ၇ နှစ်ဖြစ်၍ မျှော်မှန်းသက်တမ်းအနိမ့်ဆုံးမှာ မကွေးတိုင်းဒေသကြီး ၆၀ ဒသမ ၆ နှစ်ဖြစ်သည်။

တစ်နှစ်အောက်ကလေးသေနှုန်း (Infant Mortality Rate-IMR)သည် အရှင်မွေးကလေး ၁၀၀၀ တွင် ၆၂ ဦးဖြစ်ပြီး ငါးနှစ်အောက်ကလေးသေနှုန်း (Under 5 Mortality Rate- U5MR)သည် အရှင်မွေးကလေး ၁၀၀၀ တွင် ၇၂ ဦးဖြစ်သည်။

တစ်နှစ်အောက်ကလေးသေနှုန်းအမြင့်ဆုံးမှာ မကွေးတိုင်းဒေသကြီးဖြစ်ပြီး အနိမ့်ဆုံးမှာ မွန်ပြည်နယ်ဖြစ်သည်။ ငါးနှစ်အောက်ကလေးသေနှုန်းအမြင့်ဆုံးမှာ မကွေးတိုင်းဒေသကြီးဖြစ်ပြီး အနိမ့်ဆုံးမှာ မွန်ပြည်နယ်ဖြစ်သည်။

## ❒ နိုင်ငံ၏မသန်စွမ်းမှုအခြေအနေ

နိုင်ငံတွင် မသန်စွမ်းရာခိုင်နှုန်း ၄ ဒသမ ၆ ရာခိုင်နှုန်းရှိသည်။

မသန်စွမ်းရာခိုင်နှုန်းသည် အသက် (၄၀) အရွယ်တွင် စတင်မြင့်တက်ပြီး အသက် (၆၅) နှစ်အထက်တွင် သိသာထင်ရှားစွာ မြင့်တက်လာသည်။

ဧရာဝတီတိုင်းဒေသကြီးနှင့် ချင်းပြည်နယ်တို့တွင် မသန်စွမ်းမှုရာခိုင်နှုန်း အမြင့်မားဆုံးဖြစ်ပြီး မသန်စွမ်းမှုရာခိုင်နှုန်းအနိမ့်ဆုံးမှာ နေပြည်တော်ဖြစ်သည်။

မသန်စွမ်းမှုအမျိုးအစားများအနက် အမြင့်ဆုံးမှာ အမြင်အာရုံမသန်စွမ်းမှု ဖြစ်သည်။

## ❒ အိမ်အကြောင်းအရာနှင့် အိမ်အသုံးအဆောင်ပစ္စည်းများ သုံးစွဲမှုအခြေအနေ

နိုင်ငံတစ်ဝန်း အိမ်ပိုင်ဆိုင်မှု (၈၆) ရာခိုင်နှုန်း၊ အိမ်ငှား (၇) ရာခိုင်နှုန်း၊ အစိုးရဝန်ထမ်းအိမ်ရာတွင် နေထိုင်သူ (၃) ရာခိုင်နှုန်းရှိသည်။ အိမ်ပိုင်ဆိုင်သူများမှာ သစ်အိမ်၊ ဝါးအိမ်ဖြင့် နေအိမ်ပိုင်ဆိုင်ထားသူများကိုပါ ထည့်သွင်းတွက်ချက်ထားသည်။

နေအိမ်အားလုံး၏ (၇၉) ရာခိုင်နှုန်းခန့်သည် သစ် (သို့) ဝါးဖြင့် ဆောက်လုပ်ထားကြသည်။

အိမ်ထောင်စု (၃၂) ရာခိုင်နှုန်းသည် အလင်းရောင်အတွက် လျှပ်စစ်မီးကို အသုံးပြုကြပြီး မြို့ပြတွင် လျှပ်စစ်မီးသုံးသော အိမ်ထောင်စုမှာ (၇၈) ရာခိုင်နှုန်း၊ ကျေးလက်တွင် လျှပ်စစ်မီးသုံးသော အိမ်ထောင်စု (၁၅) ရာခိုင်နှုန်းသာ ရှိသည်။

အလင်းရောင်အတွက် လျှပ်စစ်မီးအသုံးပြုသော အိမ်ထောင်စုများတွင် အမြင့်ဆုံးမှာ ရန်ကုန်တိုင်းဒေသကြီးဖြစ်ပြီး (၆၉) ရာခိုင်နှုန်း သုံးစွဲ၍ အနိမ့်ဆုံးမှာ တနင်္သာရီတိုင်းဒေသကြီးဖြစ်ပြီး (၈) ရာခိုင်နှုန်းသာ သုံးစွဲသည်။

## ၂၀၀၈ ခုနှစ် ဖွဲ့စည်းပုံအခြေခံဥပဒေအရဖြစ်ပေါ်လာသော လွှတ်တော်အမျိုးအစားများ

၁။ ပြည်ထောင်စုလွှတ်တော်
၂။ ပြည်သူ့လွှတ်တော်
၃။ အမျိုးသားလွှတ်တော်
၄။ ပြည်နယ်/တိုင်းဒေသကြီးလွှတ်တော်

**ပြည်ထောင်စုလွှတ်တော်**

ပြည်ထောင်စုလွှတ်တော်တွင် အောက်ပါလွှတ်တော်(၂)ရပ်ပါဝင်သည် -

၁။ ပြည်သူ့လွှတ်တော်
၂။ အမျိုးသားလွှတ်တော်

### ဒုတိယအကြိမ် ပြည်ထောင်စုလွှတ်တော် ကော်မတီ/ကော်မရှင်များ

၁။ ဥပဒေရေးရာနှင့် အထူးကိစ္စရပ်များ လေ့လာဆန်းစစ်သုံးသပ်ရေးကော်မရှင်

**ကော်မတီအဖွဲ့**

၁။ ပြည်ထောင်စုလွှတ်တော်ကိုယ်စားလှယ်များ စိစစ်ရေးကော်မတီ
၂။ အာဆီယံပါလီမန်များ ညီလာခံဆိုင်ရာပူးပေါင်းကော်မတီ
၃။ နိုင်ငံတကာပါလီမန်များအဖွဲ့ဆိုင်ရာပူးပေါင်းကော်မတီ
၄။ ပြည်သူ့ငွေစာရင်းပူးပေါင်းကော်မတီ
၅။ ဥပဒေကြမ်းပူးပေါင်းကော်မတီ
၆။ မြန်မာနိုင်ငံလွှတ်တော်ဆိုင်ရာအဖွဲ့
၇။ ဖွံ့ဖြိုးရေးလုပ်ငန်းဗဟိုကော်မတီ
၈။ လွှတ်တော်များဖွံ့ဖြိုးတိုးတက်ရေးဆိုင်ရာ ပေါင်းစပ်ညှိနှိုင်း ဆောင်ရွက်ရေးအဖွဲ့

### ဒုတိယအကြိမ် ပြည်သူ့လွှတ်တော် ကော်မတီ/ကော်မရှင်များ

၁။ ဥပဒေရေးရာနှင့် အထူးကိစ္စရပ်များ လေ့လာဆန်းစစ်သုံးသပ်ရေးကော်မရှင်

**အမြဲတမ်းကော်မတီများ**

၁။ ပြည်သူ့ငွေစာရင်းကော်မတီ
၂။ အစိုးရ၏ အာမခံချက်များ၊ ကတိများနှင့် တာဝန်ခံချက်များစိစစ်ရေးကော်မတီ
၃။ ဥပဒေကြမ်းကော်မတီ
၄။ လွှတ်တော်အခွင့်အရေးကော်မတီ

## အခြားကော်မတီများ

၁။ တရားစီရင်ရေးနှင့် ဥပဒေရေးရာကော်မတီ
၂။ နိုင်ငံသားများ၏ မူလအခွင့်အရေးဆိုင်ရာကော်မတီ
၃။ ပြည်သူ့ရေးရာစီမံခန့်ခွဲမှုကော်မတီ
၄။ တောင်သူလယ်သမားနှင့် အလုပ်သမားရေးရာကော်မတီ
၅။ နိုင်ငံတကာဆက်ဆံရေးကော်မတီ
၆။ တိုင်းရင်းသားရေးရာနှင့် ပြည်တွင်းငြိမ်းချမ်းရေးဖော်ဆောင်မှုကော်မတီ
၇။ ဘဏ်များနှင့် ငွေကြေးဆိုင်ရာဖွံ့ဖြိုးတိုးတက်ရေးကော်မတီ
၈။ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ကျေးလက်လူမှုဘဝဖွံ့ဖြိုးတိုးတက်ရေးကော်မတီ
၉။ ပညာရေးမြှင့်တင်မှုကော်မတီ
၁၀။ ကျန်းမာရေးနှင့် အားကစားဖွံ့ဖြိုးတိုးတက်ရေးကော်မတီ
၁၁။ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာကော်မတီ
၁၂။ ပို့ဆောင်ရေး၊ ဆက်သွယ်ရေးနှင့် ဆောက်လုပ်ရေးဆိုင်ရာကော်မတီ
၁၃။ ရင်းနှီးမြှုပ်နှံမှုနှင့် စက်မှုလက်မှုဖွံ့ဖြိုးတိုးတက်ရေးကော်မတီ
၁၄။ လျှပ်စစ်နှင့် စွမ်းအင်ဖွံ့ဖြိုးတိုးတက်ရေးကော်မတီ
၁၅။ စီးပွားရေးနှင့် ဘဏ္ဍာရေးဖွံ့ဖြိုးတိုးတက်ရေးကော်မတီ

## ဒုတိယအကြိမ်အမျိုးသားလွှတ်တော်ကော်မတီ/ကော်မရှင်များ

### အမြဲတမ်းကော်မတီ

၁။ ဥပဒေကြမ်းကော်မတီ
၂။ ပြည်သူ့ငွေစာရင်းကော်မတီ
၃။ လွှတ်တော်အခွင့်အရေးကော်မတီ
၄။ အစိုးရ၏ အာမခံချက်များ၊ ကတိများနှင့် တာဝန်ခံချက်များ စိစစ်ရေးကော်မတီ

### ရေးရာကော်မတီ

၁။ နိုင်ငံတကာဆက်ဆံရေး၊ လွှတ်တော်ချင်း ချစ်ကြည်ရေးနှင့် ပူးပေါင်းဆောင်ရွက်ရေး ကော်မတီ
၂။ အစိုးရမဟုတ်သော ပြည်တွင်းပြည်ပ အဖွဲ့စည်းများဆိုင်ရာကော်မတီ
၃။ ကျန်းမာရေး၊ အားကစားနှင့် ယဉ်ကျေးမှုဆိုင်ရာကော်မတီ

၄။ တိုင်းရင်းသားရေးရာကော်မတီ
၅။ တောင်သူလယ်သမားရေးရာကော်မတီ
၆။ အမျိုးသမီးနှင့် ကလေးသူငယ်အခွင့်အရေးဆိုင်ရာကော်မတီ
၇။ ပညာရေးမြှင့်တင်မှုကော်မတီ
၈။ ပြည်တွင်းပြည်ပ အလုပ်သမားဆိုင်ရာကော်မတီ
၉။ နိုင်ငံသားများ၏ မူလအခွင့်အရေး၊ ဒီမိုကရေစီအရေးနှင့် လူ့အခွင့်အရေး ဆိုင်ရာကော်မတီ
၁၀။ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာကော်မတီ
၁၁။ ပြည်သူတို့၏ တိုင်ကြားစာဆိုင်ရာကော်မတီ
၁၂။ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ရေလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကော်မတီ

**အသင်း/အဖွဲ့**

၁။ မြန်မာ-ဗီယက်နမ် လွှတ်တော်ချင်း ချစ်ကြည်ရင်းနှီးရေးအသင်း
၂။ မြန်မာ-လာအို လွှတ်တော်ချင်း ချစ်ကြည်ရင်းနှီးရေးအသင်း
၃။ မြန်မာ-ထိုင်း လွှတ်တော်ချင်း ချစ်ကြည်ရင်းနှီးရေးအသင်း
၄။ မြန်မာ-ဂျပန် လွှတ်တော်ချင်း ချစ်ကြည်ရင်းနှီးရေးအသင်း
၅။ မြန်မာ-စင်ကာပူ လွှတ်တော်ချင်း ချစ်ကြည်ရင်းနှီးရေးအသင်း
၆။ မြန်မာ-မလေးရှား လွှတ်တော်ချင်း ချစ်ကြည်ရင်းနှီးရေးအသင်း
၇။ မြန်မာ-ဩစတြေးလျ လွှတ်တော်ချင်း ချစ်ကြည်ရင်းနှီးရေးအသင်း
၈။ မြန်မာ-ကိုရီးယား လွှတ်တော်ချင်း ချစ်ကြည်ရင်းနှီးရေးအသင်း
၉။ မြန်မာ-တရုတ် လွှတ်တော်ချင်း ချစ်ကြည်ရင်းနှီးရေးအသင်း
၁၀။ မြန်မာ-အင်ဒိုနီးရှား လွှတ်တော်ချင်းချစ်ကြည်ရင်းနှီးရေးအသင်း
၁၁။ မြန်မာ-ဖိလစ်ပိုင် လွှတ်တော်ချင်းချစ်ကြည်ရင်းနှီးရေးအသင်း
၁၂။ မြန်မာ-ကမ္ဘောဒီးယား လွှတ်တော်ချင်း ချစ်ကြည်ရင်းနှီးရေးအသင်း
၁၃။ မြန်မာ-ပြင်သစ် လွှတ်တော်ချင်း ချစ်ကြည်ရင်းနှီးရေးအသင်း
၁၄။ မြန်မာ-ဘရူနိုင်း လွှတ်တော်ချင်း ချစ်ကြည်ရင်းနှီးရေးအသင်း
၁၅။ မြန်မာ-လပ်ဗီးယား လွှတ်တော်ချင်း ချစ်ကြည်ရင်းနှီးရေးအသင်း
၁၆။ မြန်မာ-ပိုလန် လွှတ်တော်ချင်း ချစ်ကြည်ရင်းနှီးရေးအသင်း
၁၇။ မြန်မာ-ဘယ်လာရုစ် လွှတ်တော်ချင်း ချစ်ကြည်ရင်းနှီးရေးအသင်း

## အမျိုးသားကာကွယ်ရေးနှင့် လုံခြုံရေးကောင်စီ (၃၀-၃-၂၀၁၆)

| | | |
|---|---|---|
| ၁။ | ဦးထင်ကျော် | နိုင်ငံတော်သမ္မတ |
| ၂။ | ဦးမြင့်ဆွေ | ဒုတိယသမ္မတ |
| ၃။ | ဦးဟင်နရီဗန်ထီးယူ | ဒုတိယသမ္မတ |
| ၄။ | ဦးဝင်းမြင့် | ဥက္ကဋ္ဌ၊ ပြည်သူ့လွှတ်တော် |
| ၅။ | မန်းဝင်းခိုင်သန်း | ဥက္ကဋ္ဌ၊ အမျိုးသားလွှတ်တော် |
| ၆။ | ဗိုလ်ချုပ်မှူးကြီးမင်းအောင်လှိုင် | တပ်မတော်ကာကွယ်ရေးဦးစီးချုပ် |
| ၇။ | ဒုတိယဗိုလ်ချုပ်မှူးကြီးစိုးဝင်း | ဒုတိယတပ်မတော်ကာကွယ်ရေး ဦးစီးချုပ် |
| ၈။ | ဒေါ်အောင်ဆန်းစုကြည် | ပြည်ထောင်စုဝန်ကြီး နိုင်ငံခြားရေးဝန်ကြီးဌာန |
| ၉။ | ဒုတိယဗိုလ်ချုပ်ကြီးကျော်ဆွေ | ပြည်ထောင်စုဝန်ကြီး ပြည်ထဲရေးဝန်ကြီးဌာန |
| ၁၀။ | ဒုတိယဗိုလ်ချုပ်ကြီးစိန်ဝင်း | ပြည်ထောင်စုဝန်ကြီး ကာကွယ်ရေးဝန်ကြီးဌာန |
| ၁၁။ | ဒုတိယဗိုလ်ချုပ်ကြီးရဲအောင် | ပြည်ထောင်စုဝန်ကြီး နယ်စပ်ရေးရာဝန်ကြီးဌာန |

## ဘဏ္ဍာရေးကော်မရှင် (၅-၄-၂၀၁၆)

| | | |
|---|---|---|
| ၁။ | ဦးထင်ကျော်<br>နိုင်ငံတော်သမ္မတ | ဥက္ကဋ္ဌ |
| ၂။ | ဦးမြင့်ဆွေ<br>ဒုတိယသမ္မတ (၁) | ဒုတိယဥက္ကဋ္ဌ |
| ၃။ | ဦးဟင်နရီဗန်ထီးယူ<br>ဒုတိယသမ္မတ (၂) | ဒုတိယဥက္ကဋ္ဌ |
| ၄။ | ဦးထွန်းထွန်းဦး<br>ပြည်ထောင်စုရှေ့နေချုပ် | အဖွဲ့ဝင် |
| ၅။ | ဦးမော်သန်း<br>ပြည်ထောင်စုစာရင်းစစ်ချုပ် | အဖွဲ့ဝင် |
| ၆။ | ဒေါက်တာခက်အောင်<br>ဝန်ကြီးချုပ်၊ ကချင်ပြည်နယ် | အဖွဲ့ဝင် |
| ၇။ | ဦးအယ်လ်ဖောင်းရှို<br>ဝန်ကြီးချုပ်၊ ကယားပြည်နယ် | အဖွဲ့ဝင် |
| ၈။ | ဒေါ်နန်းခင်ထွေးမြင့်<br>ဝန်ကြီးချုပ်၊ ကရင်ပြည်နယ် | အဖွဲ့ဝင် |
| ၉။ | ဦးဆလိုင်းလျန်လွယ်<br>ဝန်ကြီးချုပ်၊ ချင်းပြည်နယ် | အဖွဲ့ဝင် |
| ၁၀။ | ဒေါက်တာအေးဇံ<br>ဝန်ကြီးချုပ်၊ မွန်ပြည်နယ် | အဖွဲ့ဝင် |
| ၁၁။ | ဦးညီပု<br>ဝန်ကြီးချုပ်၊ ရခိုင်ပြည်နယ် | အဖွဲ့ဝင် |
| ၁၂။ | ဒေါက်တာလင်းထွဋ်<br>ဝန်ကြီးချုပ်၊ ရှမ်းပြည်နယ် | အဖွဲ့ဝင် |

၁၃။ ဒေါက်တာမြင့်နိုင် အဖွဲ့ဝင်
ဝန်ကြီးချုပ်၊ စစ်ကိုင်းတိုင်းဒေသကြီး

၁၄။ ဒေါက်တာအောင်မိုးညို အဖွဲ့ဝင်
ဝန်ကြီးချုပ်၊ မကွေးတိုင်းဒေသကြီး

၁၅။ ဒေါက်တာဇော်မြင့်မောင် အဖွဲ့ဝင်
ဝန်ကြီးချုပ်၊ မန္တလေးတိုင်းဒေသကြီး

၁၆။ ဦးဝင်းသိန်း အဖွဲ့ဝင်
ဝန်ကြီးချုပ်၊ ပဲခူးတိုင်းဒေသကြီး

၁၇။ ဒေါက်တာလဲ့လဲ့မော် အဖွဲ့ဝင်
ဝန်ကြီးချုပ်၊ တနင်္သာရီတိုင်းဒေသကြီး

၁၈။ ဦးဖြိုးမင်းသိန်း အဖွဲ့ဝင်
ဝန်ကြီးချုပ်၊ ရန်ကုန်တိုင်းဒေသကြီး

၁၉။ ဦးမန်းဂျော်နီ အဖွဲ့ဝင်
ဝန်ကြီးချုပ်၊ ဧရာဝတီတိုင်းဒေသကြီး

၂၀။ ဒေါက်တာမျိုးအောင် အဖွဲ့ဝင်
ဥက္ကဋ္ဌ၊ နေပြည်တော်ကောင်စီ

၂၁။ ဦးကျော်ဝင်း၊ ပြည်ထောင်စုဝန်ကြီး အတွင်းရေးမှူး
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

# မြန်မာနိုင်ငံ အမျိုးသားလူ့အခွင့်အရေးကော်မရှင် (၂၄-၉-၂၀၁၅)

၁။ ဦးဝင်းမြ — ဥက္ကဋ္ဌ
သံအမတ်ကြီး(အငြိမ်းစား)
နိုင်ငံခြားရေးဝန်ကြီးဌာန

၂။ ဦးစစ်မြိုင် — ဒုတိယဥက္ကဋ္ဌ
ညွှန်ကြားရေးမှူးချုပ်(အငြိမ်းစား)
လူမှုဝန်ထမ်းဦးစီးဌာန

၃။ ဦးယုလွင်အောင် — အဖွဲ့ဝင်
ဥက္ကဋ္ဌ (အငြိမ်းစား)
လူမှုဖူလုံရေးအဖွဲ့

၄။ ဦးညွန့်ဆွေ — အဖွဲ့ဝင်
ဒုတိယညွှန်ကြားရေးမှူးချုပ်(အငြိမ်းစား)
နိုင်ငံခြားရေးဝန်ကြီးဌာန

၅။ ဒေါက်တာမြင့်ကြည် — အဖွဲ့ဝင်
ပါမောက္ခ(အငြိမ်းစား)
ထေရဝါဒဗုဒ္ဓတက္ကသိုလ်

၆။ ဦးခင်မောင်လေး — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး(အငြိမ်းစား)
အလုပ်သမားညွှန်ကြားမှုဦးစီးဌာန

၇။ ဦးစိုးဖုန်းမြင့် — အဖွဲ့ဝင်
ဥပဒေပညာရှင်

## နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး (၃၀-၃-၂၀၁၆)

| | | |
|---|---|---|
| ၁။ | ဦးမျိုးညွန့် | ဥက္ကဋ္ဌ |
| ၂။ | ဦးညီညီ | အဖွဲ့ဝင် |
| ၃။ | ဦးမြင့်ဝင်း | အဖွဲ့ဝင် |
| ၄။ | ဦးမျိုးမြင့် | အဖွဲ့ဝင် |
| ၅။ | ဦးခင်မောင်ချို | အဖွဲ့ဝင် |
| ၆။ | ဒေါ်ခင်ငွေးကြွယ် | အဖွဲ့ဝင် |
| ၇။ | ဦးတွာလ်ကျင်ပေါင် | အဖွဲ့ဝင် |
| ၈။ | ဒေါ်လှမျိုးနွယ် | အဖွဲ့ဝင် |
| ၉။ | ဦးကျော်ဆန်း | အဖွဲ့ဝင် |

## ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင် (၁၄-၆-၂၀၁၇ အထိ)

| | | |
|---|---|---|
| ၁။ | ဦးလှသိန်း | ဥက္ကဋ္ဌ |
| ၂။ | ဦးအောင်မြင့် | အဖွဲ့ဝင် |
| ၃။ | ဦးစိုးရယ် | အဖွဲ့ဝင် |
| ၄။ | ဦးထွန်းခင် | အဖွဲ့ဝင် |
| ၅။ | ဦးလှတင့် | အဖွဲ့ဝင် |
| ၆။ | ဦးမြင့်နိုင် | အဖွဲ့ဝင် |
| ၇။ | ဦးသန်းငွေး | အဖွဲ့ဝင် |

## ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးများ (၁၄-၆-၂၀၁၇)

၁။ ဦးမြဟန်
၂။ ဦးမျိုးတင့်
၃။ ဦးစိုးနိုင်
၄။ ဦးခင်မောင်ကြည်

## ကျေးလက်ဒေသဖွံ့ဖြိုးရေး လုပ်ငန်းစဉ်(၅)ရပ်

၁။ ကျေးလက်ဒေသ လမ်းပန်းဆက်သွယ်မှုကောင်းမွန်ရေး။
၂။ ကျေးလက်ဒေသ သောက်သုံးရေဖူလုံစွာ ရရှိရေး။
၃။ ကျေးလက်နေပြည်သူများ၏ ပညာရေးအဆင့်အတန်းမြင့်မားရေး။
၄။ ကျေးလက်နေပြည်သူများ၏ ကျန်းမာရေးအဆင့်အတန်းမြင့်မားရေး။
၅။ ကျေးလက်ဒေသ စီးပွားဖွံ့ဖြိုးတိုးတက်ရေး။

## ကျေးလက်ဒေသဖွံ့ဖြိုးရေးနှင့် ဆင်းရဲနွမ်းပါးမှုလျှော့ချရေး လုပ်ငန်းစဉ် (၈)ရပ်

၁။ လယ်ယာကုန်ထုတ်လုပ်မှု ဖွံ့ဖြိုးတိုးတက်ရေး
၂။ သားငါးထုတ်လုပ်မှုနှင့် ကျေးလက်လူမှုစီးပွားဖွံ့ဖြိုးတိုးတက်ရေး
၃။ ကျေးလက်ဒေသ အသေးစားကုန်ထုတ်လုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေး
၄။ အသေးစားပုဂ္ဂလိက ငွေစုငွေချေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေး
၅။ သမဝါယမလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေး
၆။ ကျေးလက်စွမ်းအင် ဖွံ့ဖြိုးတိုးတက်ရေး
၇။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး
၈။ စာရင်းအင်းအချက်အလက်များ ကောက်ယူစုဆောင်းရေးနှင့် စိစစ်အကဲဖြတ်ရေး

## ကျေးလက်လူမှုစီးပွားဖွံ့ဖြိုးတိုးတက်ရေး လုပ်ငန်းနယ်ပယ်(၆)ရပ်

၁။ ပညာရေး
၂။ ကျန်းမာရေး
၃။ လူ့စွမ်းအားအရင်းအမြစ် ဖွံ့ဖြိုးတိုးတက်ရေး
၄။ လမ်းပန်းဆက်သွယ်ရေး
၅။ ဆက်သွယ်ရေး
၆။ သန့်ရှင်းသော သောက်သုံးရေရရှိရေး

# မြန်မာနှင့် နိုင်ငံတကာဆက်ဆံရေး (၂၀၁၆ ခုနှစ်)

## မြန်မာ-တရုတ်ဆက်ဆံရေး

### မြန်မာနိုင်ငံမှ သွားရောက်မှု

| စဉ် | ရက်စွဲ | သွားရောက်မှု |
| --- | --- | --- |
| ၁။ | ၁၈-၈-၂၀၁၆ | နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည်အား တရုတ်နိုင်ငံ နိုင်ငံတော်ကောင်စီဝန်ကြီးချုပ် မစ္စတာ လီခချန်းက ဂုဏ်ပြုကြိုဆို။ |
| ၂။ | ၁၉-၁၀-၂၀၁၆ | နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည်နှင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံ သမ္မတ ရှီကျင့်ဖျင်တို့ တွေ့ဆုံ။ |

### တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ လာရောက်မှု

| စဉ် | ရက်စွဲ | လာရောက်မှု |
| --- | --- | --- |
| ၁။ | ၉-၇-၂၀၁၆ | နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် တရုတ်ပြည်သူ့သမ္မတနိုင်ငံ နိုင်ငံတော်လုံခြုံရေးဝန်ကြီးအား လက်ခံတွေ့ဆုံ။ |
| ၂။ | ၁၂-၈-၂၀၁၆ | နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည် တရုတ်ကွန်မြူနစ်ပါတီ နိုင်ငံတကာဆက်ဆံရေးဝန်ကြီးနှင့်အဖွဲ့အား လက်ခံတွေ့ဆုံ။ |
| ၃။ | ၁၀-၉-၂၀၁၆ | နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒေါ်အောင်ဆန်းစုကြည်သည် တရုတ်ပြည်သူ့သမ္မတနိုင်ငံ ဗဟိုကော်မရှင် ဒုတိယဥက္ကဋ္ဌနှင့်အဖွဲ့အား လက်ခံတွေ့ဆုံ။ |
| ၄။ | ၂၂-၁၂-၂၀၁၆ | နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ် ဒေါ်အောင်ဆန်းစုကြည် တရုတ်ပြည်သူ့သမ္မတနိုင်ငံ သံအမတ်ကြီး မစ္စတာဟုန်လျန်အဖွဲ့နှင့်အတူ ဗြိတိန်နိုင်ငံ သံအမတ်ကြီးအား သီးခြားလက်ခံတွေ့ဆုံ။ |

------------------

